


သက်တော်ရှည် တောင်ပေါ်တန်း ဆရာတော်ကြီးများ ဩဝါဒခံ

# လူ့ဘုံ၊ လူ့ဘဝ၊ လူ့လောကနှင့်

# ရဝဘုံ

## ခရီးသွားများ

(ပုံတော်စုံ၊ ရုပ်စုံ)

တတိယအကြိမ်

စာပေရဲရင့် စာတည်းဖွဲ့မှ စုဆောင်းပြုစုသည်။

## အနိုင်းမဲ့ချမ်းသာခြင်း

ဗုဒ္ဓေါမေ သရဏံ အညံ နတ္ထိ၊
ဓမ္မောမေ သရဏံ အညံ နတ္ထိ၊
သံဃောမေ သရဏံ အညံ နတ္ထိ၊

* **ဗုဒ္ဓေါမေ သရဏံ အညံ နတ္ထိ**
  ဘုရားမှတစ်ပါး အားကိုးရာ မရှိပါဘုရား။
* **ဓမ္မောမေ သရဏံ အညံ နတ္ထိ**
  တရားမှတစ်ပါး အားကိုးရာမရှိပါဘုရား။
* **သံဃောမေ သရဏံ အညံ နတ္ထိ**
  သံဃာမှတစ်ပါး အားကိုးရာမရှိပါဘုရား။

* * *

ဗုဒ္ဓဘာသာဝင်ဆိုသည်မှာ မြတ်စွာဘုရားဟောကြားဆုံးမတော်မူအပ်သော တရားဒေသနာတော်အတိုင်း အပြည့်အဝ သက်ဝင်ယုံကြည်မှုဖြင့် လိုက်နာကျင့်သုံးနေထိုင်သူဖြစ်သည်။

ဗုဒ္ဓဘာသာဝင်ဆိုသည်မှာ 'ဘုရား၊ တရား၊ သံဃာ' ဟူသည့် ရတနာသုံးပါးအား သက်ဝင်ယုံကြည်သူဟု အဓိပ္ပာယ်ရ၏။

ရတနာမြတ်သုံးပါးတွင်...

မြတ်စွာဘုရားတည်းဟူသော ဗုဒ္ဓရတနာသည် ကိုးကွယ်ဆည်းကပ်သူ၏အကျိုးကို သယ်ဆောင်၍ အကျိုးမဲ့ပျက်စီးဆင်းရဲရမည့်ဘေးမှ ကယ်တင်တော်မူသောကြောင့် ကိုးကွယ်စရာ တွယ်စရာ 'သရဏ' မည်၏။

တရားတည်းဟူသော ဓမ္မရတနာသည် ကိုးကွယ်ဆည်းကပ်သူတို့ကို ဘဝတည်းဟူသော ကန္တာရ၊ အဖန်တလဲလဲဖြစ်ရခြင်းဟူသည့် သံသရာမှ ထုတ်ဆောင်ကယ်မ၊ သက်သာရာရစေသောကြောင့် အားကိုးစရာ၊ တွယ်တာစရာ 'သရဏ' မည်၏။

သံဃာတည်းဟူသော သံဃာရတနာသည် ဆည်းကပ်ပူဇော်သူတို့ကို အနည်းငယ်သော ပူဇော်ဖွယ်ဖြင့် ကြီးကျယ်ဖွံ့ဖြိုးသည့်အကျိုးကို ရစေတော်မူသောကြောင့် အားကိုးစရာ တွယ်တာစရာ 'သရဏ' မည်၏။

ဘုရား၊ တရား၊ သံဃာ ရတနာမြတ်သုံးပါးသည် ယုံကြည်ကိုးကွယ်ဆည်းကပ်သူလူဟူသမျှတို့၏ ကြောက်ခြင်း၊ ထိတ်လန့်ခြင်း၊ ကိုယ်စိတ်ဆင်းရဲခြင်း၊ အပါယ်ဘုမ္မိဒုဂ္ဂတိဌ် ညစ်နွမ်းပင်ပန်းဆင်းရဲခြင်းအမျိုးမျိုးတို့အား ပယ်ဖျက်ပေးတတ်သောကြောင့် ကိုးကွယ်ဆည်းကပ်သူတို့၏ အားကိုးစရာ၊ တွယ်တာစရာ 'သရဏ' မည်ပါသည်။

ထို့ကြောင့် ရတနာမြတ်သုံးပါးအား ဆည်းကပ်ပူဇော်အားထားကိုးကွယ်ခြင်းသည် လောကီ၊ လောကုတ္တရာနှစ်ဖြာအကျိုးကို ဖြစ်စေ၏။ 'သရဏ' တည်သူဖြစ်သဖြင့် အနိုင်းမဲ့ချမ်းသာခြင်းအားလည်းကောင်း၊ အောင်မြင်ခြင်းအားလည်းကောင်း ရစေသည်တည်း။

## လှူ့ရှာအလှူ

* အလှူပေးကာ ငရဲရှာ၊ လှူ့ရှာ အလှူတစ်မျိုး။
* အလှူပေးကာ၊ စီးပွားရှာ၊ လှူ့ရှာ အလှူတစ်မျိုး။
* အလှူပေးကာ ဝဋ်ကျိုးရှာ၊ လှူ့ရှာအလှူတစ်မျိုး။
* အလှူပေးကာ နိဗ္ဗာန်ရှာ၊ လှူ့ရှာအလှူတစ်မျိုး။
* ဤလေးမျိုးတွင် ကြိုက်ရာဖြင့် အသင် လက်ညှိုးထိုး။
* သီလဖြူစင်၊ အလှူရှင်
  လူတွင်ဖြစ်ရ၊ ရတော်စွ။

(သာဒက္ခိဏ ဒါယကာတော၊ ဝိသုဇ္ဈာတိ)

သီလလေးတန်၊ ဖြူဝင်းလျှံ
လူကံတွေ့ရ၊ ရတော်စွ။

(သာဒက္ခိဏ၊ ပဋိဂ္ဂါဟကတော ဝိသုဇ္ဈတိ)

လှူပေးလှူခံ၊ နှစ်တန်ဖြူစင်
အလှူဝတ္ထု၊ စင်ကြယ်မှု
သုံးခုစုံမှ ရတော်စွ။

(ဏ ဝေဒါန် ဝိပုလပ္ပ လန္တိဖြူမိ)
(ဦးမာနိတ သိရီဘိဝံသ ဆုံးမစာ)

ပထမအကြိမ်၊ စာပေရဲရင့်စာပေ၊ စက်တင်ဘာလ၊ ၂၀၁၃ ခုနှစ်၊

**အုပ်ရေ - ၁၀၀၀**

မြင့်မြတ်ပုံနှိပ်တိုက် မြဲ(၁၁၄၃၀)၊ ၁၆(ဘီ)၊ ကြာညိုလမ်း
၅ ရပ်ကွက်၊ ပုဇွန်တောင်မြို့နယ်၊ ရန်ကုန်

- ပပစိုး

၇၀၀၀ ကျပ်

(ဦးသန်းမြင့်) လင်းလင်းစာပေ၊ အမှတ်(၄/၂၉)၊
မြဝတီမင်းကြီးလမ်း၊ ၁၀ မိုင်ကုန်း၊ အင်းစိန်၊ ရန်ကုန်မြို့။

**ထုတ်ဝေသည့်စာအုပ်ကက်တလောက်အညွှန်း CIP**

စာပေရဲရင့်စာတည်းအဖွဲ့
၃၁ ဘုံ ခရီးသွားများ
ရန်ကုန်၊ လင်းလင်းစာပေ (၂၀၁၃)
၂၉၆ - စာ၊ ၁၉ × ၂၆ စင်တီ
(၁) ၃၁ ဘုံ ခရီးသွားများ

# နှင့်

# (၃၁) ဘုံ ခရီးသွားများ

စာပေရဲရင့် စာတည်းအဖွဲ့မှ
ပြုစုရေးသားသည်။

# မာတိကာ

အပိုင်း (၃)

တိရစ္ဆာန်



အပိုင်း (၄)

ပြိတ္တာ



အပိုင်း (၅)

အသူရကာယ်



အပိုင်း (၆)

နတ်ဘုံ

## အပိုင်း (၇)
## ဗြဟ္မာဘုံ



## အပိုင်း (၈)
## မြတ်ဗုဒ္ဓ၏ဝိပါက်တော်

## အပိုင်း (၉)
## ဒေါသ ငြိမ်းပယ်နည်းများ





## ၃၁ ဘုံစက်ဝန်းနှင့် စာတည်းအဖွဲ့၏နိဒါန်း

၁။

စာပေရဲရင့်စာတည်းအဖွဲ့အား (၃၁) ဘုံအကြောင်း စာတစ်အုပ်ပြုစုရန် တာဝန်ပေးလာတော့ စာတည်းအဖွဲ့အနေနှင့် ကျေနပ်ပျော်ရွှင်ရသည်။

မြန်မာဗုဒ္ဓဘာသာဝင်များအဖို့ နိဗ္ဗာန်မရမီစပ်ကြား (၃၁) ဘုံကို ကင်းမရ။ ဥပေက္ခာပြုထား၍မရပါ။ အဘယ်ကြောင့်ဆိုသော် ဗုဒ္ဓဘာသာဝင် မြန်မာလူမျိုးများသည် ကံ၊ ကံ၏အကျိုးကို လက်ခံယုံကြည်ကြသည့်သူများဖြစ်သောကြောင့်တည်း။

ဗုဒ္ဓ၏မိန့်ကြားချက်တွင် ကောင်းတာလုပ်မှ ကောင်းတာဖြစ်မည်ဟု တွေ့ရ၏။ အကောင်းသည် အဘယ်နည်း။

၂။

ဗုဒ္ဓဘာသာဝင် မြန်မာလူမျိုးတို့သည် ကုသိုလ်၊ အကုသိုလ်မျိုးပေါ်တွင် ရပ်နေသောသူများ ဖြစ်သည်။ တစ်ခါတစ်ရံ ကုသိုလ်ဟု မှတ်ယူထားပြီး အကုသိုလ်ဖြစ်နေသည်လည်း ရှိသည်။

အကုသိုလ်ဟုထင်ပြီးရှောင်ရင်း၊ ကုသိုလ်နှင့် ဝေးခဲ့ရသူတွေလည်း ရှိ၏။

၃၁ ဘုံတွင် အထက်ဘုံများ၊ အောက်ဘုံများရှိသကဲ့သို့ အဓိကအားဖြင့် လူ့ဘုံသည် အရေးပါသည့်ဘုံ ဖြစ်၏။ အထက်ဘုံ၊ အောက်ဘုံများသို့ သွားနိုင်သည့်လမ်းဆုံလမ်းခွလည်း ဖြစ်၏။

လူသည် ကိုယ်စိတ်နှလုံး သုံးပါးအနက် တစ်ပါးပါး တိမ်းချော်လျှင် အပါယ်လေးဘုံဟု ခေါ်သည့် ငရဲ၊ ပြိတ္တာ၊ တိရစ္ဆာန်၊ အသူရကာယ်ဘုံသို့ ရောက်သွားနိုင်၏။

သို့နှယ်ပင် ကာမဘုံအာရုံ ခံစားမှုများစွာနှင့် သာယာပျော်ရွှင်ဖွယ်ဟု ဆိုနိုင်သည့် အထက်ဘုံ (နတ်ဘုံ) သို့ ရောက်သွားနိုင်၏။

သို့သော် တကယ် စဉ်းစားကြည့်လျှင် လူ့ဘုံသည် အကောင်းဆုံးဘုံ ဖြစ်၏။ အရာရာသော အောင်မြင်မှု၊ ကျဆုံးမှုများနှင့် ဖွဲ့သီထားသည့်ဘုံ ဖြစ်သည်။

ခေတ်စကားနှင့်ပြောရလျှင် လူ့ဘုံသည် ဗွီအိုင်ပီဘုံ ဖြစ်သည်။

ထို့ကြောင့် စာတည်းအဖွဲ့သည် စာဖတ်ပရိသတ်အကျိုးမျှော်ကိုး၍ (၃၁) ဘုံ ခရီးသွားများအကြောင်း ပြုစုရေးသားရာတွင် အထက်ဘုံ၏ သာယာနာပျော်မှုများ ရေးဖွဲ့ပြသလို အောက်ဘုံ (အပါယ်လေးဘုံ) ၏ စိုးရွံ့ကြောက်လန့်ဖွယ်များကိုလည်း ရေးပြခဲ့သည်။

သို့သော် စာတည်းအဖွဲ့သည် ငရဲနှင့်မခြောက်သကဲ့သို့ နိဗ္ဗာန်နှင့်လည်း မမြှောက်ပါ။

အဓိကအားဖြင့် ရောက်လိုရာကို ရောက်နိုင်သည့် အဓိကအရေးကြီးသည့် လူ့ဘုံအကြောင်းနှင့် လူထူးလူချွန် လူကောင်းလူမြတ်ဘဝ မည်သို့ ဖန်တီးရယူမည်ကို အဓိကထားရေးခဲ့သည်။

၃။

သင်သည် နိဗ္ဗာန်မရမီစပ်ကြား ကျိန်းသေကာ ၃၁ ဘုံတွင် ကျင်လည်ဦးမည်။ လူတစ်ဦး သေဆုံးခဲ့လျှင် ကိန်းသေဘုံတစ်ခုသို့ ရောက်မည်။

သင် သွားရမည့်၊ ရောက်ရှိရမည့်ဘုံသည် သင်၏လုပ်ရပ်၊ သင်၏ကျင့်ကြံအားထုတ်မှုအတိုင်းဖြစ်မည်ဖြစ်သည်။

ဤစာအုပ်သည် ၃၁ ဘုံ ဝဲဩဃတွင်း၌ သင် မည်သို့ခရီးဆက်ရမည်၊ ရပ်တည်နိုင်မည်ကို သင် ဖန်တီးနိုင်ရန် လမ်းညွှန်ချက်ဖြစ်၏။ အကြံပြုချက်လည်းမည်၏။

သင့်အနာဂတ်အတွက် သင် အရေးကြီးပါသည်။

အကုသိုလ်ကင်းဝေးရန် ကုသိုလ်နှင့် ဆေးကြောကြပါစို့။ အပါယ်လေးဘုံနှင့် ကင်းဝေးပါစေ...

**စာဖတ်သူများရဲ့**
**စာပေရဲရင့်စာတည်းအဖွဲ့**



မိမိသည်သာလျှင်

မိမိ၏ကိုးကွယ်ရာ ဖြစ်သည်။

သူတစ်ပါးသည် မိမိ၏ကိုးကွယ်အားထားရာ

အဘယ်မှာ ဖြစ်မည်နည်း။

မိမိကိုယ်ကို ကောင်းစွာဆုံးမခြင်းဖြင့်

ရခဲသော "နိဗ္ဗာန်"တည်းဟူသော

ကိုးကွယ်ရာကို ရလေ၏။

# အပိုင်း (၁)

# မြတ်သော လူ့ဘုံ၊ လူ့ဘဝ

## လူ့ဘဝရဖို့ မလွယ်ဘူး၊ လူ့ဘဝရမှ လိုရာရမယ်

လူတို့အနေနှင့် အရာရာလွယ်လွယ်တွေးကြသဖြင့်သာ လူ့ဘုံ၊ လူ့လောက၏ အနှစ်သာရအား နားမလည်ကြခြင်း ဖြစ်သည်။ အသေအချာ စဉ်းစားတွေးတောမည်ဆိုလျှင် လူ့ဘုံ၊ လူ့လောကသည် ရခဲလှသည့်ဘုံဘဝ ဖြစ်သည်။

စင်စစ် လူ့ဘုံ၊ လူ့လောကသည် ရခဲလှသည့်ဘုံဘဝ ဖြစ်၏။ သို့နှယ်ပင် လူ့ဘုံ၊ လူ့ဘဝ၌ လူတော်လူကောင်းဖြစ်ရန်က ပို၍ခက်သည်ဟု ဆိုရမည်။

လူ့ဘုံ၊ လူ့ဘဝသည် ရခဲလှသည့်ဘဝဖြစ်သဖြင့် လူ့ဘုံ၊ လူ့ဘဝ၌ လူဖြစ်ရကျိုးနပ်လေအောင် ကြိုးစားသင့်၏။

လူတစ်ယောက်အဖို့ ပခုံးနှစ်ဖက်ကြား ခေါင်းပေါက်နေရုံနှင့် လူမဟုတ်သေး။ လူ့ဘုံ၊ လူ့ဘဝ၌ လူဖြစ်ပြီး လူပီသမှုမရှိလျှင်ကား ရှက်ဖွယ်ဖြစ်သည်။

အချို့က လူ့ဘုံ၊ လူ့ဘဝရဖို့ မခက်ဟု ဆိုကြသည်။ လူသေလျှင် လူဖြစ်ဟု လွယ်လွယ်ဆိုကြသည်။ စင်စစ် လူသေ လူဖြစ်သည့်စကားအရဆိုခြင်းသာ။ လူ့ဘဝ လူပီသရန် ခက်ခဲလှ၏။

သဘာဝယုတ္တိကျကျ ပြောကြစတမ်းဆိုလျှင် လူ့ဘုံလူ့ဘဝရရန်ကား ခက်ခဲလှသည်။ လူ့ဘဝရခဲ့သော်လည်း ထိုသူသည် ကိုယ်ကျင့်မတည်ကြည်သူ၊ သူတော်ကောင်းကျင့်စဉ်နှင့် မညီညွတ်သူသည် လူဖြစ်သော်လည်း လူ မပီသပေ။

သူ၏ တမလွန်ဘဝသည် ငရဲရောက်လျှင်ရောက်မည်။ အပါယ်ကျလျှင်ကျမည်။ သို့မဟုတ် တိရစ္ဆာန်ဖြစ်ကောင်းဖြစ်မည်။

ဆိုပါစို့...

လူ့ဘုံသို့ရောက်ခဲ့သော်လည်း ထိုသူသည် ကိုယ်ကျင့်မတည်ကြည်မှု သူတော်ကောင်း အကျင့်ကို မကျင့်သူဖြစ်သည်။

သရဏဂုံ လွှမ်းခြုံသူမဟုတ်။

ကံငါးပါးဖောက်ဖျက်ကျူးမလွန်သူ ဖြစ်သည်။

ထိုသူသည် လူဖြစ်ရကျိုးမနပ်သူ ဖြစ်သည်။ မျက်မှောက်ဘဝတွင်လည်း ကောင်းကျိုး မရှိသလို တမလွန်တွင်လည်း မည်သို့လျှင် ကောင်းမည်နည်း။



## လူ့ဘာဝရဖို့မလွယ်

မသည့်နည်းနှင့်မျှ လူ့ဘုံ၊ လူ့လောကအား လွယ်လွယ်မရနိုင်။

လူ့ဘုံလူ့ဘာဝရရှိခြင်းနှင့်ပတ်သက်၍ လူကြီးသူမတို့၏စကားသည် မှတ်သားဖွယ် ဖြစ်၏။

လူ့ဘုံလူ့ဘာဝရရှိရန် ခက်ခဲခြင်းနှင့်ပတ်သက်၍-

''ဗြဟ္မာပြည်က အပ်တစ်စင်းနှင့် လူ့ပြည်က အပ်တစ်စင်းထိဖို့လိုသည့် လူ့ဘာဝ ရရန်မလွယ်'' ဟု ပြဆိုခဲ့သည်။

ထို့အတူ လူ့ဘုံလူ့ဘာဝရရှိရန် ခက်ခဲခြင်းနှင့်ပတ်သက်၍ သုံးလောကထွဋ်ထား ရှင်တော်မြတ်ဗုဒ္ဓက (ဒုခသိခသုတ္တန်)တွင် လက်သည်းပေါ်တင်ထားသည့် မြေမှုန့်နှင့်တူစွာ ပမာပြခဲ့ဖူး၏။

မြတ်ဗုဒ္ဓ၏ဟောမိန့်ချက်က ဤသို့ ဖြစ်သည်။

အခါတစ်ပါးက မြတ်ဗုဒ္ဓဘုရားရှင်သည် ဇေတဝန်ကျောင်းတော်၌ သီတင်းသုံးနေစဉ် ရဟန်းတော်များသည် မြတ်ဗုဒ္ဓ၏တရားတော်အား နာကြားရန်အလို့ငှာ စုဝေးရောက်ရှိ လာကြကုန်၏။

ယင်းသို့ ရဟန်းတော်များ စုဝေးရာသို့ မြတ်ဗုဒ္ဓကြွရောက်လာပြီး မြေကြီးပေါ်မှ မြေမှုန့်၊ သဲမှုန့်များအား ကောက်ယူကာ လက်သည်းပေါ်သို့ တင်လိုက်ပြီး စက္ခုဋ္ဌာနေ

နှင့်ကာ-

"ချစ်သားရဟန်းတို့၊ ငါ့လက်သည်းပေါ်သို့ တင်ထားသည့်မြေမှုန့်နှင့် မဟာပထဝီမြေကြီးပေါ်ရှိ မြေမှုန့်တို့သည် ဘယ်မြေမှုန့်က များသနည်း"

ဟု သိလျက်နှင့်မေး၏။

သည်အခါ ရဟန်းတော်တို့က-

"မြတ်စွာဘုရား...ဘုရားရှင်၏လက်သည်းပေါ်သို့ တင်ထားသည့် မြေမှုန်းသဲမှုန့်များသည် မဟာပထဝီမြေကြီးပေါ်၌ ရှိကြကုန်သော မြေမှုန့်တို့နှင့်နှိုင်းစာလျှင် အရေအတွက်ထဲသို့ ထည့်သွင်းမရနိုင်လောက်အောင် နည်းပါးလှပါသည် အရှင်ဘုရား။ မဟာပထဝီမြေကြီးပေါ်၌ ရှိနေသောမြေမှုန့်တို့က များပြားလှပါသည်ဘုရား"

ဟု လျှောက်ထားလျှင် မြတ်ဗုဒ္ဓက-

"ချစ်သားတို့...ဤနည်းဥပမာနှင့်တူစွာပင် လူ့ဘဝက ကွယ်လွန်ပြီး လူ့ဘဝ လူပြန်ဖြစ်ရသည့်ပုဂ္ဂိုလ်သည် ငါဘုရားလက်သည်းခွံပေါ်တွင် တင်ထားသည့် မြေမှုန်ထက်ပင် နည်းပါးလှသေးသည်"

ဟု မိန့်ကြားပြီးသကာလ လူ့ဘဝမှ ကွယ်လွန်စုတေပြီး ငရဲ၊ တိရစ္ဆာန်၊ ပြိတ္တာ၊ အသူရကာယ် မည်သည့်အပါယ်လေးဘုံသို့ ရောက်ရှိသွားကြသည့်ပုဂ္ဂိုလ်တို့သည် မြေကြီးပေါ်မှ မြေမှုန်ထက်ပင် များပြားလှကြောင်းနှင့် လူ့ဘဝရဖို့၊ လူဖြစ်ဖို့ ခဲယဉ်းကြောင်းအား ဟောဆိုညွှန်ပြခဲ့သည်။

ယင်းသို့ ဟောပြောမိန့်ဆိုပြီးနောက် မြတ်ဗုဒ္ဓက ရဟန်းတော်တို့အား-

"ချစ်သားတို့...ဤသို့ ငါဘုရားရှင် လက်သည်းပေါ်တွင် တင်ရှိနေသော မြေမှုန်လောက် နည်းပါးသည့် လူ့ဘဝအား ရရှိခိုက်၊ သာသနာလည်းရှိနေခိုက် မမေ့ကြနဲ့၊ ကျင့်ကြံအားထုတ်ကြ ချမ်းသားတို့"

ဟု မဟာကရုဏာနှင့် မိန့်ကြားခဲ့၏။

မြတ်ဗုဒ္ဓသည် လေးသင်္ချေနှင့်ကမ္ဘာတစ်သိန်းကာလပတ်လုံး ပါရမီ (၁၀) ပါးအား ပြည့်ပြည့်ဝဝ ဖြည့်ကျင့်ခဲ့ပြီး ဘုရားအဖြစ်သို့ ရောက်သောအခါတွင်လည်း မဟာကရုဏာအပြည့်နှင့် ကျွတ်သင့်ကျွတ်ထိုက်သူ ဝေနေယျသတ္တဝါအများအား တရားပြခဲ့၊ ချွတ်ခဲ့သည်။

ယင်းကဲ့သို့ပင် တရားဘာဝနာဟောပြောဆိုဆုံးမနိုင်သည့်အခါတွင်လည်း လူ့ဘဝ၌ တန်ဖိုးရှိစွာ နေထိုင်ရန် အပါယ်တံခါးပိတ်၊ နိဗ္ဗာန်ရွှေပြည် လှမ်းတက်နိုင်ရန် မမေ့ကြနဲ့၊ ကျင့်ကြံအားထုတ်ကြဟု မိန့်ကြားညွှန်ပြခဲ့၏။



## ရရန် ခဲယဉ်း၍ ကောင်းမြတ်သည့်ဘုံဘဝ

လူ့ဘုံလူ့ဘဝက ရခဲလှသည်။

ထို့ကြောင့် လူ့ဘုံလူ့ဘဝအား ပိုင်ဆိုင်ရယူခိုက် လူဖြစ်ရကျိုးနပ်ရလေအောင် ထမ်းဆောင်ကြိုးပမ်းရမည်။

အမှန်စင်စစ် လူ့ဘုံလူ့ဘဝဟူသည်ကား-

ဘုရား၊

ပစ္စေကဗုဒ္ဓ၊

ရဟန္တာရှင်မြတ်

စသည့်ပုဂ္ဂိုလ်ထူးပုဂ္ဂိုလ်မြတ်များ ကြွမြန်းရောက်ရှိတော်မူရာ ဒုက္ခခပ်သိမ်းကင်းငြိမ်းရာ နိဗ္ဗာန်ချမ်းသာအား ရရှိနိုင်သည့် ဘုံဘဝလည်း ဖြစ်သည်။

အမှန်မှာ လူတို့သည် ကုန်လွန်ခဲ့သော ဤဘဒ္ဒကမ္ဘာအချိန်ကာလပေါင်းများစွာ မရေမတွက်နိုင်လောက်အောင် လူဖြစ်ရဖူး၏။

သို့သော် လူ့ဘဝတန်ဖိုးအား သိသူ၊ တန်ဖိုးထားရစကောင်းမှန်း မသိသူများ၏။

ဆိုရချေသော် ဗုဒ္ဓမြတ်စွာ၏ တရားဒေသနာတော်များအရ ခဲယဉ်းခြင်း (၄) မျိုးအား ရရှိထား၏။ ယင်းခဲယဉ်းခြင်း (၄) မျိုးအနက် အရနိုင်ခဲဆုံးဖြစ်သည့် မဂ်ဖိုလ်နိဗ္ဗာန် ချမ်းသာခြင်းကို ရရှိနိုင်သောကြောင့် ဖြစ်ရသည်။ ဘဝပေါင်းများစွာတွင် လူ့ဘုံလူ့ဘဝသည် ကောင်းမြတ်သောဘဝဟု ဆို၏။

မြတ်ဗုဒ္ဓကိုယ်တိုင်ကလည်း မိမိတို့ရရှိထားသည့် လူ့ဘဝသည် အကောင်းဆုံး၊ အမြင့်မြတ်ဆုံးဟု မိန့်ဆို၏။

တစ်ချိန်သောအခါက ဖြစ်သည်။

ဗာရာဏသီပြည်မှ ဂင်္ဂါမြစ်သို့သွားရာလမ်းခရီးတွင် အလွန်တရာ ကြီးမား၍ အုပ်ဆိုင်းသော ကုက္ကိုပင်ကြီး (၇) ပင်ရှိ၏။ အပင်များက နေပျောက်ပင်မထိုးရလေအောင် အုပ်ဆိုင်းအေးမြလှ၏။

ထိုကုက္ကိုပင်ကြီး (၇) ပင်အနက် ကုက္ကိုတစ်ပင်အောက်၌ ဧကေလပတ္တနဂါးမင်း ရှိ၏။

တစ်နေ့သ၌ ဗုဒ္ဓမြတ်စွာသည် ထိုဧကေပတ္တနဂါးမင်းအား အကြောင်းပြု၍ ခဲယဥ်းခြင်း (၄) မျိုးအား ဟောကြားလေ၏။ ထိုဒေသနာကြောင့် တရားနာပရိသတ် ရှစ်သောင်း လေးထောင်တို့ တရားထူးတရားမြတ် ရကြလေ၏။

အပါယ်တံခါးလည်း ပိတ်သွားကြ၏။

ဗုဒ္ဓမြတ်စွာ ဟောမိန့်ကြားသည့် ခဲယဥ်းခြင်း (၄) မျိုးကား-

၁။ ကိစ္ဆော မနုဿ ပဋိလာဘော၊

လူအဖြစ်ရရန် အလွန်ခဲယဥ်း၏။

၂။ ကိစ္ဆံ၊ ပစ္စနဇီဝိတံ၊

လူတစ်ယောက် အသက်ရှင်ဖို့ရန် အလွန်ခဲယဥ်း၏။

၃။ ကစ္ဆံ သဒ္ဓမ္မဿဝနံ၊

မဂ်ဖိုလ်ရောက်ကြောင်း သူတော်ကောင်းတရားအား နာကြားဖို့ရန် အလွန် ခဲယဥ်း၏။

၄။ ကိစ္ဆော၊ ဗုဒ္ဓန၊ ပုပ္ပါဒေါ

ဘုရားပွင့်သောအခါ သာသနာနှင့်တွေ့ရန် အလွန် ခဲယဥ်း၏။

**(ဓမ္မပဒဂါထာ-၈၂)**

ထို့ကြောင့် လူတို့သည် ရရန်ခဲယဥ်းသည့် လူ့ဘဝအားရခိုက် လူ့ဘဝအား အကျိုးရှိအောင် ကြိုးစားစွမ်းဆောင်ရန် လိုအပ်၏။ သို့မှ လောကီလောကုတ္တရာနှစ်ဖြာအကျိုး ဖြစ်မည်ဖြစ်သတည်း။



## လူ့ဘုံလူ့ဘဝဟာ ပဒေသာပင်ကြီးဖြစ်တယ်၊ လူ့ဘဝရမှ လိုရာရမယ်

"ဗုဒ္ဓရဲ့တရားတော်တွေက သံသရာအတွက်လည်း မျက်စိပွင့်စေတယ်"

ဟု ကျေးဇူးတော်ရှင် မဟာဂန္ဓာရုံဆရာတော်ဘုရားကြီး အရှင်ဇနကာဘိဝံသက မိန့်ဆိုခဲ့သည်။ ထို့အတူ ဆရာတော်ဘုရားကြီးက လူ့ဘဝဟာ ပဒေသာပင်ကြီးပဲဟုလည်း မိန့်ခဲ့၏။ ဆရာတော်ဘုရားကြီး၏ နံနက်ခင်းဩဝါဒများ၌-

"အစအဆုံးမြင်သာအောင် ကြည့်တတ်ပါစေ။ ဘာတွေကြည့်သလဲဆိုရင် ကဲ့ရဲ့ အကျိုးတရားတွေနဲ့ ဘဝသံသရာအတွက် ကြည့်ရမယ်။ လူ့ဘဝဆိုတာ ပဒေသာပင်ကြီးပဲ"

ဟု ဖြစ်သည်။

"နတ်ပြည်ဆိုသည်မှာ ချမ်းသာမှုတွေ အပြည့်ရှိပေမယ့် ပါရမီဖြည့်လို့မရဘူး။ ဒါကြောင့် နတ်ပြည်က နတ်သားတစ်ဦးဦး သို့မဟုတ် နတ်သမီးတစ်ဦးဦး စုတေတော့မယ်ဆိုရင် ဘေးကထိုင်နေတဲ့ နတ်ဖော်တစ်သင်းက မှာကြားအားပေးကြတယ်။ ဒါဟာ အားပေးတရားလည်း ဖြစ်မယ်။ နတ်ပြည်မှာ တဆုံးလည်းမမှားဘူး"

"ဣတော သောသုဂတိဂစ္ဆ" တဲ့။

"အမောင်နတ်သား၊ နတ်သမီးတို့ နတ်ပြည်က စုတေရင် ကောင်းတဲ့ဘုံ၊ ကောင်းတဲ့

ဘဝဂတိ၊ ကောင်းတဲ့နေရာကို သွားပါနော်" တဲ့။

နတ်ပြည်ကနတ်သားများပြောသည့် ကောင်းတဲ့ဘုံဆိုသည်မှာ အခြားအခြားသော ဘုံဘဝများအား ပြောခြင်းမဟုတ်။ လူ့ဘုံ၊ လူ့လောကအား ပြောခြင်းသာ ဖြစ်သည်။

လူ့ဘုံဟူသည်မှာ နတ်တို့ ချီးကျူးပြောဆိုသည့်ဘုံလည်း ဖြစ်၏။ အဘယ့်ကြောင့် ဆိုသော် လူ့ဘုံ၊ လူ့ဘဝ၊ လူ့ပြည်တွင်-

၁။ သတိ မမေ့ခြင်း၊

၂။ ရဲစွမ်းသတ္တိရှိခြင်း၊

၃။ တရားကျင့်အားထုတ်ရခြင်း

စသည့် စွမ်းရည်သတ္တိများသည် လူ့၊ လူ့ဘဝ၌သာ ရရှိနိုင်၏။

စင်စစ် နတ်ဘုံဟူသည်မှာ ကာမဂုဏ်အာရုံများသော စည်းစိမ်ချမ်းသာတို့ကြောင့် ဒါနပြုရန် မသိကြ။ ကမ္မဋ္ဌာန်းဆိုသည် ဘယ်လိုမှန်းမသိကြဟု ဆရာတော်ဘုရားကြီး မိန့်ခဲ့သည်။ လူ့ဘုံ၊ လူ့ဘဝမှာက ဒါန၊ သီလ၊ သမထ၊ ဝိပဿနာ စသည်တို့အား အချိန်ကာလာ အားလျော်စွာ ပြုကျင့်၍ရသည်။

ဗုဒ္ဓကိုယ်တော်တိုင် သုမေဒါရှင်ရသေ့ဘဝမှ ပါရမီဖြည့်ကျင့်ခဲ့သလို ဗုဒ္ဓမြတ်စွာဘဝ သို့လည်း လူ့ဘဝမှ ရရှိခဲ့ခြင်းဖြစ်သည်။ စင်စစ် လူ့ဘုံ၊ လူ့ဘဝဟူသည်က လောကီ ကောင်းကျိုးကို ဖြစ်ထွန်းနိုင်သလို လောကုတ္တရာအကျိုးအတွက်လည်း ဖြစ်ထွန်းနိုင်၏။

သောတာပန်ဘဝ၊ ပုဂ္ဂိုလ်ထူးပုဂ္ဂိုလ်မြတ်ဘဝအားလည်း လူ့ဘုံလူ့ဘဝမှပင် ရနိုင်၏။

ထို့အတူ အပါယ်တံခါးပိတ်နိုင်သည့်ဘဝ၊ အရိယာဖြစ်နိုင်သည့်ဘဝကိုလည်း ရနိုင် သည်ဟု ကျေးဇူးတော်ရှင် မဟာစည်ဆရာတော်ဘုရားကြီး မိန့်ကြားခဲ့၏။ ဆရာတော် ညွှန်ပြသိကုံးခဲ့သည့် ခဲယဉ်းခြင်း (၄) မျိုးဆောင်ပုဒ်ကလည်း မှတ်သားဖွယ်ပင်။

၁။ လူတစ်ယောက်ဟာဖြစ်ဖို့ရာ လွန်စွာခဲယဉ်း၏။
ဖြစ်ခဲလှစွာ လူဆိုတာ ဖြစ်ခါနေကြပြီ။

၂။ လူတစ်ယောက် ရှင်ဖို့ရာ လွန်စွာခဲယဉ်း၏။
ရှင်ခဲလှစွာ သက်ဆိုတာ ရှင်ကာနေခဲ့ပြီ။

၃။ လူတစ်ယောက်ဟာ နာဖို့ရာ လွန်စွာခဲယဉ်း၏။
နာခဲလှစွာ တရားဟာ နာသာနေကြပြီ။

၄။ သာသနာဟာ တွေ့ဖို့ရာ လွန်စွာ ခဲယဉ်း၏။
ဆုံခဲလှစွာ ကြောင်းလေးဖြာ ဆုံသာနေခဲ့ပြီ။



## လူ့ဘုံက လူသူတော်ကောင်းကို နတ်တို့သနင်း သိကြားမင်းကအစ အလေးအမြတ်ပြုတယ်

လူ့ဘုံ၊ လူ့ဘဝမှ တရားစောင့်သောသူအား သိကြားမင်းကိုယ်တိုင် ကန်တော့ရကြောင်း ကျမ်းဂန်များက ပြဆို၏။

မြတ်ဗုဒ္ဓဟောကြားသည့် သဂါထာဝဂ္ဂသံယုတ်၊ ဂဟဋ္ဌဝန္ဒနာသုတ်တွင် လေ့လာလျှင် အောက်ပါအတိုင်း တွေ့ရမည်ဖြစ်သည်။

**ဂဟဋ္ဌဝန္ဒနာသုတ်**

ကျွန်ုပ်အာနန္ဒာသည် ဤသို့ ကြားနာခဲ့ရလေ၏။

အခါတစ်ပါး၌ ဗုဒ္ဓမြတ်စွာဘုရားသည် သာဝတ္ထိပြည်၊ အနာထပိဏ်သူဌေး ဆောက်လုပ်လှူဒါန်းခဲ့သည့် ဇေတဝန်ကျောင်းတော်၌ သတင်းသုံးနေစဉ် ဖြစ်၏။

တစ်နေ့သ၌ မြတ်စွာဘုရားသည် ရဟန်းတော်များအား ဤသို့ မိန့်တော်မူ၏။

"ချစ်သားရဟန်းတို့. . .ရှေ့ဖြစ်ခဲ့သည်ကား နတ်တို့၏အရှင် သိကြားမင်းသည် သူ၏အကူအညီဖြစ်သည့် မာတလိနတ်သားအား မိန့်၏။

"အချင်းမာတလိ...အာဇာနည်တစ်ထောင်လာသော ရထားပြင်လော၊ မြေကောင်းရာအရပ်အား ကြည့်ရှုခြင်းငှာ ဥယျာဉ်မြေသို့ သွားကုန်အံ့"

ဟု ဆို၏။

သည်အခါ မာတလိနတ်သားက-

"အရှင်သိကြားမင်း ကောင်းလှပါပြီ" ဟု ဆို၏။

ထို့နောက် မာတလိသည် သိကြားမင်း မိန့်ကြားသည့်အတိုင်း အာဇာနည်မြင်း တစ်ထောင်လာသော ရထားကို မြင်၏။

ထို့အတူ မာတလိသည် ရိုကျိုးစွာဖြင့် သိကြားမင်းအား-

"အရှင်သိကြားမင်း၊ အရှင် စေခိုင်းသည့်အတိုင်း အာဇာနည်မြင်းတစ်ထောင်လာသော ရထားကို ပြင်ပြီးပါပြီ။ သွားရန်က အရှင်သိကြားမင်း၏ဆန္ဒအတိုင်း ဖြစ်ပါသည်" ဟု လျှောက်၏။

"ကောင်းပြီ မာတလိ"

"ချစ်သားရဟန်းတို့၊ ထို့နောက် နတ်တို့အရှင် သိကြားမင်းသည် ဝေဇယန္တာနန်းပြသာဒ်မှ ဆင်းသက်လာပြီးနောက် လက်အုပ်ချီမိုးကာ အရပ်လေးမျက်နှာအား ရှိခိုးလေ၏။ ယင်းသို့ သိကြားမင်း လက်အုပ်ချီမိုး၍ အရပ်လေးမျက်နှာအား ရှိခိုးသည်ကို မာတလိ မြင်သော်-

"အရှင်သိကြားမင်း၊ အရှင်အား ဗေဒင်သုံးပုံတတ်သည့် ဗြဟ္မာတို့သည်လည်း ကောင်း၊ မင်းတို့သည်လည်းကောင်း၊ မြေပြင်၌ နေသူများသည်လည်းကောင်း၊ နတ်မင်း ကြီးလေးပါးတို့သည်လည်းကောင်း များစွာသော အခြွေအရံရှိသည့် တာဝတိံသာနတ်တို့ သည်လည်းကောင်း အရှင်သိကြားမင်းအား ရှိခိုးကြကုန်၏။

သို့ပါလျက် အရှင်သိကြားမင်းသည် ဘယ်နတ်မင်းအား ရှိခိုးနေပါသနည်း။ ဘယ် နတ်မင်း ဖြစ်ပါသနည်း"

မာတလိ၏အမေးစကားအဆုံး သိကြားမင်းက-

"အချင်းမာတလိ ဗေဒင်သုံးပုံတတ်သည့် ဗြဟ္မဏတို့သည်လည်းကောင်း၊ မြေ၌နေသူ အားလုံးတို့သည်လည်းကောင်း၊ မင်းတို့သည်လည်းကောင်း၊ နတ်မင်းကြီးလေးပါးတို့သည် လည်းကောင်း များစွာသောအခြွေအရံရှိသည့် တာဝတိံသာနတ်တို့သည်လည်းကောင်း ငါတို့ ရှိခိုးကြကုန်၏"

"အချင်းမာတလိ၊ ဤသို့ရှိပါသော်လည်း ငါသည်ကား သီလနှင့်ပြည့်စုံသော ရှည်စွာမြင့် သော ညဥ့်တို့ပတ်လုံး တည်ကြည်ခြင်းရှိကြကုန်သော မြတ်သောအကျင့်နှင့် လဲလျောင်းကြ ကုန်သော ရဟန်းတို့အား ငါ ကောင်းစွာရှိခိုး၏"

ဟု မိန့်ဆိုလျှင် မာတလိကိုယ်တိုင်လည်း အကျင့်စင်ကြယ်၍ သီလမြဲသည့် လူ၀တ်ကြောင်တို့အား ရှိခိုးလိုစိတ် ပြင်းပြလာ၏။

သို့ကြောင့် မာတလိက-

“အရှင်သိကြားမင်း၊ အကြင်သူတို့အား သင် ရှိခိုး၏။ ထိုသူတို့သည် မြင့်မြတ်သောသူများ ဖြစ်ကုန်၏။ ယင်းသို့ မြင့်မြတ်သူတို့အား သင် ရှိခိုးသလို ငါ ရှိခိုးလတ္တံ့.” ဆိုပြီး သိကြားမင်းရှိခိုးသကဲ့သို့ မာတလိနတ်သားသည်လည်း ရှိခိုး၏။

ထို့ကြောင့် လူကြီးသူမတို့က ယင်း ‘ဂဟဋ္ဌဝန္ဒနာသုတ်’တော်အား လူ၀တ်ကြောင်တို့အား ရှိခိုးသောသုတ်ဟု ပြောစမှတ်ပြု၏။



# ဘုရားပေးသည့် လူ့ဘုံဘဝ ချမ်းသာစေ
# သို့မဟုတ်
# ၃၈ ဖြာမင်္ဂလာ

လူ့ဘုံ၊ လူ့ဘဝသည် ချမ်းသာသုခနှင့်ပြည့်စုံ၏။ လူ့ဘုံလူ့ဘဝသို့ရောက်လာသည့် လောကီဘုံသားတို့အား လောကီ၊ လောကုတ္တရာနှစ်ဖြာအကျိုး ဖြစ်ထွန်းစေသည့် ကြီးပွားကြောင်းမင်္ဂလာ (၃၈) ပါးအား ညွှန်ပြ၏။

ယင်း ၃၈ ဖြာမင်္ဂလာတရားသည် လောကီ၊ လောကုတ္တရာနှစ်ဖြာအကျိုးဖြစ်သည့် လောကီချမ်းသာဖြစ်သလို လောကုတ္တရာချမ်းသာလည်း ဖြစ်၏။

ယင်းလောကီလောကုတ္တရာနှစ်ဖြာ ကြီးပွားကြောင်းမင်္ဂလာ ၃၈ ပါးက ဤသို့တည်း။

၁။ ပထမ မင်္ဂလာသုံးပါး

(က) လူမိုက်ကို မမှီဝဲ မပေါင်းသင်းခြင်း၊

(ခ) ပညာရှိကို မှီဝဲဆည်းကပ်ပေါင်းသင်းခြင်း၊

(ဂ) ပူဇော်ထိုက်သူကို ပူဇော်ခြင်း၊

၂။ ဒုတိယမင်္ဂလာ သုံးပါး
(က) သင့်တင့်လျောက်ပတ်သည့်အရပ်၌နေခြင်း၊
(ခ) ရှေ့ကပြုဖူးသည့် ကောင်းမှုအထူးရှိခြင်း၊
(ဂ) မိမိကိုယ်စိတ်နှစ်ပါးအား ကောင်းစွာ ထိန်းသိမ်းခြင်း၊

၃။ တတိယ မင်္ဂလာ သုံးပါး
(က) အကြားအမြင် ဗဟုသုတများခြင်း၊
(ခ) စက်မှုလက်မှုအတတ်ကိုတတ်ခြင်း၊
(ဂ) လူနှင့်ဆိုင်သည့်ကျင့်ဝတ်ကို ကောင်းစွာသင်ကြားခြင်း၊

၄။ စတုတ္ထမင်္ဂလာ သုံးပါး
(က) မိဘနှစ်ပါးအား လုပ်ကျွေးခြင်း၊
(ခ) သားမယားကို တရားနှင့်အညီ လုပ်ကျွေးခြင်း၊
(ဂ) အနှောင့်အယှက်ကင်းသောအမှုကို ပြုခြင်း၊

၅။ ပဉ္စမ မင်္ဂလာ လေးပါး
(က) ပေးကမ်းလှူဒါန်းခြင်း
(ခ) သုစရိုက်တရားကိုကျင့်ခြင်း၊
(ဂ) ဆွေမျိုးများကို ကူညီစောင့်ရှောက်ခြင်း
(ခ) အပြစ်မရှိသောအမှုကိုပြုခြင်း၊

၆။ ဆဋ္ဌမ မင်္ဂလာ လေးပါး
(က) မကောင်းမှုမဖြစ်အောင် စိတ်နှင့်ကြဉ်ရှောင်ခြင်း
(ခ) မကောင်းမှုမဖြစ်အောင် ကိုယ်စိတ်နှစ်ပါးနှင့် ကြဉ်ရှောင်ခြင်း
(ဂ) မူးယစ်သေစာ မသောက်စားခြင်း၊
(ဃ) ကုသိုလ်တရားတို့၌ မမေ့လျော့ခြင်း၊

၇။ သတ္တမ မင်္ဂလာ ငါးပါး
(က) ရိုသေထိုက်သူကို ရိုသေခြင်း၊
(ခ) မိမိကိုယ်ကို နှိမ့်ချခြင်း၊

(ဂ) ရောင့်ရဲလွယ်ခြင်း (လောဘအလို မရှိခြင်း)
(ဃ) သူတစ်ပါးကျေးဇူးကို သိခြင်း၊
(င) သင့်လျော်သောအခါ တရားနာခြင်း၊

၈။ အဋ္ဌမမင်္ဂလာ လေးပါး
(က) သည်းခံခြင်း၊
(ခ) ဆုံးမစကားကို နားလည်လွယ်ခြင်း၊
(ဂ) ရဟန်းသံဃာတို့အား ဖူးမြော်ခြင်း၊
(ဃ) တရားစကား ဆွေးနွေးခြင်း၊

၉။ နဝမ မင်္ဂလာ လေးပါး
(က) ခြိုးခြံခြင်း၊
(အကုသိုလ်တရားတို့အား ပူပန်စေသောအကျင့်ကျင့်ခြင်း)
(ခ) မြတ်သောအကျင့်ကိုကျင့်ခြင်း၊
(ဂ) သစ္စာလေးပါးကို သိမြင်ခြင်း၊
(ဃ) နိဗ္ဗာန်ကို မျက်မှောက်ပြုခြင်း၊

၁၀။ ဒသမ မင်္ဂလာ လေးပါး
(က) လောကဓံတရားအား တွေ့ကြုံသောအခါ စိတ်မတုန်လှုပ်ခြင်း၊
(ခ) မစိုးရိမ်၊ မပူဆွေးခြင်း၊
(ဂ) ရာဂ စသောမြူမရှိခြင်း၊
(ဃ) ဘေးမရှိခြင်း၊

ဤမင်္ဂလာ (၃၈) ပါးသည် ဗုဒ္ဓမြတ်စွာကိုယ်တော်တိုင် လောကီဘုံသားတို့အား လောကီ၊ လောကုတ္တရာနှစ်ဖြာ အကျိုးတရားဖြစ်ထွန်းစေသောငှာ ဟောကြားတော်မူခဲ့သည့် လူမှုရေး တရားတော် ဖြစ်သည်။

ယင်းမင်္ဂလာတရား (၃၈) ပါးအား လောကီဘုံသားတို့ ကျင့်ကြံအားထုတ်ပါက-
၁။ ရန်ဟူသမျှ ကင်းခြင်း၊
၂။ မည်သူ၏အနိုင်ကိုမျှ မခံရခြင်း၊
၃။ မည်သည့်အရပ်သို့သွားသွား ဘေးရန်ကင်း၍ စိတ်ချမ်းသာခြင်း၊ ကိုယ်ချမ်းသာခြင်း ရသည်ဟု ဟောကြားခဲ့သည်။



## အမြင်မှန်ကန်ပါစေ

လူ့ဘုံလောက၌ အသိအမြင်မှန်ကန်ခြင်းသည်သာ အမှန်တရား ဖြစ်သည်။ ကောင်းမှုပြုသူအတွက် မကောင်းမှုမဖြစ်နိုင်။

လူ့ဘုံလောက လူသားတို့အတါက် ကောင်းမှုနှင့်မကောင်းမှုအား ခွဲခြားနိုင်ရန်အတွက် အသိအမြင်မှန်ကန်ရန် လို၏။ အသိအမြင် မမှန်ကန်လျှင် မှားယွင်းသောအယူအဆအား စွဲကိုင်မိ၏။

သည်အခါ အမှန်တရားသည် ကင်းဝေးသွားမည်။

မှားယွင်းသောအယူအဆ၊ အယူဝါဒအား စွဲယူထားသူသည် ထိုအယူမှား
အတိုင်း နှစ်ပေါင်းတစ်ရာတိုင်အောင် ခြိုးခြံအားထုတ်သော်လည်း အကျိုး
မဖြစ်၊ အချည်းအနှီးသာတည်း။

လမ်းမှားလိုက်မိသည့် ခရီးသွားသည် ပြေးလေဝေးလေ လိုရာစခန်းနှင့်
ကင်းဝေးသကဲ့သို့ ထိုသူ အားထုတ်ကြိုးပမ်းသမျှ အကျိုးမဲ့ ဆင်းရဲ
ပင်ပန်းရန်သာ ဖြစ်သည်။

(ဓမ္မပဒ၊ ဓမ္မဋ္ဌကဝဂ္ဂဋ္ဌ)

လူ့ဘုံ၊ လူ့လောကတွင် လူတို့အတွက် အရေးကြီးသည်မှာ ရှုမြင်သုံးသပ်သည့်နေရာတွင် အတွေးမှန်၊ အမြင်မှန်၊ အသိမှန်ရန် အထူးလိုအပ်သည်။

လောက၌ လူတို့၏အမှားများကို သုံးသပ်ကြည့်လျှင် အတွေးမှား၊ အမြင်မှား၊ အယူအဆမှားယွင်းခြင်းကြောင့်ဖြစ်သည်ကို တွေ့ရသည်။

လူသည် အတွေးမှား၊ အမြင်မှားဖြစ်လျှင် ကိုယ့်ရည်ကိုယ်သွေး နုံသွားပြီး အမှားသံသရာလည်တတ်သည်မှာ အမှန်ပင်။

သို့ကြောင့် မြတ်ဗုဒ္ဓသည် မဟာကရုဏာနှင့် လူသားတို့ အမှန်တရားအား မျက်နှာမှုအားထုတ်နိုင်ရန် လမ်းညွှန်ခဲ့သည်များကို တွေ့ရသည်။

မိမိသည်သာ မိမိ၏ကိုးကွယ်ရာ ဖြစ်သည်။ တစ်ပါးသူသည် အဘယ်မှာ
မိမိအတွက် ကိုးကွယ်ရာဖြစ်မည်နည်း။ မိမိသည်သာ မိမိ၏ လဲလျောင်း
ရာဖြစ်သည်။ ထို့ကြောင့် မြင်းကုန်သည်သည် အမျိုးကောင်းမြင်းအား
စောင့်ရှောက်သကဲ့သို့ မိမိကိုယ်မိမိ စောင့်ရှောက်လေလော့''

(ဓမ္မပဒ၊ ဗြဟ္မဏဝဂ်၊ နင်္ဂလကုလထေရဝတ္ထု)

လူ့ဘုံလောကရှိ လူတို့၏သဘာဝအရ လူတို့တွင် မိမိကိုယ်မိမိ မယုံကြည်သောသူ၊ ကိုယ်တိုင် အားထုတ်မှုမဲ့သောသူသည် ကိုယ်ရည်ကိုယ်သွေး ညံ့ဖျင်းလာဘိသကဲ့သို့ တစ်ပါးသူအား အားကိုးတတ်၏။

ကိုယ်ပိုင်အတွေးပျောက်ကာ တစ်ပါးသူအား အားကိုးတတ်၏။



## အမှန်တရားအတွက် ဗုဒ္ဓ၏စကားဆယ်ခွန်း

လူသည် အမှန်တရားအား လိုလားသူဖြစ်စေကာမူ လူသည် ယုံကြည်မှုများလျှင် အမှန်တရားပျောက်သည့်ထုံး ရှိ၏။

"အမှန်တရားဟု ပြောသူတိုင်း အမှန်တရားအား မသိကြ"

ဟု ပညာရှိများက ကောက်ချက်ဆွဲခဲ့၏။

လူ့ဘုံတွင် လူသည် ဆုံးဖြတ်မှုမမှန်ကန်သဖြင့် အမှန်တရားနှင့် နီးမလိုဝေးခဲ့သူများစွာရှိ၏။ အမှန်တရားအတွက် အမှန်တရားအား အမှန်တရားအတိုင်း ပုံဖော်နိုင်ရန် လို၏။ သို့မှသာ အမှားကင်းမည် ဖြစ်၏။

စင်စစ် အမှန်တရားအား မှန်ကန်စွာ ခွဲခြမ်းစိတ်ဖြာရန်အတွက် အဓိကလိုအပ်ချက်သည် အသိစင်ကြယ်မှု ဖြစ်သည်။ အသိစင်ကြယ်ခြင်းသည် အဘယ်နည်း။

အသိစင်ကြယ်ခြင်းနှင့်ပတ်သက်၍ မြတ်ဗုဒ္ဓက အဖိုးထိုက်သော စကား ၁၀ ခွန်းနှင့် မှတ်ကျောက်တင်ခဲ့သည်။ ထိုစကား ၁၀ ခွန်းသည် အကြောင်းမဲ့ပေါ်ခဲ့သည်မဟုတ်။ အကြောင်းတရားအခြေခံနှင့် ဆက်စပ်မှုသည်ရှိနေ၏။

စကားအကြောင်းခံနှင့်နိဒါန်းကား-

အခါတစ်ပါး၌ ဗုဒ္ဓမြတ်စွာသည် ကောသလတိုင်းတွင်းသို့ ဒေသစာရီ ကြွချီခဲ့၏။

ကောသလမင်းတို့၏ပိုင်နက် ကောလမုတ္တရွာသို့ရောက်ခိုက် ကာလမမင်းတို့သည် ဝမ်းမြောက်ဝမ်းသာနှင့် ဗုဒ္ဓခြေတော်ရင်းသို့ ဝပ်ဆင်းခဲ့၏။

အကြောင်းမှာ သူတို့ရင်ထဲ၌ မရှင်းလင်း မကွဲပြားဖြစ်နေသည့် အမှန်တရားတစ်ခုအား ဗုဒ္ဓမှတပါး ခွဲခြမ်းစိတ်ဖြာသရုပ်ဖော်နိုင်စွမ်းရှိသည်ဟု ယုံကြည်မိကြသောကြောင့် ဖြစ်သည်။

ထို့နောက် မြတ်ဗုဒ္ဓအား ကာလမမင်းတို့က ဤသို့ လျှောက်ထား၏။

"မှန်လှပါ အရှင်ဘုရား၊ ကျွန်ုပ်တို့တိုင်းသို့ ရဟန်း၊ ပုဏ္ဏားများ ဝင်ရောက်လာခဲ့ပါသည်။ ယင်းသို့ ဝင်ရောက်လာခြင်းနှင့်အတူ သူတို့၏ အယူအဆ၊ တရားတော်များကိုလည်း ဟောကြားပြီး ကျန်ရှိသော ရဟန်း ပုဏ္ဏားတို့၏အပြစ်ကိုပြောကာ ဝေဖန်ပုတ်ခတ်ကြပါသည်။ အရှင်မြတ်ဘုရား...ဤသို့ ကျွန်ုပ်တို့၏တိုင်းသို့ ပုဏ္ဏား၊ ရဟန်းတို့ဝင်ရောက်လာခဲ့ကြသလို ရောက်လာသူတိုင်းက မိမိတို့၏တရားနှင့် အယူအဆကိုသာ အမွှမ်းတင်ကြပြီး ကျန်ရှိသည့်တရားနှင့် အယူဝါဒမှန်သမျှအား ပုတ်ခတ်ပြင်ဆင်ဝေဖန်ကြပါသည်။ ထို့ကြောင့် ကျွန်ုပ်တို့သည် ဘယ်အရာ အမှန်၊ ဘယ်အရာ အမှားဆိုသည်ကို ပိုင်းခြားဝေဖန်ရန် ခက်ခဲနေပါသည်ဘုရား"

ဟု ကာလာမမင်းတို့၏ မေးလျှောက်စကားအား မြတ်ဗုဒ္ဓကြားသိလျှင် မဟာကရုဏာ အပြည့်နှင့် ဤသို့ မိန့်တော်မူ၏။

"ကာလာမမင်းအပေါင်းတို့...သင်တို့၏တိုင်းအတွင်းသို့ ရဟန်း၊ ပုဏ္ဏားများ ဝင်ရောက်လာပြီး ဝင်လာသူတိုင်းက မိမိ၏ ဓမ္မနှင့်အယူဝါဒကိုသာ ရှေ့တန်းတင်ခဲ့ကြသလို ကျန်ရှိသည့် ဓမ္မနှင့်အယူဝါဒတို့အား ပုတ်ခတ်ကြ၏။ အမြင်သစ်အား ဆုံးဖြတ်ရခက်နေသည်မှာ မဆန်းလှချေ။ ကိုယ့်အမြင်ကိုသာ အမှန်ဟု ထင်နေသည်မှာ ဓမ္မတာပင်။ အဓိကသည် သညာဉာဏ်အသိနှင့် စိစစ်ရန် ဖြစ်သည်။ သညာဉာဏ်အသိ မရှိလျှင် အမှန်တရားကို မမြင်နိုင်"

ဟု မိန့်ကြားပြီးနောက် ကြားသမျှ၊ မြင်သမျှ ပေါ်ပေါက်လာသမျှသော ဓမ္မနှင့်အယူဝါဒကို စိစစ်သုံးသပ်လိုက်နာရန် မှတ်ကျောက်အဖြစ် ပြုလုပ်ရန်အတွက် အဖိုးထိုက်သော လမ်းညွှန်စကား (၁၀) ခွန်းအား မြတ်ဗုဒ္ဓ မိန့်ကြားခဲ့၏။ ဗုဒ္ဓ ညွှန်ပြသည့် စကား (၁၀) ခွန်းကား ဤသို့တည်း။ အသင်ကာလာမမင်းအပေါင်းတို့...

၁။ တစ်ဆင့်စကားပြောသံကြားနှင့်လည်း 'ဟုတ်ပြီ၊ မှန်ပြီ' ဟု မယူဆလေနှင့်ဦး။

၂။ အစဉ်အဆက် ပြောဆိုကြားနာခဲ့သည့် စကားဖြစ်၍လည်း 'ဟုတ်ပြီ၊ မှန်ပြီ' ဟု မယူဆလေနှင့်ဦး။

၃။ ဤသို့ ဖြစ်ခဲ့ဖူးသည်၊ ဖြစ်ခဲ့သတတ်ဟူ၍လည်း 'ဟုတ်ပြီ၊ မှန်ပြီ' ဟု မယူဆလေနှင့်ဦး။

၄။ ပိဋကတ်စာပေနှင့် ညီညွတ်သည်ဟူ၍လည်း 'ဟုတ်ပြီ၊ မှန်ပြီ' ဟု မယူဆလေနှင့်ဦး။

၅။ မိမိတို့သဘောအားလျော်စွာ ကြံစည်တွေးတော၍ ရသည်ဖြစ်၍လည်း 'ဟုတ်ပြီ၊ မှန်ပြီ' ဟု မယူဆလေနှင့်ဦး။

၆။ သူတစ်ပါးထံ နည်းနာယူခြင်းဖြင့်လည်း 'ဟုတ်ပြီ၊ မှန်ပြီ' ဟု မယူဆလေနှင့်ဦး။

၇။ အကြောင်းခြင်းရာကို တွေးတောကြံစည်ခြင်းသဘောဖြင့်လည်း 'ဟုတ်ပြီ၊ မှန်ပြီ' မယူဆလေနှင့်ဦး။

၈။ မိမိတွေးတောကြံစည်သဘောကျမှုနှင့် တူညီနေသဖြင့်လည်း 'ဟုတ်ပြီ၊ မှန်ပြီ' မယူဆလေနှင့်ဦး။

၉။ မှတ်ယူထိုက်သော သဘောဖြင့်လည်း 'ဟုတ်ပြီ၊ မှန်ပြီ' မယူဆလေနှင့်ဦး။

၁၀။ ငါတို့ လေးစားအပ်သော လေစားသော ပုဏ္ဏားဏ်စကားဖြစ်သည်ဆိုပြီးတော့လည်း 'ဟုတ်ပြီ၊ မှန်ပြီ' မယူဆကြလေနှင့်ဦး။

အသင်ကာလာမမင်းအပေါင်းတို့…

စင်စစ်သော မကောင်းသောပြုမှုလုပ်ကိုင်မှု၊ ပညာရှိတို့၏ ကဲ့ရဲ့ရှုတ်ချမှုဖြစ်စေမှု၊ ဤသို့ ပြုမှုလုပ်ကိုင်ခြင်းသည်ကား မကောင်းသောအပြုအမူသာ ဖြစ်သည်တကားဟု သင်တို့ကိုယ်တိုင် သဘောပေါက်နားလည်၊ သိရှိနားလည်သည်တို့အား ပယ်စွန့်အပ်၊ ရှောင်ကြဉ်အပ်သည်သာတည်း။

ဤသုတ်တော်အား မြတ်စွာဗုဒ္ဓကိုယ်တိုင် အသိဉ် ဝေခွဲရခက်နေမှု၊ ဇဝေဇဝါဖြစ်နေမှုအား ရှင်းလင်းသွားစေရန် အမှားနှင့်အမှန်၊ အလင်းနှင့်အမှောင်တို့အား ပိုင်းခြားဝေဖန်နိုင်စေရန် ညွှန်ပြခဲ့သည့်သုတ်တော် ဖြစ်သည်။ လူ့ဘုံမှ လူသားတိုင်း အဖန်ဖန် သုံးသပ်ဆင်ခြင်ပါက လူ့ဘဝအမှန်ကိုမြင်၍ အကျိုးဖြစ်ထွန်းမည်မှာ မုချပင် ဖြစ်သည်။

စင်စစ် ဤသုတ်တော်မှာ 'သမုတ္တိသုတ်တော်' ဖြစ်သော်လည်း ကာလာမမင်းတို့အား ဟောကြားသည့်သုတ်တော်ဖြစ်သဖြင့် ကာလာမသုတ်တော်ဟု ထင်ရှားသည်။

ဤသုတ်တော်သည် ကာလာမမင်းအပေါင်းတို့အား ရည်ညွှန်းဟောခဲ့သော်ငြားလည်း လူသားအများနှင့်သက်ဆိုင်သော လူသားအကျိုးဖြစ်ထွန်းစေသည့်သုတ်တော် ဖြစ်သည်။

## ကောင်းမှု၊ မကောင်းမှု စိစစ်ဝေဖန်ပါ

လူ့ဘုံ၊ လူ့ဘဝသို့ရောက်သူတိုင်းသည် လောကီ၊ လောကုတ္တရာနှစ်ဖြာအကျိုးဖြစ်ထွန်းရန်အတွက် ကောင်းမှုနှင့်မကောင်းမှုအား စိစစ်ဝေဖန်နိုင်ရမည်။

ကောင်းမှုသည် ကောင်းကျိုးအားပြု၏။

မကောင်းမှုသည် မကောင်းကျိုးဖြစ်စေ၏။

ဗုဒ္ဓ၏ဓမ္မလမ်းကြောင်းနှင့်ကြည့်လျှင်မူ ဗုဒ္ဓသည် ကောင်းမှုနှင့်မကောင်းမှုအား သုစရိုက်နှင့်ဒုစရိုက်ဟု ခွဲခြားပြသထား၏။

ပညာရှိတစ်ဦးကမူ 'ငါးပါးသီလ လုံခြုံက မုချ လူ့ဘဝ ချမ်းသာမည်' ဟု ဆိုမိန့်ထား၏။ ဤညွှန်းဆိုချက်သည် ဗုဒ္ဓ၏ဒဿနအား ဖွင့်ဟပြသခြင်းလည်း ဖြစ်သည်။

ငါးပါးသီလ လုံခြုံခြင်းသည် ကောင်းမှုဖြစ်၏။ မလုံခြုံခြင်းသည် မကောင်းမှုကို ဖြစ်စေ၏။

ယင်းတို့ကား-

၁။ သူတစ်ပါး၏အသက်ကို သတ်ခြင်း၊
(သေစေလိုသောဆန္ဒနှင့်သတ်ခြင်း)

၂။ သူတစ်ပါး၏ပစ္စည်းအား ခိုးယူခြင်း၊

၃။ ဖောက်ပြန်မှားယွင်းသော မေထုန်မှုကိုပြုခြင်း၊

၄။ လိမ်ညာစကားပြောဆိုခြင်း၊

(သူတစ်ပါးအကျိုး ပျက်စီးစေရန် လိမ်ညာမုသားပြောဆိုခြင်း)

၅။ မူးယစ်စေတတ်သည့်အရာအား သောက်သုံးခြင်း၊

စသည်တို့ ဖြစ်သည်။

ကောင်းမှုကိုဖြစ်စေသော၊ မကောင်းမှုကိုဖြစ်စေသော ‘စောင့်ထိန်းနိုင်သူအတွက် ကောင်းမှုဖြစ်ပြီး၊ မစောင့်ထိန်းနိုင်သူအတွက် မကောင်းမှု ဖြစ်သည်။

ယင်းအကြောင်းငါးခုအား သရုပ်ခွဲကြည့်လျှင်-

၁။ ကိုယ် (ကာယ)နှင့်ဖြစ်ခြင်း၊

၂။ နှုတ် (ဝစီ)နှင့်ဖြစ်ခြင်း၊

၃။ မနော (စိတ်) နှင့်ဖြစ်ခြင်း၊

စသည်တို့ဖြစ်၏။ ယင်းတို့ကား-

**၁။ ကာယဒုစရိုက် (မကောင်းမှု)သုံးပါး**

(က) သူတစ်ပါးအသက်အား သေစေလို၍သတ်ခြင်း

(ခ) သူတစ်ပါး၏ပစ္စည်းဥစ္စာကို ခိုးယူခြင်း

(ဂ) ကာမမေထုန်မှုကို မှားယွင်းစွာ ဖောက်ပြန်ကျူးလွန်ခြင်း

(ဤသည်မှာ ကာယဒုစရိုက်မကောင်းမှုသုံးပါး ဖြစ်သည်။)

**ကာယသုစရိုက် (ကောင်းမှု) သုံးပါး**

၁။ သူတစ်ပါးအသက်အား သတ်ခြင်းမှ ရှောင်ကြဉ်ခြင်း၊

၂။ သူတစ်ပါးပစ္စည်းဥစ္စာအား ခိုးယူခြင်းမှ ရှောင်ကြဉ်ခြင်း၊

၃။ ကာမဂုဏ်မေထုန်မှုကို မှားယွင်းစွာ ဖောက်ပြန်ကျူးလွန်ခြင်းမှ ရှောင်ကြဉ်ခြင်း၊

(ဤသည်မှာ ကာယသုစရိုက် ကောင်းမှုသုံးမျိုး ဖြစ်သည်။)

**၂။ ဝစီဒုစရိုက် (မကောင်းမှု) လေးပါး**

၁။ လိမ်ညာပြောဆိုခြင်း၊

၂။ ကုန်းတိုက်ပြောဆိုခြင်း၊

၃။ နှုတ်လျှာ ကြမ်းတမ်းစွာပြောဆိုခြင်း၊

၄။ သိမ်ဖျင်းသော၊ အကျိုးမရှိသောစကားကို ပြောဆိုခြင်း၊

(ဤသည်မှာ ဝစီဒုစရိုက် (မကောင်းမှု) လေးပါး ဖြစ်သည်။)

**ဝစီသုစရိုက် (ကောင်းမှု) လေးပါး**

၁။ လိမ်ညာပြောဆိုခြင်းမှ ရှောင်ကြဉ်ခြင်း၊

၂။ ကုန်းတိုက်ပြောဆိုခြင်းမှ ရှောင်ကြဉ်ခြင်း၊

၃။ နှုတ်လျှာ ကြမ်းတမ်းစွာပြောဆိုခြင်းမှ ရှောင်ကြဉ်ခြင်း၊

၄။ သိမ်ဖျင်းသော၊ အကျိုးမရှိသောစကား ပြောဆိုခြင်းမှ ရှောင်ကြဉ်ခြင်း၊

(ဤသည်မှာ ဝစီသုစရိုက် (ကောင်းမှု) လေးပါး ဖြစ်သည်။)

**၃။ မနောဒုစရိုက် (မကောင်းမှု) သုံးပါး**

၁။ သူတစ်ပါး၏ပစ္စည်းဥစ္စာအား ရှေ့ရှုကြံစည်ခြင်း၊

၂။ သူတစ်ပါး၏ပစ္စည်းဥစ္စာကို ဖျက်ဆီးကြံစည်ခြင်း၊

၃။ နေရာဌာနတိုင်း၌ အတွေးမှား၊ အယူမှားခြင်း၊

(ဤသည်မှာ မနောဒုစရိုက် (မကောင်းမှု) သုံးပါး ဖြစ်သည်။)

**မနောသုစရိုက် (ကောင်းမှု) သုံးပါး**

၁။ သူတစ်ပါး၏ပစ္စည်းဥစ္စာအား ရှေ့ရှုကြံစည်မှု နှုတ်ကို စောင့်ထိန်းခြင်း၊

၂။ သူတစ်ပါး၏ ပစ္စည်းဥစ္စာအား ဖျက်ဆီးကြံစည်မှုစိတ်ကို စောင့်ထိန်းခြင်း၊

၃။ နေရာ၊ ဌာနတိုင်း၌ အတွေးမှန်၊ အယူမှန်ခြင်း၊

(ဤသည်မှာ မနောသုစရိုက် (ကောင်းမှု) သုံးပါး ဖြစ်သည်။)

ထို့ကြောင့် မြတ်ဗုဒ္ဓက လူ့ဘုံ၊ လူ့ဘဝသို့ ရောက်ရှိရရှိခိုက် လူဖြစ်ရကျိုးနပ်စေရန် ကောင်းမှု၊ မကောင်းမှုအား စိစစ်ဝေဖန်ပြီး မကောင်းမှုကို ရှောင်ကြဉ်၍ ကောင်းမှုကို မြတ်နိုးရန်သည် အဓိကအရေးကြီးသည့်အချက်ဖြစ်သတည်း။

**(ဤတွင် လူ့ဘုံ၊ လူ့ဘဝနှင့်ပတ်သက်၍ ဆောင်ရန်၊ ရှောင်ရန် ပြီး၏။)**



လူ့ဘုံလူ့ဘဝမှ လူသားတို့သည်
နေ့စဉ် မကောင်းမှုကို ရှောင်ကြဉ်၍
ကောင်းမှုကိုပြုပါ။
စိတ်ကို
ဖြူစင်အောင်ထားပါ။

ရဝေနွယ် (အင်းမ)၏
အသံလွှင့်တရားမှ

# အပါယ်လေးဘုံ

# မှ

# ငရဲဘုံနိဒါန်း

စကြာဝဠာ၏တည်နေပုံအား ပြန်လည်သုံးသပ်ကြည့်လျှင် သတ္တရဘန်တောင်စဉ်တို့၏ အပြင်ဘက်၌ မြင်းမိုရ်တောင်၏လေးမျက်နှာတွင် ကျွန်းကြီးလေးကျွန်း တည်ရှိသည်။

ယင်းတို့ကား-

၁။ တောင်ဘက်၌ ဇမ္ဗူဒိပ်ကျွန်း၊ ဇမ္ဗူသပြေပင် အထိမ်းအမှတ်

၂။ အနောက်ဘက်၌ အပရဂေါယာန၊ ထိန်ပင်အထိမ်းအမှတ်

၃။ မြောက်ဘက်၌ ဥတ္တရကုရုကျွန်း၊ ပဒေသာပင်အထိမ်းအမှတ်

၄။ အရှေ့ဘက်၌ ပုဗ္ဗဝိဒေဟကျွန်း၊ ကုက္ကိုပင်အထိမ်းအမှတ်

စသည်ဖြင့် ကျွန်းကြီးလေးကျွန်းရှိသကဲ့သို့ ငရဲဘုံဟူ၍လည်း ရှိ၏။

**(က) ငရဲဘုံတည်ရာဌာန**

ငရဲဘုံသည် မကောင်းမှုအကုသိုလ်ပြုသူတို့ ကျရောက်ခံစားရသည့် ငရဲကြီးရှစ်ထပ်နှင့် ငရဲငယ် အသွယ်သွယ်တို့ ဖြစ်သည်။

ထိုငရဲကြီးရှစ်ထပ်နှင့် ငရဲငယ်အသွယ်သွယ်တို့က ရွံ့မြေဟု ခေါ်သည့် (ပံသုပထဝီ) အတွင်း၌ တည်ရှိသည်။

### (ခ) ငရဲထောင်ကြီးတည်ရှိနေပုံ

ငရဲကြီးရှစ်ထပ်စလုံးသည် သံမိုး၊ သံမြေ၊ သံတံတိုင်းတို့နှင့် အုပ်ဖုံးခင်းရံလျက် ဂဟေဆက်ထားဘိသို့ ရှိသည်။ လေးထောင့်စပ်စပ် သံသေတ္တာတစ်လုံးနှင့်တူသည်ဟုလည်း အဆိုရှိ၏။

အတွင်း၌ကား ယူဇနာတစ်ရာကျယ်၏။

လေးမျက်နှာ၌ သံတံခါးတစ်ပေါက်စီ ရှိ၏။

အရှေ့နံရံမှ ဟုန်းဟုန်းထနေသော မီးတောက်မီးလျှံတို့သည် အနောက်နံရံထိ စွဲနေ၏။

အနောက်နံရံမှထသော မီးတောက်မီးလျှံတို့သည် အရှေ့နံရံထိ စွဲနေ၏။

မြောက်နံရံမှထသော မီးတောက်မီးလျှံတို့သည် တောင်နံရံထိ စွဲ၏။

တောင်မှထသော မီးတောက်မီးလျှံသည် မြောက်နံရထိစွဲ၏။

အောက်မှ မီးလျှံက အထက်ထိ၊ အထက်ကမီးလျှံက အောက်ထိစွဲ၏။

တံတိုင်းအမိုးတို့မှ အပြင်ဘက်သို့ ဖြာထွက်နေသော မီးလျှံတို့သည် ယူဇနာတစ်ရာတိုင်တိုင် ရောက်၏။

ငရဲအတွင်းဝယ် တွင်းများ၊ ကျင်းများ၊ ဖုများ၊ ထစ်များ၊ ဆူးငြောင့်ခလုတ်များ၊ သင်ပုန်းဝါးစီထားသည့် မြေများသာများ၏။

ရေဟူသမျှသည်လည်း ကျက်ကျက်ဆူနေသောမြစ်ရေ၊ ချောင်းရေသာ များ၏။

သစ်ပင်များသည်လည်း သာမန်သစ်ပင်များမဟုတ်။ သံလျက်ချွန်များ၊ မီးဟုန်းဟုန်းတောက်နေသော သံဆူပင်တို့သာ ပေါက်နေ၏။

### (ဂ) ပူလောင်လွန်းသည့်ငရဲ

ငရဲသည် ပူလောင်ပြင်းပြသည်ဟု ဆို၏။ ငရဲတွင် ပူသည်မှာ ငရဲမီးကြောင့် ဖြစ်သည်။ ငရဲမီးအပူက ကျောက်ဖျာကြီး ပစ်ချလိုက်လျှင် တစ်ခဏချင်း ကျေညက်ကာ ပြာမှုန့်ဖြစ်၍ သွား၏။

ငရဲမီးသည် ကျောက်တုံးကျောက်ဖျာတို့အား ကြေညက်ပျောက်ပျက်သွားနိုင်သော်လည်း ငရဲသတ္တဝါတို့သည် များစွာသောနှစ်များပတ်လုံး ငရဲခံရ၊ ကျက်ရကုန်သော်လည်း ကြေညက်ပျောက်ပျက်ခြင်းသို့ မရောက်ပေ။

ကံတရားနှင့် စီရင်အပ်သည့် ငရဲသတ္တဝါတို့သည် များစွာ နှစ်ပတ်လုံး

ငရဲခံရကျက်ရသော်လည်း ကြေညက်ပျောက်ပျက်လေ့မရှိ။

(မိလိန္ဒ၊ ၄၄)

သို့ကြောင့်ပင် ဗုဒ္ဓမြတ်စွာဘုရားက-

"ငရဲသတ္တဝါတို့အား အကြင်မျှလောက် မကောင်းမှုကံသည် ကုန်ဆုံးခြင်းသို့ မရောက်သေး။ ထိုမျှလောက်ကာလပတ်လုံး ငရဲသတ္တဝါသည် သေခြင်းမပြု" ဟု ဟောတော်မူခဲ့၏။

ထို့အတူ မြတ်စွာဘုရားရှင် ပရိနိဗ္ဗာန်ပြုပြီးနောက် မလယမထေရ်သည် သူ၏ဆရာသခင်မထေရ်အား-

"အရှင်ဘုရား…ငရဲမီး အဘယ်မျှ ပူပြင်းပါသနည်း၊ သိလို၍ဖြေပါ ဆရာသခင်" ဟု လျှောက်၏။ ဆရာမထေရ်က တပည့်မထေရ်အား အရည်အစေးအားကြီးသည့် ထင်းစိုလှည်းတစ်စီးတိုက်အား ကျောက်ဖျာပေါ်သို့ စုပုံစေ၍ မီးတိုက်စေ၏။

မီးသည် မလောင်နိုင်ရှိ၏။

သည်အခါ ဆရာမထေရ်သည် အဝီစိငရဲမှ နှမ်းစေ့များလောက် မီးခဲမှုန့်ကလေးအားယူ၏။ လက်ဝါးပေါ်သို့တင်ပြီးနောက် ထင်းပုံတွင်းသို့ ချလိုက်၏။

မျက်စိတစ်မှိတ် လျှပ်တပြက်အတွင်း၌ပင် ထင်းစိုလှည်းတစ်စီးတိုက်သည် ပြာဖြစ်သွားသည်။ ဤမျှ ပူပြင်းစေ၏။

(ပဉ္စတိတဝေဒနိယကျမ်း-၂၈၅၅၊ ၁၅၆)

**(ဃ) ငရဲ၌ဖြစ်သည့် ဆင်းရဲခြင်း**

ဘုရားရှင်သည် ဗာလပဏ္ဍိတသုတ်၌ ဟောကြားထားခဲ့သည်မှာ မှတ်သားဖွယ်ဖြစ်၏။

အခါတစ်ပါး၌ ဘုရားရှင်သည် ဇေတဝန်ကျောင်းဆောင်၌ ရဟန်းတို့အား နေ့စဉ်မိန့်ကြားသည်မှာ-

"ချစ်သားရဟန်းတို့…ငရဲ၌ဖြစ်သော ဆင်းရဲခြင်းတို့သည် ဥပမာနှင့်ပြခြင်းငှာ မလွယ်" ဟု ဖြစ်၏။

သည့်အခါ ရဟန်းတို့က "အရှင်မြတ်ဘုရား မလွယ်သောဥပမာအား ကောင်းသော ဥပမာဖြင့်ပြခြင်းသည် တတ်ကောင်းလှသည်ဘုရား" ဟု လျှောက်ထား၏။

ဗုဒ္ဓမြတ်စွာက-

"ကောင်းပြီချစ်သားတို့၊ ချစ်သားတို့ သိလိုသည်အား ဥပမာဖြင့် ပြဆိုအံ့။ ရဟန်းတို့ မှတ်လော့၊ ဥပမာအားဖြင့် မင်းချင်းတို့သည် ခိုးသားအားဖမ်း၍ အရှင်မင်းကြီး ဤသူကား ခိုးသူတည်း၊ ထိုက်သည့်ဒဏ်ကိုပေးလော့" ဟု လျှောက်၏။

မင်းကလည်း "အချင်းတို့…ထိုခိုးသူအား နံနက်လင်းသည့်အခါ လှံချက်တစ်ရာ

ထိုးလော့'' ဟု မိန့်၏။

မင်းချင်းတို့သည် မင်းဧကရာဇ်၏အမိန့်အတိုင်းပြု၏။ မင်းသည် နေမွန်းတည့်လျှင်-

''ထိုသူက အဘယ်သို့ရှိသနည်း'' ဟု မေး၏။

''အရှင်မင်းကြီး၊ ထိုသူက သေပျောက်ခြင်းမရှိသေးပါ။ အသက်ရှင်လျက် ရှိသေး၏'' ဟု လျှောက်၏။

''မင်းချင်းတို့…ထိုခိုးသူအား မွန်းတည့်သည့်အခါ လှံချက်တစ်ရာ ထပ်ထိုးလော့''

မင်းသည် ထပ်မံအမိန့်ချမှတ်၏။ မင်းချင်းတို့သည် ခိုးသူအား ထပ်မံထိုးပြန်၏။ မသေသဖြင့် ညအချိန်တွင် မင်းအား အသက်ရှင်လျက်ရှိသေးကြောင်း လျှောက်ထားကြ၍ လှံချက်တစ်ရာ ထပ်ထိုးခိုင်းပြန်၏။

လှံချက်သုံးရာထိုးပြီးသော် ဘုရားရှင်က-

''ရဟန်းတို့…လှံချက်သုံးရာ အထိုးခံရသည့် ခိုးသားသည် လှံချက်ဒဏ်ကြောင့် ဒုက္ခ၊ ဒေါမနဿ ခံစားရအံ့လော''

ထိုအခါ ရဟန်းတို့က-

''အရှင်မြတ်ဘုရား…တစ်ကြိမ်ထိုးအပ်သော လှံချက်တစ်ရာနှင့်ပင် ထိုခိုးသားအား အတိုင်းမသိအောင် ဒေါမနဿတို့ ခံစားရပါ၏။ သုံးရာဆိုသော် ဆိုဖွယ်ရာမရှိပါဘုရား''

ဟု ဆို၏။ ထိုအခါ မြတ်စွာဘုရားရှင်က လက်ဆုပ်ကြား၌ထားအပ်သည့် ကျောက်ခဲငယ်အား ကောက်ယူတော်မူ၍-

''ရဟန်းတို့ ဤကျောက်ခဲငယ်နှင့် ဟိမဝန္တာတောင်မင်းသည် ဘယ်အရာက ကြီးမားပါသလဲ'' ဟုမေး၏။

''အရှင်မြတ်ဘုရား… အရှင်မြတ်ဘုရားလက်ကြား၌ရှိသော ကျောက်ခဲငယ်သည် အနည်းငယ်မျှသာ ရှိ၏။ အလျား၊ အနံ၊ ယူဇနာသုံးထောင်၊ အစောက်က ငါးရာ၊ ရှစ်သောင်းလေးထောင်သော အထွဋ်တို့နှင့် တန်ဆာဆင်အပ်သည့် ဟိမဝန္တာတောင်မင်းနှင့် အလွန်မရေတွက်နိုင်ပါ''

သည့်အခါ ဘုရားရှင်က-

''ချစ်သားရဟန်းတို့၊ ထို့အတူပင် လှံချက်သုံးရာဖြင့် အထိုးခံရတာက ထိုခိုးသူ၏ ဒုက္ခဒေါမနဿသည် ငရဲ၌ဖြစ်သော ဒုက္ခနှင့်ယှဉ်၍မရလောက်အောင် ကြီးမားပါဘိသည်'' ဟု မိန့်၏။

## (င) နတ်လူအသက်ထက် ငရဲသက်ရှည်သည်

သက်တမ်းအားဖြင့် နတ်၊ လူတို့၏အသက်ထက် ငရဲသက်သည်ရှည်၏။ ကုသိုလ်ကံ၊ အကုသိုလ်ကံနှစ်ပါးတို့တွင် အကုသိုလ်ကံသည် သာလွန်၍ အကျိုးကြီး၏ဟု ဆို၏။

သို့ရာတွင် အသေအချာဆန်းစစ်လျှင် ကုသိုလ်၊ အကုသိုလ်ကံနှစ်ပါးစလုံးပင် အကျိုးကြီးလှ၏။ အကုသိုလ်ကံ အကျိုးကြီး၍ အသက်ရှည်ရသည်မှာ အကြောင်းရှိသည်။ အကြင်သောသူသည် အသက်ထက်ဆုံး သုစရိုက်အရာတို့အားပြု၍ နတ်ပြည်၌ ဖြစ်ရ၏။

စင်စစ် နတ်ပြည်၌ဖြစ်သောသူအဖို့ နတ်စည်းစိမ်သည် ကြီးမားမြင့်မြတ်သောအဖြစ်တို့ကြောင့် ကာမရာဂသည် ထူပြော၏။ အမျက်ဒေါသကြီး၏။

လွန်ကဲသောမာနနှင့် စိတ်ပျံ့လွင့်မှု၊ ပြုံးရွှင်မှု၊ ဝန်တိုမှုတို့သည် ဖြစ်ကြကုန်၏။

ကုသိုလ်စိတ်ကမူ ဖြစ်မှုနည်း၏။ အကုသိုလ်ဖြစ်သော်လည်း အလှူပေးခြင်း၊ သီလဆောက်တည်ခြင်းအခွင့်သည် မရှိ၊ မရကြပါ။

ဤသို့ဖြင့် ရာဂ၊ ဒေါသ အစရှိသည့် အကုသိုလ်တို့သည် ကျောက်၌ သွေးအုံ့သောသံသည် ကုန်သကဲ့သို့ ရှေ့ကပြုခဲ့သည့် ကုသိုလ်ကံတို့ ကုန်စေ၏။

ယင်းသမို့ ထိုသူသည် ရှေ့ကပြုအပ်သော မရင့်သေးသောအကျိုးရှိသော ကုသိုလ်ကံအဘာယ်၍ရှိမူ ထိုကံအကျိုးကြောင့် နတ်ဘုံရဖြစ်ရသည်။

အကြင်သူသည် အသက်ထက်ဆုံး ဒုစရိုက်တရားတို့ကို ပြုလုပ်ခဲ့၍ ငရဲ၌ ဖြစ်ရ၏။ ထိုသူအား ငရဲ၌ သည်းမခံနိုင်လောက်အောင် နာကျင်သောဝေဒနာတို့သည် ဖြစ်ကုန်၏။ များစွာသော ပင်ပန်းခြင်းတို့သည် ဖြစ်ကုန်၏။

ဤသို့ဖြစ်ရသည့်အတွက်-

"ငါသည် ပညာရှိတို့၏ဆိုစကား နားမထောင်ခဲ့၊ လူမိုက်နှင့်သာပေါင်း၍ မကောင်းမှုများစွာအား ပြုမိချေ၏" ဟု အဖန်ဖန် စိုးရိမ်ခဲ့၏။

ထိုသူအဖို့ ဆင်းရဲဒုက္ခအာရုံ၌ ဒေါသဇောမပြတ် ဖြစ်နေတတ်၏။

ယင်းဒေါသဇောသည် ရှေးကပြုခဲ့သည့် အကုသိုလ်အား အထောက်အပံ့ပြု၍ အားအသစ်ကို တိုးစေ၏။ ထိုအတွက်ကြောင့် ယင်းသူအား အကုသိုလ်တရားသည် တိုးပွားပြန်သဖြင့် အသက်ရှည်သောအဖြစ်ကို ပေးပြန်၏။

ထိုခံရသောငရဲ၌ အသက်ကုန်ပြန်သော် တစ်ပါးသောအကျိုး မပေးသေးသော မကောင်းမှုသည် အဘာယ်၍ ရှိနေပါက ထိုမကောင်းမှုသည် ထိုသူအား လက်ဖျစ်တစ်တွတ် လျှပ်တပြက်မျက်စိတစ်မှိတ်မျှ သက်သာခွင့်မပေးဘဲ အခြားငရဲ၌ ကျရပြန်သည်။

မကောင်းသောဘုံဘဝ၊ ငရဲသို့ရောက်သောသူအား ဘဝများစွာတို့၌ ပြုအပ်သည့်ကောင်းမှုတို့သည် တစ်ခုသောဘဝ၌ ပေါင်းစည်းစုဝေးလျက် ကံတစ်ခုကုန်သော် ကံတစ်ခု စသည်ဖြင့် များစွာသောအကုသိုလ်တို့သည် အခွင့်ရကုန်၏။

ဤအကြောင်းကြောင့် အပါယ်၌ အသက်ရှည်ရပါသည်။

## (စ) ငရဲကျရေး၊ နတ်ပြည်ရောက်ရေး

ငရဲသို့ကျရောက်မှု၊ နတ်ပြည်သို့ တက်ရောက်ရမှုနှင့်ပတ်သက်၍ သုံးလူ့ထွဋ်ထား ရှင်တော်မြတ်ဘုရားက ပဥ္စင်္ဂုတ္တရပါဠိတော်၊ နိရယသုတ်၌ ဤသို့ ဟောဆိုမိန့်ကြားခဲ့၏။

"ရဟန်းတို့၊ တရားငါးမျိုးနှင့်ပြည့်စုံသော ဥပသကာသည် ဆောင်ယူချထားအပ်သကဲ့ သို့ ထိုအတူ ငရဲ၌ ဖြစ်ရတတ်၏။

အဘယ်ငါးမျိုးဟူမူကား-

၁။ သူ့အသက်အား သတ်လေ့ရှိခြင်း၊

၂။ မပေးသည်ကို ယူလေ့ရှိခြင်း၊

၃။ ကာမဂုဏ်တို့၌ မှားယွင်းစွာ ကျင့်လေ့ရှိခြင်း၊

၄။ မမှန်စကားပြောလေ့ရှိခြင်း၊

၅။ မူးယစ်မေ့လျော့ခြင်း၏အကြောင်းဖြစ်သော သေအရက်အား သောက်လေ့ရှိခြင်း စသည်တို့တည်း။"

"ချစ်သားရဟန်းတို့...ဤတရားငါးမျိုးနှင့်ပြည့်စုံသည့် ဥပသကာသည် ဆောင်ယူ၍ ချထားအပ်သကဲ့သို့ ထိုအတူ ငရဲ၌ ဖြစ်ရ၏။

ချစ်သားရဟန်းတို့၊ တရားငါးမျိုးနှင့် ပြည့်စုံသော ဥပသကာသည် ဆောင်ယူ၍ ချထား အပ်သကဲ့သို့ ထိုအတူ နတ်ပြည်၌ ဖြစ်ရ၏။

အဘယ်ငါးမျိုးတို့နည်းမူ-

၁။ သူ့အသက်ကို သတ်ခြင်းမှ ရှောင်ကြဉ်မှု၊

၂။ မပေးသည်ကို ယူခြင်းမှရှောင်ကြဉ်မှု၊

၃။ ကာမဂုဏ်တို့၌ မှားယွင်းစွာကျင့်ခြင်းမှ ရှောင်ကြဉ်မှု၊

၄။ မမှန်မကန်ပြောခြင်းမှ ရှောင်ကြဉ်မှု၊

၅။ မူးယစ်မေ့လျော့ခြင်း၏အကြောင်းဖြစ်သော သေအရက်အား သောက်ခြင်းမှ ရှောင်ကြဉ်မှုတို့နှင့် ပြည့်စုံသော ဥပသကာသည် ဆောင်ယူ၍ ချထားအပ်သကဲ့သို့ ထိုအတူ နတ်ပြည်၌ ဖြစ်ရ၏။

## (ဆ) ငရဲကို အလိုရှိသူများ

ငရဲသည် ကြောက်မက်ဖွယ်ရာဖြစ်သော်လည်း ငရဲအား အလိုရှိသူများ ရှိသည်။ ထိုသူများသည် အဘယ်သူများနည်းဟုဆိုမူ-

တစ်ဦးသောသူသည် တစ်ဦးသောသူအား နှိပ်စက်ညှဉ်းပန်း၏။ ထိုအနှိပ်စက်ခံရသောသူသည် မိမိအား နှိပ်စက်ညှဉ်းပန်းသော ထိုရန်သူအား ကြီးစွာသောဘေးနှင့် နှိပ်စက်ခြင်းငှာ၊ ထိုသူအတွက် ကြီးစွာသော ဘေးဖြစ်စေလိုသဖြင့် ကြီးစွာသော ငရဲဘေးအား အလိုရှိသူ ဖြစ်၏။ ထို့ကြောင့် ဤလောက၌ ငါ့အပေါ် အနိုင်ကျင့်သောသူအား ငါ မနိုင်။ မနိုင်သော်လည်း မနိုင်သဖြင့် နိုင်သူပေါ်ပါစေဟု ကျိန်၏။ မိမိအား နှိပ်စက်ညှဉ်းပန်းသည့် ရန်သူအား နိုင်သူကို တောင့်တ၏။

ယင်းသို့ တစ်ပါးသူအား နှိပ်စက်ညှဉ်းပန်းတတ်သော ထိုသူယုတ်မာကို အနှိပ်စက်နိုင်ဆုံး၊ အညှဉ်းဆဲနိုင်ဆုံးသူက ငရဲကြီးငယ်တို့ပင် ဖြစ်၏။ ထို့ကြောင့် လူယုတ်မာတို့အား ငရဲက ကြိုဆို၏။ အလိုရှိ၏။

ထို့ကြောင့် ဘုရားရှင်က သတ္တဂုံ့တ္တရပါဠိတော်၊ သပတ္တကန္တသုတ်၌-

"ရဟန်းတို့..ဆန့်ကျင်ဘက်ရန်သူတစ်ဦးသည် မိမိဆန့်ကျင်ဘက်ရန်သူ တစ်ဦးအား ဤ...ငါ၏ရန်သူသည် ကိုယ်ခန္ဓာပျက်စီးပြီးသည့်နောက် ချမ်းသာကင်းသော မကောင်းသူတို့အားရောက်ရာ ဖရိုဖရဲ ပျက်စီးကျရာဖြစ်သော ငရဲသို့ကျရောက်ပါမူ ကောင်းလေစွတကားဟု ဤသို့ အလိုရှိကြသည်။

ငရဲသို့ကျရောက်စေတတ်သော ကမ္မပထမြောက်သော၊ အကုသိုလ်စရိုက်အားပြုသောသူသည် မိမိသန္တာန်၌ အကုသိုလ်တရားဖြစ်လာသည်ကို မပယ်ရှားဘဲ မဆုတ်နစ်ဘဲ သည်းခံ နှစ်သက်နေလျှင် ထိုအကုသိုလ်၏ ဒုက္ခအကျိုးအား နှစ်သက်သည်ဖြစ်၍ ဒုက္ခကိုဖြစ်စေသော ငရဲအားသည် အလိုရှိကြကုန်သတည်း။



'ဘူမိ'သည် ပါဠိစကားဖြစ်ပြီး မြန်မာပြန်သော် 'ဘုံ'ဖြစ်၏။ သတ္တဝါတို့၏တည်နေရာ အရပ်အား ခေါ်ဆိုခြင်းဖြစ်သည်။

ထိုဘုံအား အနက်ဖွင့်သော်...

၁။ အပါယ်လေးဘုံ

၂။ ကာမသုဂတိ (၇)ဘုံ

၃။ ဗြဟ္မာ (၂၀) ဘုံ

ဘုံများအား စုပေါင်းလိုက်သော် (၃) ဘုံရှိသည်ကို တွေ့ရ၏။

**၁။ အပါယ်လေးဘုံ**

(က) ငရဲဘုံ

(ခ) တိရစ္ဆာန်ဘုံ

(ဂ) ပြိတ္တာဘုံ

(ဃ) အသူရကာယ်ဘုံ စသည်တို့တည်း။

အပါယ်လေးဘုံ၌ ပါဝင်သော 'ငရဲဘုံ' ဟူသည်မှာ ယခု လူ့ပြည်၊ လူ့ဘုံ၊ လူ့ရပ်မှ အကုသိုလ်ပြစ်မှုများ ကျူးလွန်ကျရောက်ခံစားရစေရန် လူ့ဘုံ၌ အကျဉ်းထောင်များတည်သကဲ့သို့ သတ္တဝါတို့တည်နေရာ၊ ဤမြေကမ္ဘာဝယ် မကောင်းမှုဒုစရိုက် ကျူးလွန်သူတို့ ကျရောက်ခံစားစေရန် ငရဲဘုံ၊ ငရဲထောင်များ တည်ရှိနေ၏။

ထိုငရဲဘုံ၊ ငရဲထောင်များသည်ကား သတ္တဝါတို့၏ကံသာလျှင် အရင်းခံ၍ ဥတုကြောင့် ဖြစ်နေသော (ကမ္မပစ္စယ) ဥတုစရုပ်များ ဖြစ်သည်။

အပါယ်ဘုံဆိုသည်မှာ ကုသိုလ်ကောင်းမှုဟု သမုတ်အပ်သော ဒါန စသည့်ဝဍ္ဍပြစ္စရာ ချမ်းသာမင်္ဂလာနှင့်ကင်းသောအရပ်သည် အပါယ်ဘုံ ဖြစ်၏။

ငရဲဘုံဆိုသည်မှာ ကြီးပွားကြောင်း၊ ချမ်းသာကုသိုလ်မင်္ဂလာဟူ၍ အလျဉ်းမရှိ။ ကင်းသော သဘောရှိသည်။ ထို့ကြောင့် ငရဲဘုံဟု ခေါ်သည်။

ဤဘုံတွင် ငရဲသူငရဲသားတို့သည် ပူလောင်တုန်ခိုက်ဆင်းရဲခြင်းသို့ ဆိုက်ကုန်လျက် အမြဲမပြတ် တုန်တုန်လှုပ်လှုပ် ငုတ်ချည်ပေါ်ချည် စသည်မပြတ် ဆင်းရဲအထပ်ထပ်တို့ဖြင့် မပြတ်ခံစားနေရသောသဘော ရှိသည်။ ချမ်းသာမရှိ၊ ဆင်းရဲအတိဖြစ်ရာအရပ်သည် ငရဲဘုံ ဟု ခေါ်သည်။



## ငရဲမင်းအကြောင်း သိကောင်းစရာ

လူ့ဘုံခန်းဝါဝယ် တရားရုံးအား အစိုးရသည် တရားသူကြီးမင်းများ ရုံးထိုင်နေသကဲ့သို့ ငရဲပြည်၊ ငရဲဘုံ၌လည်း ယမမင်းတို့သည် ငရဲဘုံ၏တံခါးလေးဘက်၌ ရုံးစိုက်ကြပြီး ငရဲသို့ ရောက်လာသူများအား စစ်ဆေးမေးမြန်းခြင်းပြုကြ၏။

ယမမင်းသည် တစ်ယောက်မက လူ့ဘုံလောက၊ လူ့ပြည်တွင် ဒေသဆိုင်ရာအလိုက် တရားရုံးများ၌ တရားသူကြီးများရှိသကဲ့သို့ ငရဲပြည်၌လည်း ယမမင်းများစွာ ရှိ၏။

ထိုယမမင်းတို့သည် စတုမဟာရာဇ်နတ်တို့တွင် အပါအဝင်ဖြစ်သည့် ဝေမာနိကပြိတ္တာမင်းဖြစ်ပြီး ၄င်းအား ယမမင်းဟု ခေါ်သည်။

ယင်းတို့သည် တစ်ခါတစ်ရံ နတ်စည်းစိမ်အား ခံစားကြရ၍ တစ်ခါတစ်ရံ မကောင်းကံအကျိုးကို ရိုးရိုးပြိတ္တာများကဲ့သို့ပင် ခံစားရရှာသေး၏။

သို့နှယ်ပင် ယမမင်းသည် ကြောက်မက်ဖွယ်ရာ ငရဲဘုံ၏အကြီးအကဲတစ်ဦးမဟုတ်။ ယမမင်းတို့သည် ငရဲဘုံသို့ ရောက်လာသူတိုင်းအား တစ်ခါတည်း ငရဲသို့ ဆွဲချသူမဟုတ်။

အကုသိုလ်ကြီးသူ၊ ပဉ္စာနန္တရိယကံထိုက်သူများ၊ ပြစ်မှုထင်ရှားလိုသူတို့အား အစစ်အဆေး မရှိ တစ်ခါတည်း ငရဲသို့ ပို့ရလေသည်။

အကုသိုလ်နည်းပါးသူများအတွက်မူ လွတ်လိုလွတ်ငြားအနေနှင့် ယမမင်းထံ အစစ်အမေး ခံခွင့်ရလေသည်။

ယင်းသို့ ယမမင်းက စစ်ဆေးသည်မှာ အပြစ်ရှာလို၍မဟုတ်။ လွတ်သင့်သူအား လွတ်စေလိုက်သောကြောင့် ဖြစ်သည်။ ယခု လူ့ပြည်ရှိ အယူခံရုံးများမှ တရားသူကြီးများနှင့် တူသည်။

စင်စစ် ငရဲသနင်း ယမမင်းသည် ကြမ်းတမ်းရက်စက်သည့်မင်း မဟုတ်။ တရားစောင့်သော မင်းကောင်းမင်းမြတ်ဖြစ်သည်ကို သိထားသင့်သည်။

(ဥပရိပဏ္ဏာသ၊ ဒေဝဒူတသုတ်)



## ယမမင်းစစ်ဆေးခန်း

ဝေဒူတသုတ္တန်ပါဠိတော်၌ ယမမင်းသည် မိမိ၏ရှေ့မှောက်သို့ရောက်လာသည့် ငရဲသားများအား ဝေဒူတ ငါးမျိုးအားခေါ်ပြလျက် စစ်ဆေးလေ့ရှိသည်ဟု အဆိုရှိသည်။

ဒေဝဒူတငါးပါးဆိုသည်မှာ လူ့ပြည်၌ရှိသော-

၁။ ကလေး

၂။ လူအို

၃။ သူနာ

၄။ သူသေ

၅။ အကျဉ်းသား

ယင်းငါးမျိုးမှာ ယမမင်းမှ စေလွှတ်သည့် တမန်မဟုတ်သော်လည်း အလားတူဖြစ်သောကြောင့် ဒေဝဒူတ (ယမမင်းတမန်) ဟု ခေါ်သည်။

ယမမင်းက ငရဲသို့ရောက်လာသောသူများအား ကြင်နာစွာဖြင့် ဤသို့ စစ်ဆေးမေးမြန်းပါသည်။

ယမမင်း- "မောင်မင်း...လူ့ပြည်မှာရှိတုန်းက မိမိ၏ကျင်ကြီးကျင်ငယ်ကို မသုတ်သင်နိုင်ဘဲ ကျင်ကြီးကျင်ငယ်ထဲက လူးကာလိမ့်ကာနေရသောကလေးများကို မတွေ့ခဲ့ရဘူးလား"

ငရဲသား- "တွေ့ခဲ့ဖူးပါသည်"

ယမမင်း- "မိမိကိုယ်တိုင် နားလည်သောအရွယ်သို့ရောက်သောအခါ ထိုကလေးများကို

ကြည့်ရှု၍ ငါသည် ဘာမျှနားမလည်သော ယခုလို ကလေးသူငယ်ဖြစ်ဖို့ရာ နောင်အခါ ပဋိသန္ဓေနေရဦးမည်၊ ပဋိသန္ဓေနေရခြင်းသဘောကို မလွန်ဆန်နိုင်သေးပါလား။ ယခုကပင် ကိုယ်၊ နှုတ်၊ စိတ်များအား စောင့်စည်းလျက် ကောင်းကောင်းနေမှသာ တော်တော့မည်ဟု အကြံအစည်များ မပေါ်ခဲ့ဖူးလား မောင်မင်း"

ငရဲသား- "ကျွန်တော် မေ့လျော့နေသည့်အတွက် ကုသိုလ်ကောင်းမှုဘက်၌ စိတ်မဝင် စားမိခဲ့ပါ"

ယမမင်း- "မောင်မင်း…မကောင်းမှုကို ဆွေမျိုးဉာတကာ၊ ဆရာ၊ မိဘ စသည်တို့ ကပြုပေးသည်မဟုတ်။ မောင်မင်းကိုယ်တိုင် ပြုခဲ့သည်ဖြစ်၍ မိမိ၏အပြစ်ဒဏ်ကို မေ့လျော့ သူတို့ထုံးစံအတိုင်း မောင်မင်း ခံရချေတော့မည်"

ဤနည်းအတိုင်း သူအိုအားညွှန်ပြကာ ဒုတိယအကြိမ် မေး၏။ သို့နှယ်ပင် သူနာအား ညွှန်ပြ၍ တတိယအကြိမ် မေး၏။

သူသေကို ညွှန်ပြ၍ စတုတ္ထအကြိမ် မေး၏။

အကျဉ်းသားကိုညွှန်ပြ၍ ပဥ္စမအကြိမ် မေး၏။

ဤသို့ ယမမင်းက ငါးကြိမ်တိုင်တိုင် မေး၍ ငရဲသားက ကုသိုလ်ကောင်းမှုအား သတိမရသေးလျှင် ယမမင်းကိုယ်တိုင်-

"လူ့ဘဝဝယ် ထိုသူ ကုသိုလ်ကောင်းမှုပြုသည့်အခါတုန်းက မိမိအား အမျှဝေခဲ့ဖူး သလား" ဟု စဉ်းစား၏။

(ဤအချက်အားထောက်ရှု၍ ကုသိုလ်ကောင်းမှုပြုသောအခါ ယမမင်းအား အမျှတည်၍ ပေးသင့်သည်ကို သတိပြုစေလိုသည်။)

ယမမင်းသည် စဉ်းစား၍ရလျှင် ထိုကုသိုလ်အား ဖော်ပြပေး၏။ ယမမင်းကပြောခြင်း ကြောင့်ဖြစ်စေ၊ မိမိဘာသာ သတိရ၍ဖြစ်စေ ကုသိုလ်ကို သတိရသည်နှင့်တစ်ပြိုင်နက် ငရဲမှ လွတ်မြောက်၍ နတ်ပြည်သို့ရောက်ရသည်။

(ထိုအချိန်၊ ထိုနေရာမျိုးကျမှ မိမိတို့ပြုခဲ့သည့် ကုသိုလ်များအားထားရကြောင်း ထင်ရှား သည်ကို သတိပြုစေလိုပါသည်။)

ယမမင်းကိုယ်တိုင် စဉ်းစား၍မရသောအခါတွင် ယမမင်းသည် ဆိတ်ဆိတ်နေ၏။ ထိုအခါ ငရဲသားတို့အား ငရဲထိန်းတို့က ခေါ်ယူဆောင်သွားကြပြီး အကုသိုလ်ကံအလိုက် ငရဲဘုံအလိုက် နှိပ်စက်ညှဉ်းပန်းကြသည်။

## ငရဲထိန်းဟူသည်

ယမမင်း၏လက်အောက်ခံ ငရဲထိန်းတို့သည်လည်း စတုမဟာရာဇ်နတ်မျိုးအပါအဝင်ဖြစ်သည့် နတ်ဘီလူး၊ နတ်ရက္ခိုက်များ ဖြစ်သည်။

ယင်းငရဲထိန်းတို့အလုပ်သည် အနည်းငယ်သောအကုသိုလ်ကံဖြင့် ငရဲဘုံသို့ ရောက်ရှိလာသူတို့အား ယမမင်းထံ ပို့ပေးရခြင်းနှင့် ငရဲသို့ကျရောက်ပြီးသောသူများအား အာဏာပါးကွက်သားများကဲ့သို့ ရက်စက်ကြမ်းကြုတ်စွာ သတ်ပုတ်ညှဉ်းဆဲရခြင်းအလုပ်ကို ပြုလုပ်ဆောင်ရွက်ရ၏။

စင်စစ် ငရဲမီး အစရှိသည့် အန္တရာယ်အစုစုတို့သည် ကံကြောင့်ဖြစ်ရသော (ကမ္မပစ္စယ)၊ ဥတုအရုပ်တရားများဖြစ်သဖြင့် ငရဲခံရသူများသာ ထန်ပြင်းပြီး ငရဲထိန်းတို့အတွက် အန္တရာယ်မရှိချေ။

## အမျိုးစုံသည့် ငရဲဘုံများ

ငရဲဘုံသည် ငရဲကြီးဘုံ၊ ငရဲငယ်ဘုံဟူ၍ရှိလေရာ ငရဲကြီး (၈) ထပ်ရှိပြီး ငရဲကြီးအား ရံနေသည့် ငရဲငယ်ဘုံ (၁၂၈) ဘုံရှိကြောင်း မှတ်သားရ၏။

ငရဲကြီးရှစ်ထပ်မှာ-

၁။ သဉ္ဇိုင်းငရဲ

၂။ ကာလသုတ်ငရဲ

၃။ သံဃာတငရဲ

၄။ ရောရုဝငရဲ

၅။ မဟာရောရုဝငရဲ

၆။ တာပနငရဲ

၇။ မဟာတာပနငရဲ

၈။ အဝီစိငရဲ စသည်တို့ဖြစ်ကြသည်။

စင်စစ် ငရဲငယ် (၁၂၈) ဆိုသည်က ငရဲကြီး (၈)ထပ်တို့တွင် ငရဲကြီးတစ်ထပ်၌ အရပ်လေးမျက်နှာစီ ခြံရံ၍နေသော 'ဥဿဒငရဲ'များအား ငရဲငယ်ဟု ခေါ်သည်။

ငရဲငယ်လေးထပ် ရှိ၏။

ငရဲငယ်လေးထပ်မှာ-

၁။ ဘင်ပုပ္ပာငရဲ

၂။ ပြာပူငရဲ

၃။ လက်ပံတောငရဲ

၄။ သံလျက်အရွယ်ရှိသည့် အသိပတ္တသစ်ပင်တောငရဲ **စသည်တို့ဖြစ်သည်။**

ဤသို့အားဖြင့် ဥဿဒငရဲငယ်ပေါင်း (၄)ပါးစီ **ရှိသည်။ အရပ်လေးမျက်နှာဖြင့်** မြှောက်ပါက ငရဲကြီး တစ်ထပ်လျှင် ငရဲငယ် (၁၆) ထပ်ရှိသည်။ ယင်းငရဲငယ် (၁၆)ထပ်ကို ငရဲကြီး (၈)ထပ်နှင့်မြှောက်ပါက (၈ × ၁၆ = ၁၂၈) ရှိသည်ဟု ဆိုရမည်။

အဆိုတစ်နည်းက ဥဿဒငရဲငယ် (၅) မျိုးရှိသည်ဟု မှတ်သားရပြန်၏။ ယင်း (၅)မျိုးမှာကား မူလငရဲငယ် (၄) ပါးထဲသို့-

"အဆူးရှိသော ကြိမ်နွယ်တို့ဖြင့် ပြိုးပြွမ်း၍ သံပူရည်၊ ကြေးပူရည်တို့ဖြင့် ပြည့်သော ဝေတ္တရဖြစ်ငရဲဟူသည် ငရဲငယ်တစ်ပါးအား ပေါင်းထည့်လိုက်ပါက (၅) မျိုးရှိသည်ဟု အဆိုရှိ၏။

ယင်းအား အရပ် (၄)မျက်နှာနှင့်မြှောက်ပါက ငရဲကြီးတစ်ထပ်တွင် ငရဲငယ် (၂၀) ရှိသည်။ ငရဲငယ် (၂၀) အား ငရဲကြီး (၈)ထပ်နှင့် မြှောက်လျှင် အခြံအရံငရဲငယ်ပေါင်း (၁၆၀) ရှိသည်ဟု အဆိုရှိ၏။



## သီးခြားငရဲတစ်မျိုး
## သို့မဟုတ်
## လောကန္တရိတ်ငရဲ

ထိုထိုသောငရဲငယ်များအပြင် စကြာဝဠာသုံးခုတိုင်း ဖိုခနောက်ဆိုင်အကြား၌ သီးခြား တည်ရှိသော လောကန္တရိတ်ငရဲ ၈ မျိုးရှိနေသေးသည်ဟု ကျမ်းကပြဆို၏။

စကြာဝဠာမြေဝိုင်းသုံးခုစပ်၍ တည်နေသည်။ ယင်းတို့၏အကြားအကြားဖြစ်သော အပေါက်ကြီးသည် အောက်သို့ ကမ္ဘာရေတိုင်အောင် ဟုတ်ချင်းခတ်နက်သည်။ အထက်သို့ လည်း ကောင်းကင်တိုင်သို့ တိုင်ဖောက်၏။

ယင်းချောက်ကြီးအား လောကန္တရိတ်ဟု ခေါ်သည်။

ယင်းကို ကမ္ဘာချောက်ကြီးဟုလည်း ခေါ်၏။ ယင်းသည် ယူဇနာရှစ်ထောင် ကျယ်သည်။

စကြာဝဠာတောင်ကြီး ပိတ်ဆီးကာရံထားသောကြောင့် နေရောင်၊ လရောင် တစ်ခါဖူးမျှ ကျရောက်ခြင်းမရှိ။ အမြဲ အမှောင်ကျနေ၏။

ဘုရားအလောင်းတော်များ သန္ဓေယူသည့်အခါ၊ ဖွားတော်မူသည့်အခါ၊ ဘုရားဖြစ်တော် မူသည့်အခါများတွင်၌သာ လျှပ်ပြက်သကဲ့သို့ ခဏ္တခဏ အလင်းရောင်အား မြင်ရသည်ဟု အဆိုရှိ၏။

ယင်းကမ္ဘာချောက်ကြီး၏ အောက်တည့်တည့် ကမ္ဘာမှောင်ထဲ၌ရှိသော ရေသည် အလွန်တရာ အေးမြလှသည်။ သတ္တဝါတို့အား အေးမြခြင်းဖြင့် ရုတ်တရက် သေစေသည်။ ယင်းရေအစုအား ကမ္ဘာရေချမ်းအိုးကြီးဟုလည်း ခေါ်သည်။ ယင်းကမ္ဘာချောက်ကြီးထဲသို့ ကျရောက်ရသော ငရဲသားတို့ကို လောကန္တရိတ်ငရဲသားဟု ခေါ်သည်။

## (က) လောကန္တရိတ်ငရဲသို့ ကျရောက်ရသောသူတို့၏ အကုသိုလ်ကံ

ဤလောကန္တရရိတ်ငရဲသို့ ကျရောက်နိုင်သောသူများမှာ 'ကျေးဇူးကြီးလှသော အမိ၊ အဖတို့အား ဆဲရေးတိုင်းထွာသူများ အော်ငေါက်သူများ၊ မထီမဲ့မြင်ပြုခြင်း၊ မရိုမသေပြုခြင်း၊ အပြစ်ကို ဝန်ချတောင်းပန်ကန်တော့မှု မရှိခြင်း...စသည့်အပြစ်များအား ကျူးလွန်သော သားဆို၊ သမီးဆိုးများ ကျခံရသည့်ငရဲဖြစ်သည်။ မုချခံရမည် ဖြစ်သည်။

ထို့အပြင် တရားဓမ္မကျင့်ကြံကျိုးကုတ် အားထုတ်နေသော ရဟန်းမြတ်နှင့် သူတော်ကောင်းတို့အား ပြစ်မှားစော်ကားကျူးလွန်သူများနှင့် နေ့စဉ်နေ့တိုင်း သတ္တဝါတို့အား သတ်ဖြတ်နေသူများ၊ ညှဉ်းပန်းနှိပ်စက်ပြုနေသူများနှင့် မကောင်းမှုဒုစရိုက်ပြုသူများသည် ဤငရဲ၌ ကျရောက်ခံစားရသည်။

အဋ္ဌကထာ၌ ပြဆိုထားသည်မှာ နာဂသူပုန်ကြီးနှင့် အဘယ်သူပုန်ကြီးတို့သည် ဤငရဲ၌ ကျရောက်နေသည်ဟု ဆိုသည်။

## (ခ) ငရဲခံစားရပုံ

ဤလောကန္တရိတ်ငရဲသို့ ကျရောက်ကြကုန်သောသတ္တဝါတို့သည် ခန္ဓာကိုယ်သုံးဂါဝုတ်ရှိ၏။ လင်းနို့နှင့်တူသည်။ သူတို့၏ခြေသည်းလက်သည်းများသည် ရှည်ကြ၏။

သစ်ပင်၌ လင်းနို့များ ကပ်နိုင်ချိတ်နိုင်တွယ်နိုင်သကဲ့သို့ ငရဲသားများသည်လည်း စကြာဝဠာတံတိုင်း၌ ချိတ်တွယ်နေကြလေသည်။ အစာရေစာ မရှိကြ။

အချင်းချင်းမဖြစ်ကြသည့်အခါ တစ်ကောင်နှင့်တစ်ကောင် ထိတိုက်မိခြေသာအခါ 'ငါ့အစာ' ဟု ထင်မှတ်ကြပြီး အချင်းချင်း ကိုက်စားကြ၏။

ထိုအခါ စကြာဝဠာခန်းရံ၌ ချိတ်ထားရာမှ ပြုတ်ကျပြီး ရေထဲကျကြ၏။ အေးမြသော ရေထဲ၌ တမြည့်မြည့်ကြေ၍ သေကြရ၏။

တဖန် လင်းနို့သဖွယ် ပြန်ဖြစ်ပြီး ကံမကုန်မချင်း အဖန်ဖန်ခံစားနေရ၏။



၁။ သဉ္ဇိုင်းငရဲ(သင်းငိုးငရဲ) လူဖြစ်စဉ်က အနိုင်အထက်ဖိနှိပ်ချုပ်ချယ် နှိပ်စက်တတ်သော လူမိုက်များ
နှိပ်စက်ညှင်းဆဲသတ်ဖြတ်တတ်သော ခိုးသား၊ ဓားပြ လူဆိုးများကျခံရသည်။

## ငရဲကြီး (၈)ထပ် သိမှတ်ဖွယ်

### ၁။ သိဉ္ဇိုဝ်းငရဲ

ငရဲကြီးရှစ်ထပ်တွင် သိဉ္ဇိုဝ်းငရဲသည် အထက်ဆုံးငရဲဖြစ်ပြီး လူ့ပြည်နှင့်အနီးဆုံး ဖြစ်သည်။ ထိုငရဲဘုံနှင့် လူ့ပြည်သည် ယူဇနာပေါင်း တစ်သောင်းငါးထောင် (၁၅၀၀၀) ကွာဝေးသည်။

သဉ္ဇိုဝ်းငရဲဟုခေါ်သည်မှာ ဤငရဲဘုံ၌ အဖန်တလဲလဲ အသက်ရှင်ပြီးခံရသောကြောင့် သဉ္ဇိုဝ်းငရဲဟု ခေါ်ပါသည်။ ထိုငရဲသည် အစောက်ယူဇနာတစ်ရာ၊ အနံ့အလျားယူဇနာ တစ်သောင်း ကျယ်ဝန်းသည်။

#### ငရဲခံစားရပုံ

ဤငရဲကြီးသည် အလျှံတပြောင်ပြောင် တောက်လောင်သော သံမြေပြင်ရှိသည်။ ငရဲသားတို့ အသချေ၊ အနန္တပြည့်နှက် ကျပ်တည်းစွာရှိသည်။ ငရဲထိန်းတို့သည် အလျှံတပြောင် ပြောင်တောက်ပနေသော ထန်းပင်လုံးပမာဏရှိသော ဓား၊ လှံ စသောလက်နက်တို့ဖြင့်

ငရဲသားတို့ကို ထိုးခုတ်ပစ်သတ်ကြသည်။ ငရဲသားတို့၏ဦးခေါင်းကို အပိုင်းပိုင်းဖြတ်ကြသည်။ လက်ခြေတို့ကို ဖြတ်တောက်ကြသည်။

သံမြေပြင်၌ လူးလဲနေကြကုန်သော ငရဲသားတို့ကို ကြီးစွာသော သံတင်းပုတ်ကြီးဖြင့် အတင်းထုနှက်ကြသည်။ အသားအရေ၊ အကြောအရိုးတို့သည် ကြေမွကုန်သည်။ သွေးတို့သည် မြေကြီးဖြစ်၍ လှိုင်းတံပိုးထကာ ပြင်းထန်စွာ စီးသွားကုန်သည်။ ထိုအသွေးအသား အလုံးစုံ တို့ကို သံမြေမှ မီးလုံးကြီးသည် ထလာပြီး ဟပ်လိုက်လျှင် အကြွင်းအကျန်မရှိ လောင်ကျွမ်း ကုန်ခန်းသွားလေသည်။

ကံမကုန်သရွေ့ ခံစားကြရသည်။ ကံစီရင်မှုကြောင့် တဖန် ဥပပါတ်ဇာတိအားဖြင့် ပကတိဖြစ်မြဲပြန်ဖြစ်ပြီး တဖန် ပြန်ခံရသည်။ ထိုငရဲသည် များစွာသော သတ္တဝါတို့သတ်ဖြတ် ရာ မဟာသချိုင်းနှင့်တူသည်။ သားသတ်ရုံကြီးနှင့်တူသည်ဟု တင်စားဆိုသည်။

### သဉ္ဇိုဝ်းငရဲသက်တမ်း

လူတို့၏အနှစ် (၅၀) သည် စတုမဟာရာဇ်နတ်၏ (၁)ရက် ဖြစ်သည်။

စတုမဟာရာဇ်နတ်တို့၏ နတ်သက် (၅၀၀) သည် သဉ္ဇိုဝ်းငရဲ၌ (၁) ရက်ဖြစ်သည်။

သဉ္ဇိုဝ်းငရဲတစ်ရက်မှာ လူတို့အရေအတွက်အားဖြင့် အနှစ်ကိုးသန်း ရှိသည်။

သဉ္ဇိုဝ်းငရဲသက်သည် အနှစ် (၅၀၀) သက်တမ်း ရှိသည်။

(ယင်းကို လူတို့၏ နှစ်၊ လ အရေအတွက်တို့ဖြင့် တွက်သည်ရှိသော ကုဋေပေါင်း တစ်သိန်းခြောက်သောင်းနှစ်ထောင် ရှိသည်။)

### သဉ္ဇိုဝ်းငရဲ၌ ခံကြရသူများ

တရားစောင့်သော ရဟန်းသူတော်ကောင်းတို့ ပြစ်မှားစော်ကားသောသူတို့သည် ဤငရဲ၌ ခံစားကြရသည်။





၂။ ကာဠသုတ်ငရဲ သူတစ်ပါးအားညှင်းဆဲနှိပ်စက်တတ်သော လူသတ်၊ ထောင်မှူး၊ အရာထမ်း၊
အမှုထမ်း၊ အကျင့်ပျက်သော လူ၊ ရဟန်းတို့ကျခံရသည်။

## ၂။ ကာလသုတ်ငရဲ

ဤငရဲသို့ကျရောက်ကြသော သတ္တဝါတို့ကို မည်းနက်သော မျဉ်းကြောင်းဆွဲပြီးလျှင် မျဉ်းကြောင်းအတိုင်း ပဲခွပ်၊ ပုဆိန်၊ ဓားမ၊ လွှကြီး၊ လွှငယ်တို့ဖြင့် ရွေကြ၊ ခုတ်ကြ၊ ကိုက်ခွဲကြသောကြောင့် ကာလသုတ်ငရဲဟု ခေါ်သည်။

ယင်းငရဲသည် သဉ္ဇိုဝ်းငရဲအောက် ယူဇနာတစ်သောင်းငါးထောင်ကွာတွင် ရှိသည်။ မြေလိုဏ်ဥမင်ကြီးသဖွယ် ယူဇနာတစ်သောင်း ကျယ်ဝန်းသည်။

### ငရဲသားတို့ ခံကြရပုံ

အလျှံတပြောင်ပြောင်တောက်သော သံမြေပြင်ရှိသည်။ ငရဲသူငရဲသား အသချေ်အနန္တ ပြည့်နှက်ကျပ်တည်းစွာ ရှိသည်။

ငရဲထိန်းတို့သည် အလျှံတပြောင်ပြောင်တောက်သော လက်နက်မျိုးစုံတို့ဖြင့် ပစ်ခတ်ကြပြီး ငရဲသားတို့ကို သံမြေပြင်၌ လဲကျစေသည်။ ငရဲသားတို့လဲကျနေစဉ် ငရဲထိန်းတို့သည် ထန်းလုံးပမာဏရှိသော သံပန္နက်ကြီးတို့ဖြင့် မလှုပ်မယှက်နိုင်အောင် ခိုင်မြဲစွာ သံမြေ၌ စိုက်နှက်ကြသည်။

ထို့နောက် လွှသမားသည် သစ်လုံးတို့ တိုက်ခွဲရန် မျဉ်းသားဘိသကဲ့သို့ ငရဲသားတို့ကို မည်းနက်သောမျဉ်းတို့ဖြင့် ရေးသားကြသည်။ ထို့နောက် ငရဲထိန်းတို့က အိမ်မိုးတစ်ခြမ်း ပမာဏရှိသော ဓားမကြီးတို့ဖြင့်လည်းကောင်း၊ တစ်ခြမ်းပဲ့ကျောက်တောင်ပမာဏရှိသော ပဲခွပ်၊ ပုဆိန်တို့ဖြင့်လည်းကောင်း၊ မျဉ်းကြောင်းအတိုင်း ခုတ်ကြ၊ ခွဲကြ၊ မြှောက်ကြ၊ စိတ်ကြကုန်၏။ အလွှာအလွှာ ခွာ၍ခွာ၍ ရွေကြကုန်သည်။ ကြီးမားထက်မြက်သော အစွယ်ရှိသော ငရဲလွှကြီးတို့ဖြင့်လည်း တိုက်ခွဲကြသည်။ ငရဲသားတို့သည် အပြားပြား ပျဉ်ပြားကြီးတွေ ဖြစ်ကြကုန်သည်။ အစိတ်အစိတ်တွေ ဖြစ်ကုန်ကြကုန်သည်။

ထို့ပြင် အကြမ်းခွဲခြင်း၊ အနုစိတ်ခွဲခြင်း စသောအမျိုးမျိုးသော တိုက်ခွဲခြင်း၊ အကြမ်းရွေခြင်း၊ အနုရွေခြင်း စသောအမျိုးမျိုးသော ရွေခြင်းတို့ကို အဆင့်ဆင့်ပြုကြကုန်သည်။ ငရဲထိန်းတို့ပြုသမျှကို ငရဲသားတို့မှာ ပက်လက်စင်းကာ ခံကြရသည်။ သွေးတို့သည် ချောင်းကဲ့သို့ စီးကုန်၏။

မကြာခင် သံမြေမှထသော မီးတို့သည် ထိုအစိတ်အမွှာ၊ အလွှာ၊ အချပ်တို့ကို ခဏချင်းဖြင့် အကုန်လောင်ကျွမ်းကုန်သည်။ ပြာမှုန်မျှ အကြွင်းမရှိ။

ငရဲသားတို့သည် ကံမကုန်သမျှ ဥပပတ်ဇာတိအားဖြင့် ပကတိ ထပ်ကာထပ်ကာ ဖြစ်ကာ ဆင်းရဲစွာ ခံစားရပြန်သည်။ ထိုငရဲကို သတ်ဖြတ်ရာဌာနဖြစ်၍ မဟာသဉ္ဇိုင်းကြီးဟူ၍လည်းကောင်း၊ အမျိုးမျိုးခွဲစိတ်ရာ လွှစက်ရုံကြီးဟူ၍လည်းကောင်း ခေါ်ဆိုသမုတ်သည်။

**ငရဲ၏သက်တမ်း**

လူတို့၏အနှစ်(၁၀၀)သည် တာဝတိံသာနတ်တို့၏တစ်ရက် ဖြစ်သည်။ တာဝတိံသာနတ်တို့၏ နတ်သက် (၁၀၀၀) သည် ကာလသုတ်ငရဲ၌ တစ်ရက် ဖြစ်သည်။ ကာလသုတ်ငရဲတစ်ရက်မှာ လူတို့၏အရေအတွက်အားဖြင့် သုံးကုဋေခြောက်သန်း ရှိသည်။

ကာလသုတ်ငရဲ၏သက်တမ်းသည် အနှစ် (၁၀၀၀) ရှိသည်။

**ကာလသုတ်ငရဲ၌ ခံစားကြရသူများ**

ဤငရဲ၌ ရဟန္တာသခင် သူတော်စင်တို့ကို မရှိမသေ မလေးမစား လက်ဝါး၊ တုတ်၊ လုံ့တန် စသည်တို့ဖြင့် ညှဉ်းဆဲသောသူများ၊ ဥစ္စာကိုလိုသောလောဘ၊ အမျက်ထွက်ခြင်း ဒေါသတို့ကြောင့် အမိအဖတို့ကို ညှဉ်းဆဲပုတ်ခတ်နှိပ်စက်သောသူတို့သည် ကျရောက်ခံစားကြရသည်။





၃။ သံဃာတငရဲ လူဖြစ်စဉ်က သတ္တဝါများအားသတ်ဖြတ်ညှင်းဆဲသူ၊ အကျင့်သီလဖောက်ပြန်သူများ ခံစားရသော ငရဲဖြစ်သည်။

## ၃။ သံဃာတငရဲ

ဤငရဲ၌ဖြစ်ကြကုန်သော ငရဲသားတို့ကို အလျှံတပြောင်ပြောင်တောက်ပြီး ကြီးကျယ်မြင့်မားကုန်သော သံတောင်ကြီးများက အဖန်တကဲကဲ ကြိတ်ဝါးကြသဖြင့် မှုန်မှုန်ညက်ညက်ကြေမွသည်တို့ကိုပြုတတ်သောငရဲကို သံဃာတငရဲဟု ခေါ်သည်။

ဤသံဃာတငရဲသည် ကာလသုတ်ငရဲအောက် ယူဇနာ (၁၅၀၀၀) ကွာသော မြေဥမင်လိုဏ်အတွင်း၌ ရှိသည်။ ယူဇနာတစ်သောင်း ကျယ်ဝန်းသည်။

### ငရဲသားတို့ ခံစားရပုံ

ငရဲသားတို့သည် အလျှံတပြောင်ပြောင်တောက်လောက်နေသော သံမြေပြင်၌ ထန်းပင်များပမာ မတ်တတ်ရပ်နေကြရသည်။ ငရဲသားတို့၏ကိုယ်သည် သုံးဝါဝုတ်မျှ ကြီးကျယ်သောကိုယ်ရှိကြသည်။ ကိုယ်တစ်ဝက်သည် သံမြေအတွင်း၌ ခါးထိမြုပ်နေကြ၍ မလှုပ်ရှားနိုင်ကြ

ထိုငရဲသားတို့သည် ထန်းတောကြီးများ၊ ပေတောကြီးများ၊ ကွမ်းသီးပင်တောကြီးများ၊ အုန်းပင်တောကြီးပမာဏ မတ်တတ်ရပ်သောကိုယ် ရှိကြသည်။ ငရဲသားတို့သည် ပြည့်နှက်ကျပ်တည်းနေသည်။ ထိုအခါ အရပ်လေးမျက်နှာမှ ကြီးကျယ်မြင့်မားလှစွာကုန်သော အလျှံတပြောင်ပြောင် တောက်လောင်နေသော ငရဲတောင်ကြီးတို့သည် အလှည့်အလည်အားဖြင့် ကြီးမားသောအသံကို မြည်ဟည်းကြိမ်းဝါးလျက် သံတလိမ့်ကြီးပမာ ရက်စက်စွာ ကြိတ်နှင်းသွားကြသည်။

ထိုသံတောင်တလိမ့်တုံးကြီးတို့သည် သတ္တဝါတို့၏အကုသိုလ်ကံအတွက် ကမ္ဘာတည်ဦးစကပင် ပေါ်ထွန်းလာသောအရာများ ဖြစ်ကြသည်။

ထိုသံတောင်တလိမ့်တုံးကြီးများသည် အရှေ့မျက်နှာမှ အနောက်မျက်နှာသို့၊ အနောက်မျက်နှာမှ အရှေ့မျက်နှာသို့၊ တောင်မှမြောက်သို့၊ မြောက်မှတောင်သို့ အလှည့်ကျ ကြိတ်နှင်းသတ်ဖြတ်သွားသည်။ ငရဲသားတို့မှာ သွေးဝနေသော မျှော့သတ္တဝါကို ဖိနှိပ်ညှစ်လိုက်သကဲ့သို့ သွေးတို့သည် သမုဒ္ဒရာလှိုင်းကြီးမက တစ်ဟုန်တည်း ထပြီး ငရဲတံတိုင်းကြီးကို ရိုက်ခတ်လေသည်။

ငရဲမီးလျှံတို့သည် သံမြေပြင်မှ ထတောက်ပြီးလျှင် ထိုသွေးယှိုင်းကြီးတို့ကို တစ်ဟုန်တည်း လောင်ကျွမ်းခန်းခြောက်အောင် ပြုလုပ်သည်။ ငရဲသားတို့သည် ကံမကုန်မချင်း ဥပပတ်ဇာတိအားဖြင့် ထပ်ကာထပ်ကာဖြစ်၍ ခံကြရကုန်၏။ ကံမကုန်သမျှ မလွတ်ကြရချေ။

## ငရဲသက်တမ်း

လူတို့၏အနှစ် (၂၀၀)သည် ယာမာနတ်တို့၏တစ်ရက် ဖြစ်သည်။

ယာမာနတ်တို့၏နတ်သက် (၂၀၀၀)သည် သံဃာတငရဲ၌ တစ်ရက် ဖြစ်သည်။

သံဃာတငရဲတစ်ရက်မှာ လူတို့ နှစ်အရေအတွက်အားဖြင့် ၁၄ ကုဋေ၊ ၄ သန်းရှိသည်။

သံဃာတငရဲ၏သက်တမ်းသည် အနှစ် (၂၀၀၀) ဖြစ်သည်။

## ဤငရဲ ခံစားရသူများ

ဤငရဲ၌ သူ့အသက်ကို သတ်ဖြတ်ခြင်း စသောမကောင်းမှုအကုသိုလ်ဒုစရိုက်အမှုတို့ကို ပြုသောသူတို့သည် ကျရောက်ခံစားကြရပါသည်။





၄။ ရောရုဝရဲ့ အကုသိုလ်အလုပ်ဖြစ်သော တံငါးသည်၊ တောလိုက်မုဆိုး၊ ငှက်မုဆိုးနှင့်ရေသတ္တဝါ၊ ကုန်းသတ္တဝါတို့အား နှိပ်စက်သတ်ဖြတ်သူတို့ ခံစားကြရသည်။

## ၄။ ရောရုဝငရဲ

ဤငရဲ၌ ဖြစ်ကြကုန်သော သတ္တဝါတို့သည် ကြီးကျယ်ပြင်းထန်စွာသောအသံတို့ဖြင့် မရပ်မနား ငိုကြွေးမြည်တမ်းနေကြရသော ဆင်းရဲဒုက္ခကို ခံစားရသောငရဲ ဖြစ်သည်။

ဤရောရုဝငရဲသည် သံဃာတငရဲအောက် အစောက်ယူဇနာ (၁၅၀၀၀) ဝေးကွာသော မြေလိုဏ်ဥမင်အတွင်းဝယ် ယူဇနာပေါင်းတစ်သောင်းအပြန့် ကျယ်ဝန်းသည်။

### ငရဲသားတို့ ခံစားရပုံ

ဤငရဲကြီးတွင် အလျှံတပြောင်ပြောင်တောက်နေသော သံမြေပြင်ရှိသည်။ တစ်ကမ္ဘာ ပတ်လုံးတည်သော အလွန်ငန်၊ ယား၊ စပ်၊ ခါး၊ ခြစ်တူး၊ အထူးပူလောင်သော အခိုးအငွေ့တို့ဖြင့် ပြည့်၍နေသည်။

ငရဲသားတို့သည် အသချေ်အနန္တ ပြည့်ညှပ်နေသည်။ ငရဲသားတို့၏ခန္ဓာကိုယ်သည် သုံးဂါဝုတ်မျှ ကြီးကျယ်သောကိုယ်ကာယ ရှိကြသည်။ တောင်ခေါင်းတွင်းလိုဏ်များသို့ ရေများ အတင်းဝင်စီးသကဲ့သို့ ထိုဆိုအပ်ခဲ့သော အခိုးအငွေ့တို့သည် ငရဲသားတို့၏ ဒွါရ ကိုးပေါက်မှ အတင်းဝင်ကြသည်။ မွေးညင်းမွေးပေါက်တို့မှလည်း အတင်းဝင်ကြလေသည်။

ငရဲသားတို့၏တစ်ကိုယ်လုံး၌ရှိသော အသား၊ အရိုး၊ ရိုးတွင်းခြင်ဆီမကျန် အလုံးစုံပွဲ့နှံ့၍ မွှေနှောက်ချောက်ချားကြကုန်၏။ အလွန်ပူပြင်းသော သံအိုးကင်းထက်၌ ဖုတ်၊ လှော်အပ်သော အမဲတစ်မှ အခိုးတခြောင်းခြောင်းထသကဲ့သို့ ငရဲသားတို့၏တစ်ကိုယ်လုံးမှ အခိုးတခြောင်းခြောင်း ထကုန်သည်။ ပြင်းလှစွာသော အဆိပ်အနံ့ကို ရှူရှိုက်မိသောသူသည် သေလုခါနီး၀ယ် တလိပ်လိပ် တလွန့်လွန့် တွန့်ကာတွန့်ကာနေရဘိသကဲ့သို့ ငရဲသားတို့သည် အခိုးတခြောင်းခြောင်းထွက်သောကိုယ်ဖြင့် ဖျတ်ဖျတ်လူးလွန့် တွန့်ကာတွန့်ကာနေကြရသည်။ မခံမရပ်နိုင်အောင် ပူလောင်ကျိန်းစပ်လှသဖြင့် ဟစ်ကာဟစ်ကာ ပြင်းစွာငိုကြွေးကြရသည်။

ဤရောရုဝငရဲသည် အဆိပ်အခိုးအငွေ့တို့ဖြင့် သတ်ဖြတ်ရာ မဟာသင်္ချိုင်းဟု ခေါ်ဆိုကြသည်။

**ငရဲသက်တမ်း**

လူတို့၏အနှစ် (၄၀၀) သည် တုသိတာနတ်တို့၏တစ်ရက် ဖြစ်သည်။

တုသိတာနတ်တို့၏နတ်သက် (၄၀၀)သည် ရောရုဝငရဲ၌ တစ်ရက် ဖြစ်သည်။

ရောရုဝငရဲတစ်ရက်မှာ လူတို့ နှစ်အရေအတွက်အားဖြင့် (၅၇) ကုဋေ ၆ သန်းရှိသည်။

ရောရုဝငရဲသက်တမ်းသည် အနှစ် (၄၀၀၀) ဖြစ်သည်။

**ဤငရဲခံရသူများ**

ဤငရဲ၌ မကောင်းမှုအကုသိုလ်ဒုစရိုက်အမှုတို့ကို အလိုအလျောက် စိတ်နောက်ကိုယ်ပါ စိတ်အားထက်သန်စွာ ပြုလုပ်ကြသောသူတို့သည် ကျရောက်ခံစားကြရပါသည်။

မှတ်ချက်။ ယင်းရောရုဝငရဲတွင်-

၁။ စုမရောရုဝငရဲ

၂။ ဇာလရောရုဝငရဲဟူ၍ (၂)မျိုး ရှိသည်။

ယင်းတွင် စုမရောရုဝငရဲကို သာမည ရောရုဝငရဲဟုခေါ်၍ ဇာလရောရုဝငရဲကို မဟာရောရုဝငရဲဟု ခေါ်ပါသည်။





၅။ မဟာရောရုဝငရဲ မိဘ၊ ဆရာသမားနှင့် သီလရှိသူတို့၏ ပစ္စည်းဥစ္စာတို့ကို ခိုးယူ၊ ကွယ်ဝှက်သုံးစွဲသူတို့ ခံစားရသည်။

**၅။ မဟာရောရုဝငရဲ**

ရောရုဝငရဲထက် ကြီးလေးပြင်းထန်စွာ ခံစားရသောငရဲသည် မဟာရောရုဝငရဲ မည်ပါသည်။ ယင်းကို ဇာလရောရုဝါငရဲဟူ၍လည်း ခေါ်ပါသည်။

မဟာရောရုဝငရဲသည် ရောရုဝငရဲအောက် အစောက်ယူဇနာ (၁၅၀၀၀) ဝေးကွာသော မြေလိုဏ်ဥမင်ကြီးအတွင်း၌ ယူဇနာတစ်သောင်း ကျယ်ပြန့်စွာ တည်ရှိသည်။

### ငရဲသားတို့ ခံစားရပုံ

ဤငရဲကြီးတွင် အလျှံတပြောင်ပြောင်တောက်သော သံမြေပြင်ရှိသည်။ ငရဲသားတို့၏ ကိုယ်ခန္ဓာတွင်းသို့ အတွင်းဝင်တတ်သော မီးလျှံတို့ဖြင့် ပြည့်၍နေသည်။ ချောင်းငယ်၊ မြောင်းငယ်မကျန် လျှောက်၍စီးဝင်တတ်သော ရေတို့ကဲ့သို့ မီးလျှံတို့သည် ငရဲသားတို့၏ ကိုယ်တွင်းသို့ အတင်းဝင်ရောက်ကြကုန်၏။ အဆိပ်နှင့်တကွသော မီးလျှံတို့သည် ငရဲသားတို့၏ကိုယ်တွင်း၌ရှိကုန်သော အသွေးအသား၊ အူအသည်းတို့ကို စွဲငြိတောက်လောင်ကုန်သည်။ ငရဲသားတို့သည် မီးကျီခဲတို့ကို လောင်ထားသောအိမ်ကြီးတိုင်ကြီးတို့သဖွယ် ဖြစ်ကြကုန်သည်။

မရပ်တည်နိုင်အောင် အလွန်ဆင်းရဲကြသဖြင့် ကျယ်လောင်သောအသံတို့ဖြင့် ဟစ်ကာဟစ်ကာ ပြင်းစွာ ငိုကြွေးကြရသည်။

ငရဲသားတို့သည် ကံမကုန်သမျှကာလပတ်လုံး မလွတ်ကြဘဲ အဆက်မပြတ် ခံစားကြရသည်။ ယင်းငရဲကို မီးရှူးမီးပန်း မီးရှူးအိုးတို့ဖြင့် မီးလောင်တိုက်သွင်း၍ သတ်ဖြတ်ရာ မဟာသချိုင်းကြီးဟု ခေါ်ဝေါ်ကြသည်။

## ငရဲသက်တမ်း

လူတို့၏အနှစ် (၈၀၀) သည် နိမ္မာနရတိနတ်တို့၏တစ်ရက် ဖြစ်သည်။

နိမ္မာနရတိနတ်တို့၏နတ်သက် (၈၀၀၀) သည် မဟာရောရုဝငရဲ၌ တစ်ရက် ဖြစ်သည်။

မဟာရောရုဝငရဲတစ်ရက်မှာ လူတို့ နှစ်အရေအတွက်အားဖြင့် (၂၃၀) ကုဋေ၊ (၄) သန်း ရှိသည်။ မဟာရောရုဝငရဲ၏သက်တမ်းသည် အနှစ် (၈၀၀၀) ဖြစ်သည်။

## ဤငရဲ၌ ခံစားရသူများ

ဤငရဲ၌ သီလ၊ သမာဓိ၊ ပညာနှင့်ပြည့်စုံသော ရဟန်းသံဃာတော်တို့ကို ပြစ်မှားခြင်းစသောမကောင်းမှုတို့ကိုပြုသောသူတို့ ကျရောက်ခံစားရပါသည်။






Saturday, August 24, 2013 3:33:29 AM

## ၆။ တာပနငရဲ

ဤငရဲဘုံတွင် ငရဲသားတို့သည် မတုန်မလှုပ် မြဲမြဲစွာ ရပ်တည်နေကြရပြီး ပူလောင်မှုကို ခံနေရသည်။ ယင်းငရဲကို တာပနငရဲဟု ခေါ်သည်။ ယင်းငရဲသည် မဟာရောရုဝငရဲအောက် အစောက်ယူဇနာ တစ်သောင်းငါးထောင် ကွာဝေးသော မြေလိုဏ်ဥမင်ကြီးအတွင်း၌ ယူဇနာပေါင်းတစ်သောင်း ကျယ်ပြန့်စွာ တည်ရှိသောငရဲ ဖြစ်သည်။

### ငရဲသားတို့ ခံစားကြရပုံ

ဤငရဲကြီးတွင် အလျှံတပြောင်ပြောင်တောက်သော သံမြေပြင်ရှိသည်။ ငရဲသားတို့ကို သံမြေပြင်မှပေါက်သော အလျှံတပြောင်ပြောင်တောက်သော သံတံကျင်တို့ဖြင့် ထိုးလျှိုထားသည်။ သံမြေပြင်မှပေါက်သော သံတံကျင်တို့သည် အောက်ဒွါရမှ အထက်ဦးခေါင်းတိုင်အောင် ပေါက်လေသည်။ ခြေနှစ်ဖက်တို့သည် ရဲရဲညီးသော သံမြေပြင်၌ ရပ်တည်နေရသည်။ ထိုခြေတို့ကို သံမြေပြင်၌ သံပန္နက်တို့ဖြင့် ရိုက်နှက်စွဲကပ်ထားသည်။ လက်ျာလက်ရုံးမှ လက်ဝဲလက်ရုံးထိအောင် သံတံကျင်ထိုးထားသည်။ ထိုသံတံကျင်တို့သည် မီးအလျှံတပြောင်ပြောင် တောက်နေသည်။

သံတံကျင်ထိုးထားသဖြင့် မလှုပ်ရှားနိုင်သော ငရဲသားတို့ကို ကောက်နယ်တလင်းခန့်မျှ လောက်ရှိသော ရဲရဲညီးသော သံပူပြားကြီးများဖြင့် ငရဲထိန်းတို့က လာ၍ကပ်ကြသည်။ ယင်းသံပူပြားကြီးသည် ပန်းဘဲဖိုဝမှထုတ်၍ ချထားသောသံပြားကြီးမြည်သံကဲ့သို့ တရှဲရှဲ မြည်နေသည်။ လွန်စွာပူပြင်းလှသဖြင့် ရုန်းကန်လှုပ်ရှားပါသော်လည်း လှုပ်၍မရ၊ အတင်းကြုံ၍သာ ခံစားနေကြရသည်။

ဤငရဲတွင် ကံမကုန်သမျှ ခံကြရသည်။ ဤငရဲကြီးသည် သံတံကျင်လျှိုထိုးပြီး ကားစင်တင်၍သတ်၊ သံပူကပ်၍သတ်ရာ မဟာသင်္ချိုင်းကြီးဟု ခေါ်ဆိုလေသည်။

## ငရဲသက်တမ်း

လူတို့၏အနှစ် (၁၆၀၀) သည် ပရနိမ္မိတဝသဝတ္တိ နတ်တို့၏တစ်ရက် ဖြစ်သည်။

ပရနိမ္မိတဝသဝတ္တိနတ်တို့၏သက်တမ်း (၁၆၀၀၀) သည် တာပနငရဲ၌ တစ်ရက် ဖြစ်သည်။ တာပနငရဲ တစ်ရက်မှာ လူတို့ နှစ်အရေအတွက်အားဖြင့် (၉၂၁) ကုဋေ (၆)သန်း ရှိသည်။

တာပနငရဲသက်တမ်းသည် အနှစ် (၁၆၀၀၀) ရှိသည်။

## ဤငရဲခံစားရသူများ

ဤငရဲတွင် လင်ယောကျာ်းကို မရိုမသေ မလေးမစား မထေမဲ့မြင်ပြုကြသော အိမ်ရှင် မိန်းမများသည် ကျရောက်ခံစားရလေသည်။





၇။ မဟာတာပနငရဲ အဂတိလိုက်စားသူများ။ အယူမှားသို့ရောက်အောင် လမ်းညွှန်ပြသသူ အဓမ္မဝါဒီ များကျခံရသည်။

Saturday, August 24, 2013 3:53:02 AM

## ၇။ မဟာတာပနငရဲ

တာပနငရဲထက် ဒုက္ခပိုမိုကြီးလေး ပြင်းထန်စွာခံစားရသော ငရဲသည် မဟာတာပနငရဲ ဖြစ်သည်။

ယင်းငရဲသည် တာပနငရဲကြီးအောက် ယူဇနာ (၁၅၀၀၀) ဝေးကွာသော မြေလိုဏ်ဥမင်ကြီးအတွင်း၌ ယူဇနာတစ်သောင်း ကျယ်ပြန့်စွာ တည်ရှိသည်။

### ငရဲသားတို့ ခံစားရပုံ

ဤမဟာတာပနငရဲကြီးတွင် အလျှံညီးညီး အရှိန်ကြီးသော သံမြေပြင် ရှိသည်။ ကြီးကျယ်မြင့်မားသော သံဖြင့်ပြည့်သော မီးတောင်ကြီးတို့သည် ထင်ရှားရှိကုန်သည်။ မီးတောင်ကြီးတွင် အမြဲတောက်လောက်နေသော မီးတောက်မီးလျှံတို့သည် ရဲရဲကြီးနေသည်။ ထိုမီးတောင်ကြီး၏ထက်ဝန်းကျင်ပတ်လည်၌ ထန်းတော၊ ပေတောကြီးပမာ လွန်စွာ ထူထပ်ပေါများသော သံတံကျင်တောကြီးများ တည်ရှိသည်။

ထိုသံတံကျင်တို့သည် အရင်းမှ အဖျားတိုင်အောင် မီးလောင်နေလျက် မော့သောအဖျား၊ ထက်မြက်သောအဖျား ရှိကြသည်။

ငရဲသားတို့ကို စူးဖောက်ရန် အမြဲမြှော်လင့်ပြီး အသင့်ရှိနေကြသည်။ နွားကျောင်းသား တို့သည် မိမိတို့နွားအုပ်များကို မြက်ပေါသော တောင်ပေါ်သို့ မောင်းနှင်၍ တင်ကြကုန် သကဲ့သို့ ငရဲထိန်းတို့သည် ကြီးမားထက်မြက် မီးစက်မီးလျှံပါသော လက်နက်အမျိုးမျိုးတို့ဖြင့် ရိုက်နှက်ပုတ်ခတ်ကြပြီး ငရဲသားတို့ကို တစ်အုပ်တစ်သိုက်ကြီး မီးတောင်ပေါ်သို့ မောင်းနှင် တတ်ကြလေသည်။

မတက်မနေရလေအောင် အတင်းတက်စေသည်။ မခံမရပ်နိုင်အောင် ညည်းဆဲခြင်းဖြင့် ပူပြင်းစွာ ခံကြကုန်သော ငရဲသားတို့သည် သံတောင်ကြီးပေါ်သို့ တက်ကြရသည်။

တောင်ခုလတ်တစ်ခု၌ အစဉ်တည်ရှိသော ငရဲဆူးပင်ကြီးတို့သည် ရောက်လာသမျှသော ငရဲသားတို့၏ဝမ်းဗိုက်ကို စူးဝင်ပြီး အူအသည်းတို့ကို သံကောက်တို့က ဆွဲယူကြသည်။ မျက်လုံးထဲဝင်ပြီး မျက်လုံးအိမ်ကို အတင်းဆွဲထုတ်ယူသည်။

ငရဲထိန်းတို့က အတင်းမောင်းနှင်သဖြင့် တောင်အောက်သို့ ဆင်းခွင့်မရကြ။ တောင်ထိပ် သို့ရောက်သောအခါ အဆိပ်ခိုးငွေ့ရောသော လေပြင်းမုန်တိုင်းက ငရဲသားတို့ကို အတင်းတိုက် လွှင့်ချကုန်သည်။

လေမုန်တိုင်းကြောင့် လက်ပံပင်မှ လဲမှို့တို့ ကြွေလွင့်သကဲ့သို့ ငရဲသားတို့သည် အဆိပ် ရောသော လေမုန်တိုင်းကြောင့် မီးတောင်ကြီးမှ ဖရိုဖရဲ လွင့်စင်ကျကုန်သည်။ ထိုအခါ အောက်ခြေရှိသံကျင်တောသို့ ကျရောက်ကြကုန်၏။ သံတံကျင်တို့က စူးဝင်စွပ်မိကြသဖြင့် လူးကာလွန့်ကာ နေကြရသည်။ ထိုအခါ ငရဲထိန်းက သံတွေသံခဲတို့ဖြင့် ပစ်ခတ်သဖြင့် လည်းကောင်း၊ သံခက်ရင်းတို့ဖြင့် ထိုးသဖြင့်လည်းကောင်း သံမြေပြင်သို့ ကျစေပြန်သည်။

သံမြေပြင်သို့ရောက်သောအခါ တစ်ဖန် သံတောင်ပေါ်သို့ ပြန်တက်စေပြန်သည်။ ဤသို့ လျှင် ကံမကုန်မချင်း ခံကြရလေသည်။

## ငရဲသက်တမ်း

မဟာတာပနငရဲသက်တမ်းမှာ အန္တရကပ်တစ်ဝက် ရှိပါသည်။

## ငရဲ၌ ခံစားကြရသူများ

အဂတိတရား လိုက်စားသောသူများ၊ လင်ယောကျာ်းအပေါ်၌ နိုင်လိုမင်းထက် ရက်စက် ကြမ်းကြုတ်စွာပြုတတ်သော မိန်းမယုတ်များသည် ဤငရဲ၌ ကျရောက်ခံစားကြရပါသည်။

❧



၇။ အဝိစီငရဲ (အမိအဖ)အားသတ်သောသူ၊ သံဃာသင်းကွဲအောင်လုပ်သူ၊
ဘုရား၊ ရဟန္တာတို့အား နှိပ်စက်သတ်ဖြစ်သူတို့ ခံစားရသည်။

## ၈။ မဟာအဝီစိငရဲ

မဟာအဝီစိငရဲသည် ငရဲဘုံတို့တွင် အောက်ဆုံးဘုံ ဖြစ်သည်။ မဟာတာပနငရဲမှ ယူဇနာ (၁၅၀၀၀) ကွာသောအရပ်၌ တည်ရှိသည်။ ကျောက်မြေ၌ အခြေစိုက်တည်နေသည်။ အကျယ်ယူဇနာတစ်သောင်း ရှိသည်။

အလယ်တည့်တည့် ငရဲမကြီးဟုခေါ်သော အဝီစိငရဲမကြီးသည် အထု (၉) ယူဇနာ ရှိသော သံတံတိုင်းကြီးဖြင့် ဝန်းဝိုင်းကာထားသည်။

အထက်နှင့်အောက် အစောက်ယူဇနာ (၁၀၀) ရှိသည်။

တောင်၊ မြောက်၊ အရှေ့၊ အနောက်တို့၌လည်း ယူဇနာ (၁၀၀)စီပင် ရှိ၏။

အထက်မျက်နှာပြင်၊ အောက်မျက်နှာပြင်တို့၌ အလျားယူဇနာ (၁၀၀)၊ အနံယူဇနာ (၁၀၀)၊ ထုယူဇနာ (၉) ရှိသော သံပြားကြီးတို့ဖြင့် အသေပိတ်ထားသည်။

အဝီစိငရဲမကြီးသည် လေးထောင့်စပ်စပ်ရှိသော သံသေတ္တာကြီးနှင့်တူသည်။

ကံကြီးထိုက်၍ နှစ်ကြီးကျကုန်သော ငရဲသားတို့နှင့် ငရဲမီးတို့ အပြည့်အသိပ်ထည့်ထားရာ ကမ္ဘာ့သံသေတ္တာကြီးဟု ခေါ်သည်။

ထိုအဝီစိငရဲမကြီး၏နံပါးလေးမျက်နှာ၌ သံတံခါးကြီးလေးခုတို့သည် ရှိသည်။ ကံကုန်၍ လွတ်လပ်ခွင့်ရှိသော ပုဂ္ဂိုလ်ရှိခဲ့လျှင် ထိုတံခါးကြီးသည် အလိုလို ဟင်းလင်းဖွင့်ပေးသည်။ ဤတံခါးဖြင့် ထွက်ကြရသည်။

- သတ္တဝါတို့၏ ကွက်လပ်မရှိခြင်း၊
- မီးလျှံတို့ ကွက်လပ်မရှိခြင်း၊
- ဒုက္ခဝေဒနာတို့ ကွက်လပ်မရှိခြင်း၊

ဟုဆိုအပ်သော ကွက်လပ်မရှိခြင်းသုံးပါးကြောင့် ထိုငရဲကို အဝီစိငရဲဟု ခေါ်သည်။

## ငရဲသားတို့ ခံစားကြရပုံ

သံတံတိုင်းကြီး လေးခုအတွင်း၌ ကံအားလျော်စွာ ကျရောက်ဆင်းရဲခံနေရသော ငရဲသားတို့ကို သံသေတ္တာကြီးအတွင်း၌ မုန်ညင်းစေ့တို့ကို သိပ်နှက်၍ထားသကဲ့သို့ အသိပ်အနှက် ပြည့်သိပ်အောင်ထားလေသည်။ ငရဲသားလွတ်သောနေရာဟူ၍ နှမ်းတစ်စေ့စာလောက်မျှပင် မရှိချေ။ သို့အတွက် ငရဲသားတို့ဖြင့် ကွက်လပ်မရှိ ပြည့်နှက်နေသည်။

အောက်သံမြေမှထသော မီးလျှံတို့သည် အထက်သံအမိုးတိုင်အောင် တက်သည်။ အထက်သံအမိုးမှ ဖြာထွက်သော မီးအလျှံတို့သည် အောက်အထိ အတွင်းအပြင် ယူဇနာ (၁၀၀)စီ အမြဲပျံ့နှံ့ကြသည်။ ထိုအဝီစိငရဲ၏ အရှေ့နှင့်အနောက် ယူဇနာ (၃၁၈)၊ တောင်မြောက် ယူဇနာ (၃၁၈)၊ ထက်အောက်ယူဇနာ (၃၁၈)အားဖြင့် ယူဇနာပေါင်း (၉၅၄) ရှိသော အရပ်တွင် မီးတောက်မီးလျှံမရှိသောနေရာဟူ၍ နှမ်းတစ်စေ့တစ်လုံးခန့်မျှ ကွက်လပ်မရှိ။ တစ်ခဲနက် ကင်းပိတ်မီးလုံးကြီး ဖြစ်နေသည်။

အဝီစိငရဲသို့ ကျရောက်သောအချိန်မှစ၍ ငရဲသားတို့၏ကိုယ်ခန္ဓာအတွင်း၌လည်းကောင်း၊ အပြင်၌လည်းကောင်း အနှစ် အသိန်း၊ အနှစ် ကုဋေ၊ အနှစ် အသင်္ချေကာလပတ်လုံးအတွင်း ၌ အလွန်ပြင်းထန်လှသော ဒုက္ခဝေဒနာ၊ ဒေါမနဿဝေဒနာတို့ မပြတ်ခံစားနေရသည်။ လွတ်လပ်သောအခွင့်ဟူ၍ မျက်တောင်တစ်ခတ်မျှပင် မရှိ။

သို့အတွက် ဒုက္ခဝေဒနာ ကွက်လပ်မရှိသောငရဲ ဖြစ်သည်။

အဝီစိငရဲသည် ကံ၏အစွမ်း၊ ဥပပတ်ခန္ဓာကိုယ်၏အစွမ်းဖြင့် ဖြစ်ကြကုန်သည်ဖြစ်၍ နေ့စဉ်နေ့တိုင်း မရေတွက်နိုင်အောင် ကျရောက်နေသော်လည်း အဝီစိငရဲ၌ မဆံ့ဟူ၍ မရှိပေ။

## အဝီစိငရဲသက်တမ်း

အဝီစိငရဲ၏သက်တမ်းသည် ဝိဝဋ္ဋဋ္ဌာယီကပ်တစ်ကပ် ကြာသည်။

## ဤငရဲ၌ ခံစားရသူများ

ဤအဝီစိငရဲတွင် - အမိကိုသတ်သောသူ
- အဖကိုသတ်သောသူ
- ရဟန္တာကိုသတ်သောသူ
- ဘုရားကို သွေးစိမ်းတည်အောင်ပြုသူ
- သံဃာကွဲပြားအောင်သင်းခွဲသူ

ဟူသော ပဉ္စာနန္တရိယကံ ကျူးလွန်သောသူတို့သည် ကျရောက်ခံစားရလေသည်။

## အဝီစိငရဲ၏အရံငရဲများ

သုတ္တနိပါတ်၊ သံယုတ်ကျမ်းတို့၌ အဝီစိငရဲ၏အစိတ်အပိုင်းဖြစ်သော ငရဲတို့မှာ-

၁။ အဗ္ဗုဒငရဲ
၂။ နိရဗ္ဗုဒငရဲ
၃။ အဗဗငရဲ
၄။ အဟဟငရဲ
၅။ အဋ္ဋဋ္ဋငရဲ
၆။ ကုမုဒငရဲ
၇။ သောဂန္ဓိကငရဲ
၈။ ဥပ္ပလငရဲ
၉။ ပုဏ္ဍရိကငရဲ
၁၀။ ပဒုမငရဲ

(ဤငရဲဆယ်မျိုးသည် သီးသန့်ငရဲဟူ၍ မမှတ်ရာ။ အဝီစိငရဲသာလျှင်ဖြစ်သည်ဟု မှတ်ရမည်ဟု သံယုတ်အဋ္ဌကထာသုတ္တ နိပါတ်အဋ္ဌကထာတို့၌ ဖွင့်ဆိုပြသထားသည်။)

### ငရဲဆယ်မျိုးတို့၏သက်တမ်း

မာဂဓတိုင်း၌ လေးကွမ်းစားသည် ကောသလတိုင်း၌ တစ်ကွမ်းစားသာ ရှိသည်။

မာဂဓတိုင်း၌ လေးကွမ်းစားသည် ယခုခေတ် လက်လေးခုပ်ရှိသည်။

ကောသလတိုင်း တစ်ကွမ်းစားသည် ယခုခေတ် တစ်စလယ် ရှိသည်။

ကောသလတိုင်း တစ်ကွမ်းစားသည် နှမ်းစေ့ပေါင်း ရှစ်သိမ်း ရှိသည်။

လေးကွမ်းစားသည် တစ်ပြည်။

လေးပြည်သည် တစ်စိတ်။

လေးစိတ်သည် တစ်တင်း။

လေးတင်းသည် တစ်ခါရီ။

ခါရီနှစ်ဆယ်သည် တစ်လှည်း (ယခုခေတ် တင်းပေါင်း ၈၀)

နှမ်းစေ့ပေါင်းကား လေးရာကိုးကုဋေနှင့် ခြောက်သိန်းရှိသည်။

လှည်းတစ်စီးစာ ခါရီနှစ်ဆယ်ရှိသော နှမ်းကို အနှစ်တစ်ရာ၊ တစ်ရာလွန်သဖြင့် တစ်စေ့တစ်စေ့ ထုတ်ယူ၍ ပစ်သည်ရှိသော် ထိုနှမ်းစေ့သည် လျင်မြန်စွာ ကုန်ရာသည်။ အဗ္ဗုဒငရဲ၏အသက်သည်ကား ရေတွက်၍မကုန်ရာဟု ဘုရားရှင်က ကောကာလိကသုတ်၌ ဟောတော်မူခဲ့သည်။

ထိုအဗ္ဗုဒငရဲ၏အသက် အပြန်နှစ်ဆယ်သည် နိရဗ္ဗုဒငရဲ၏အသက် မည်၏။

နိရဗ္ဗုဒငရဲ၏အသက် အပြန်နှစ်ဆယ်သည် အဗဗငရဲ၏အသက်မည်၏။

ထို့အတူ အပြန်နှစ်ဆယ်၊ နှစ်ဆယ်ဟူ၍ ကျန်သောငရဲတို့၏အသက်ကို သိရသည်။

ထိုငရဲတို့၏အသက်ကိုပြသော်လည်း ခံရသောသတ္တဝါတို့သည် အသက်တိုင်းခံရသည် မဟုတ်ပါ။ အကုသိုလ်ကံမကုန်သရွေ့ ခံရသည်။ အကုသိုလ်ကံကုန်က လွတ်သည်။ ဥပမာ မလ္လိကာမိဖုရားသည် အဝီစိငရဲ ကျခံရသည်။ ခုနစ်ရက်သာ ကျခံရပြီးနောက် အကုသိုလ်ကံ ကုန်၍ လွတ်မြောက်ကာ တုသိတာဘုံ၌ စံရသည်။

"အကြင်မျှလောက် မကောင်းမှုကံသည် မကင်းသေး၊ ထိုမျှလောက် ငရဲဘဝမှ မလွတ်မြောက်ရသေး"

(ဗာလပဏ္ဍိတသုတ်)

## သလဲဖြူအုတ်မိုးကျောင်းဆရာတော် မေစကံရမဟာထေရ်၏ လောကဒီပပကျမ်း၊ ဆာတိကျမ်းမှ ပြဆိုသည့်ငရဲငယ်များ

ငရဲကြီးရှစ်လုံး၏လေးထောင့်၌ ဥဿဒငရဲကို ပိုင်းခြားခြင်းငှာ အလျှံတပြောင်ပြောင်တောက်သော သံတောင်ကြီးလေးလုံး ရှိသည်။

ငရဲကြီးတို့၏တစ်မျက်နှာ၊ တစ်မျက်နှာ၌ လေးလုံး၊ လေးလုံးစီဖြစ်ရကား ငရဲကြီးတစ်ထပ်သော် ဥဿဒငရဲငယ် (၁၆) လုံး၊ ရှစ်ထပ်သော် ၈ × ၁၆ = ၁၂၈ လုံး ငရဲကြီးရှစ်ထပ်နှင့် ထပ်ပေါင်းသော် ငရဲပေါင်း ၁၂၈ + ၈ = ၁၃၆ လုံး ဖြစ်သည်။

ထိုမျှမကသေး-

၁။ လောဟကုမ္ဘီငရဲ

၂။ သိမ္ဗလီနေငရဲ

၃။ အာဗိနဇငရဲ

၄။ ဘမ္ဗောဒကငရဲ

၅။ အယောဂုဠရဲ

၆။ သေလပဗ္ဗတငရဲ

၇။ ကုသနဒီငရဲ

၈။ သီတနဒီငရဲ

၉။ သုနခငရဲ

၁၀။ ယန္တပါသကာငရဲ

ဟူ၍ တစ်မျက်နှာ၊ တစ်မျက်နှာ၌ ဆယ်ခု၊ ဆယ်ခုစီ ယမလောကီငရဲများရှိသည်ဟု လောကပညတ္တိကျမ်း၊ လောကဒီပကကျမ်း၊ ဘာတိကျမ်းတို့၌ ပြဆို၏။

အရပ်လေးမျက်နှာသော် လေးဆယ့်ရှစ်ထပ်ဆိုသော် (၄၀×၈) = ၃၂၀ ရှိမည်။ ယခင် ၁၃၆ နှင့်ပေါင်းသော် ၃၂၀ + ၁၃၆ = ၄၅၆ ဖြစ်သည်။

သည်မျှမကသေး။ ငရဲကား ရေတွက်မနိုင်အောင် များ၏။ နေမိဘတ်တော်၌ နေမိမင်း အသက်သာ ကုန်ဆုံးသွားသည်။ နေမိမင်းအားငရဲဘုံတို့ကို ပြခြင်းငှာ အဆုံးသည်ရောက်မည် မဟုတ်ဟု ဆိုမိန့်ခဲ့သည်။

## နေမိမင်းမြတ် တွေ့ခဲ့သည့်ငရဲများ

နေမိမင်းမြတ်သည် သိကြားမင်း၏ ပင့်ဖိတ်မှုကြောင့် တာဝတိံသာနတ်ပြည်သို့ လူသားစစ်စစ်ဘဝဖြင့် ရောက်ခဲ့သောမင်းမြတ် ဖြစ်သည်။

နေမိမင်းမြတ်အား မာတလိက ဝေဇယန္တာနတ်ရထားဖြင့် လာရောက်ပင့်ဆောင်သောအခါ မာတလိက နေမိမင်းအား ကောင်းမှုကြောင့် စည်းစိမ်ခံစားနေရသောသူတို့ကို မြင်ရသောလမ်းနှင့် မကောင်းမှုကြောင့် ငရဲခံနေရသောသူတို့ကို မြင်ရသောလမ်းနှစ်လမ်း ရှိသည်။

"မည်သို့သောလမ်းအား သွားလိုပါသလဲ" ဟုမေး၏။

နေမိမင်းက ထိုနှစ်ဌာနစလုံးအား မမြင်ဖူးသဖြင့် ယင်းနှစ်ဌာနလုံးအား မြင်လိုသောကြောင့် နှစ်လမ်းစလုံးအား ပို့ပါဟုဆို၏။

မည်သည့်လမ်းအား သွားချင်ပါသလဲဟုမေးရာ-

"ငရဲခံစားနေရသော သူတို့အား အရင်ကြည့်ချင်ပါသည်ဟုဆိုသဖြင့် မာတလိသည် ဝေဇယန္တာနတ်ရထားအား ငရဲဘက်သို့ မောင်းနှင်ပြီး ရှေးဦးစွာ ပိုက်ချောင်းငရဲအား ပြ၏။

## ၁။ ပိုက်ချောင်းငရဲ

ထိုငရဲတွင် ငရဲသားတို့က မီးလျှံတောက်နေသည့် သန်လျက်၊ လှံ၊ ခက်ရင်း၊ ဆောက်ပုတ် စသောလက်နက်တို့ဖြင့် ငရဲကောင်တို့ကို ထိုးခုတ်ရိုက်နှက်နှိပ်စက်ညှဉ်းဆဲကြသည်။

ငရဲကောင်တို့သည် ယင်းသို့ ညှဉ်းဆဲသည်ကို မခံစားနိုင်ကြသဖြင့် အလွန်ထက်သော သံဆူးကြိုးတွေပေါက်နေသော မီးလျှံတောက်နေသည့် သံကြိမ်စွယ်တို့ဖြင့် ဖုံးအုပ်နေသော မြစ်တွင်းသို့ ပြေးဆင်းကြကုန်၏။

ထိုမြစ်ထဲ၌ ငရဲကောင်တို့သည် သင်ဓုန်းဓားသွားတမျှ ထက်လှသော မီးလျှံတောက်နေသော ကြိမ်ဆူးတို့ဖြင့် ထိုးမိကာ အပိုင်းပိုင်း ပြတ်လျက် အစုန်အဆန် မျောနေကြလေသည်။ ငရဲထိန်းတို့ကလည်း ကမ်းပေါ်မှနေလျက် သန်လျက်တို့ဖြင့် လှမ်း၍ထိုးခုတ်ရိုက်နှက်နေ၏။

### ပြုခဲ့သည့်အကုသိုလ်

ဤငရဲခံစားနေရသောသူတို့သည် လူဖြစ်စဉ်အခါက လက်ရုံးအားကိုး၊ ပစ္စည်းအားကိုး၊ အာဏာအားကိုးဖြင့် ခွန်အားမဲ့၊ ပစ္စည်းမဲ့၊ အာဏာမဲ့တို့အား နိုင်ထက်ကလူ ညှဉ်းဆဲနှိပ်စက်သူတို့ ဖြစ်သည်။

## ၂။ ခွေးစားငရဲ

ဤငရဲ၌ ဆင်ကောင်တမျှ ကြီးမားလှသော ငရဲခွေးကြီးတို့သည် ငရဲကောင်တို့ကို ကိုက်၍ကိုက်သတ်လေသည်။ ကိုက်မိသောအခါ ငရဲကောင်တို့သည် မီးလျှံတောက်နေသော သံမြေပြင်၌ ပက်လက်လဲကျ၏။ ထိုအခါ ငရဲခွေးကြီးတို့သည် ရှေ့လက်နှစ်ဖက်ဖြင့် ရင်ဘတ်အားနင်းကာ အသားများကို ကုန်အောင်ကိုက်စားကြသည်။

လင်းတငှက်တို့ကလည်း ကတ်ကြေးတမျှ ထက်လှစွာသော သံနှုတ်သီးတို့ဖြင့် ထိုးဆိတ်ကြသည်။ ကျီးကန်းကြီးတို့ကလည်း သံနှုတ်သီးတို့ဖြင့် ထိုးဖောက်စားကြ၏။

### ပြုခဲ့သည့်အကုသိုလ်

ဤငရဲ၌ ခံစားရသူများသည် လူဖြစ်စဉ်အခါက မိမိကိုယ်တိုင်လည်းမလှူရက် မတန်းရက် နှမြောတွန့်တိုလျက် သူတစ်ပါးလှူဒါန်းသည်ကိုလည်း တားမြစ်ပိတ်ပင်သူများ၊ ရဟန်းပုဏ္ဏားတို့ကိုလည်း ရေရွတ်ရှုတ်ချ ထိပါးပုတ်ခတ်ပြောဆိုသူများသည် ဤငရဲ၌ ခံစားရ၏။

## ၃။ မီးလျှံငရဲ

ထိုငရဲ၌ ငရဲကောင်တို့သည် တစ်ကိုယ်လုံး မီးလျှံတွေတောက်လျက် အလျှံတပြောင်ပြောင်တောက်သော သံမြေပြင်၌ ပြေးလွှားသွားနေကြရသည်။

ငရဲသားတို့က ထန်းပင်လုံးခန့်ရှိသော သံတုတ်ကြီးဖြင့် ခေ့ခေ့ညက်ညက်ကြေအောင် တစ်ကိုယ်လုံးကြေအောင် လိုက်ရိုက်ကြ၏။

### ပြုခဲ့သည့်အကုသိုလ်

ဤငရဲကျသူများသည် လူဖြစ်စဉ်အခါက အပြစ်မဲ့ ယောကျ်ား၊ မိန်းမတို့ကို နှိပ်စက်ညှဉ်းဆဲသောသူတို့သည် ဤငရဲ၌ ကျရောက်ခံစားရ၏။

## ၄။ မီးကျီးငရဲ

ဤငရဲ၌ ငရဲထိန်းတို့သည် ခြံထဲမဝင်လိုသည့် နွားတို့အား အတင်းရိုက်နှက်၍ ခြံထဲသွင်းသကဲ့သို့ ငရဲကောင်တို့ကို မီးလျှံတောက်နေသည့် သံချောင်းတို့ဖြင့် အတင်းရိုက်နှက်ကာ မီးကျီးတွင်းသို့ သက်ဆင်းနိုင်းသည်။

ငရဲကောင်တို့သည် မီးကျီးတွင်းထဲ၌ ခါးထိအောင် မြုပ်နေကြရသည်။ ငရဲထိန်းတို့က သံခြင်းတောင်းကြီးတို့ဖြင့် မီးကျီးတို့ကို ယူလာပြီး အပေါ်က လောင်းချပြန်၏။

ငရဲကောင်တို့သည် ပူလောင်လွန်းလှသဖြင့် မီးကျီးမီးခဲတို့အား လက်နှင့်ခံပြီး အခြားသို့ ကြပစ်ရ၍ အချင်းချင်း ခေါင်းပေါ်သို့ကျလေသည်။

### ပြုခဲ့သည့်အကုသိုလ်

ဤငရဲ၌ လူဖြစ်စဉ်အခါက စုပေါင်းပြီး ကုသိုလ်ကောင်းမှုပြုလုပ်ကြမည်ဟု အသင်းအပင်းဖွဲ့၍ ငွေစုပြီးလျှင် ထိုငွေအား မည်သည့်ကိစ္စအတွက် မည်သူလှူသည်ဟု စာရင်းလိမ်းညောက်၊ မိမိကိုယ်ကျိုးအတွက် သုံးပစ်ကြသည့် လူယုတ်မာများ ခံစားရသောငရဲ ဖြစ်သည်။

## ၅။ ပထမကြေးနီအိုးငရဲ

ဤငရဲ၌ တောင်ကြီးတမျှ ကြီးမားလှသော ကြေးနီအိုးကြီးထဲ၌ ကြေးနီရည်တို့သည် ပွက်ပွက်ဆူနေသည်။ ငရဲထိန်းတို့သည် ငရဲကောင်တို့ကို ခြေထောက်မှကိုင်ပြီးလျှင် ကြေးနီအိုးတွင်းသို့ ဇောက်ထိုးပစ်ချလေသည်။

### ပြုခဲ့သည့်အကုသိုလ်

ဤငရဲ၌ ကျရောက်ခဲ့သူများသည် လူဖြစ်စဉ်အခါက အကျင့်သီလရှိသော ရဟန်းသူတော်ကောင်းတို့ကို ဆဲရေးပုတ်ခတ်ချုပ်ချယ်သောသူများ ကျရောက်ခံစားရမည်ဖြစ်သည်။

## ၆။ ဒုတိယကြေးနီအိုးငရဲ

ဤငရဲ၌ ငရဲထိန်းတို့သည် ငရဲကောင်တို့အား လည်ပင်းတွင် သံကြိုးရှည်များနှင့်ရစ်၍ ပွက်ပွက်ဆူနေသော ကြေးနီအိုးတွင်းသို့ ပစ်ချပြီးလျှင် ရစ်ထားသည့် သံကြိုးစဆွဲငင်လျက် လည်ကိုလိမ်ပြီး ဖြုတ်ယူကြသည်။

### ပြုခဲ့သည့်အကုသိုလ်

ဤငရဲသို့ ကျရောက်သူများသည် ကြက်၊ ငှက် စသောသတ္တဝါတို့ကို လည်လိမ်သတ်ပြီး စားကြသူများ ကျခံရသည့်ငရဲ ဖြစ်သည်။

## ၇။ ဖွဲပြာငရဲ

ဤငရဲ၌ မီးလျှံပြောင်ပြောင်တောက်နေသည့် သံပြင်တွင် မြစ်ကြီးတစ်ခု ရှိသည်။ ထိုမြစ်ထဲ၌ ပူလောင်သော ဖွဲကြမ်းပြာတို့သည် ရေကဲ့သို့ စီးဆင်းနေသည်။ ငရဲကောင်တို့သည် အလျှံတောက်နေသော သံမြေပြင်တွင် သွားနေရသောကြောင့် အလွန်ပူလောင်နေသဖြင့် မြစ်ထဲ၌ စီးဆင်းနေသော မီးလျှံတောက်နေသည့် ဖွဲပြာတို့အား ရေထင်သဖြင့် သောက်ကြသည်။

### ပြုခဲ့သည့်အကုသိုလ်

ဤငရဲသို့ ကျခံရသောသူတို့သည် လူ့ဘဝ၊ လူဖြစ်စဉ်က စပါး၊ နှမ်း၊ ပဲ စသည်တို့အား အဖျင်း၊ အမှော်၊ သဲ၊ ကျောက်များရော၍ ရောင်းချခဲ့သူများ ခံစားရသည့်ငရဲ ဖြစ်သည်။

## ၈။ မြား၊ လှံငရဲ

ဤငရဲ၌ ငရဲသားတို့သည် သမင်ကို မုဆိုးများက မြားနှင့် ဝိုင်းပစ်၊ လှံနှင့်ဝိုင်းထိုးကြသကဲ့သို့ ငရဲဘောင်၊ ငရဲသားတို့အား မီးလျှံတောက်ပနေသည့် မြားနှင့်ဝိုင်း၍ ပစ်ထိုးကြ၏။ ငရဲကောင်တို့မှ တစ်ကိုယ်လုံး ဇကာပေါက်လိုအပေါက်များ ဖြစ်နေ၏။

ပြုခဲ့သည့်အကုသိုလ်

ဤငရဲသည် လူဖြစ်စဉ်က သူခိုး၊ စားပြအဖြစ် လုပ်ကိုင်စားသောက်ကြသူများ ခံစားရသည့်ငရဲ ဖြစ်သည်။

## ၉။ သားတစ်ငရဲ

ဤငရဲ၌ ငရဲသားတို့သည် ငရဲကောင်တို့အား မီးလျှံတောက်နေသော သံကြိုးဖြင့် လည်ပင်းကိုချည်လျက် ဆွဲ၍လှည့်ပြီးလျှင် ခါး၊ လက်နက်ကြီးတို့ဖြင့် အမဲဖျက်သကဲ့သို့ အပိုင်းပိုင်း ခုတ်ထစ်ကြလေသည်။

ထို့နောက် အသားတစ်၊ အသားတုံးများကို မီးလျှံတောက်နေသော သံပြားပေါ်၌ အမဲသား ဆိုင်ခင်းသကဲ့သို့ ဖြန့်ခင်းလျက်ရှိသည်။

ပြုခဲ့သည့်အကုသိုလ်

ဤငရဲ၌ ခံရသူများသည် လူဖြစ်စဉ်အခါက နွား၊ ဆိတ်၊ ကြက်၊ ဝက်၊ နွားတို့အား သတ်ဖြတ်ရောင်းချသော ငါးစိမ်းသည်များ ခံစားရသည့်ငရဲ ဖြစ်သည်။

## ၁၀။ မစင်တွင်းငရဲ

ဤငရဲတွင် ကမ္ဘာတမျှ တည်ရှိသော မစင်တွင်းကြီးထဲ၌ ကျင်ကြီးကျင်ငယ်တို့သည် အနံ့တထောင်းထောင်းနှင့် မခံမရပ်နိုင်အောင် နံစော်နေလေသည်။

ဆိုးဝါးလှသည့်အနံ့တို့မှာ အခိုးတထောင်းထောင်း ထနေ၏။ ငရဲကောင်တို့သည် အလွန် ဆာလောင်မွတ်သိပ်လှသောကြောင့် မစင်တွင်းကြီးထဲမှ မစင်ပုပ်တို့အား ပလုပ်ပလောင်း စားကြရသည်။

ပြုခဲ့သည့်အကုသိုလ်

ဤငရဲ၌ ခံစားရသူများသည် လူဖြစ်စဉ်အခါက အဆွေခင်ပွန်းကို ပြစ်မှားခဲ့သူများ၊ အရိပ်နေနေ အခက်ချိုးချိုးဆိုသကဲ့သို့ မိမိ၏ကျေးဇူးရှင်ကို ပျက်စီးရာပျက်စီးကြောင်း မကောင်းကြံ၊ ပြစ်မှားသူများ ကျရောက်ခံစားရသည့်ငရဲ ဖြစ်သည်။

## ၃။ ပြည်ပုပ်တွင်းငရဲ

ထိုငရဲတွင် သွေးပုပ်တို့ဖြင့် ပြည့်နေသောတွင်းကြီးရှိ၍ ငရဲကောင်တို့သည် အလွန်ငတ်မွတ်လှသောကြောင့် သွေးပုပ်၊ ပြည်ပုပ်တို့အား သောက်ကြရလေသည်။

### ပြုခဲ့သည့်အကုသိုလ်

ဤငရဲဘုံ၌ ခံစားရသူများသည် မိအိုဖအိုတို့အား ညှဉ်းပန်းနှိပ်စက်သတ်ပုတ်သူများ၊ ဘုရားရှင်၏သားတော်၊ ရဟန်းတော်များ၊ ရဟန္တာများအား သတ်ဖြတ်သောသူများသည် ဤငရဲ၌ ကျရောက်ခံစားရသည်။

## ၁၂။ သံမြားကောက်ငရဲ

ဤငရဲ၌ ငရဲထိန်းတို့သည် ထန်းပင်လုံးခန့်ရှိသော မီးလျှံတောက်နေသော သံမြားကောက် (ငါးမျှားချိတ်) တို့ဖြင့် ငရဲကောင်တို့၏လျှာအား ချိတ်ဆွဲလျက်ထုတ်ပြီးလျှင် ခြစ်ခြစ်တောက်ပူသော သံမြေပြင်၌ဖြန့်လျက် နွားရေကြက်သကဲ့သို့ သံငုတ်တို့နှင့်ရိုက်ကာ ဖြန့်ကျက်ကြသည်။

ငရဲကောင်တို့သည် ကုန်းပေါ်တွင် တင်ထားသော ငါးကဲ့သို့ ဖျတ်ဖျတ်လူးကာ ငိုကြွေးမြည်တမ်းလျက် ခံနေကြရသည်။

### ပြုခဲ့သည့် အကုသိုလ်

လူ့ဘုံလူ့လောက၌ လူဖြစ်စဉ်အခါက အချို့မှာ ပွဲစားဖြစ်၍ ကုန်အားတန်ဖိုးဖြတ်ရ ဝယ်သူဘက်မှ တန်ဖိုးထားပြီး အပြောချိုသာစွာဖြင့် တစ်ရာတန်သည်ကို ငါးဆယ်ဟု တန်ဖိုးဖြတ်သူများ ရှိခဲ့သည်။ အချို့က အလေးခိုးသည်။ မရိုးသားသည့် ဈေးသည်များဖြစ်သည်။ သူတို့သည် ထိုသို့ ကောက်ကျစ်စဉ်းလဲကြသော်လည်း ငါးကို သတ်စားရန် ငါးမျှားချိတ်နှင့်မျှားသကဲ့သို့ ကောက်ကျစ်စဉ်းလဲ ချိုသာသည့်စကားဖြင့် ဖုံးကြ၏။

ထိုသူများသည် ဤငရဲ၌ ခံစားရ၏။

## ၁၃။ သံတောင်ကြိတ်ငရဲ

ဤငရဲ၌ ခံစားရသောငရဲသားတို့သည် အမျိုးသမီးချည်းသာ ဖြစ်၏။ ငရဲသားတို့သည် မီးလျှံတောက်နေသော သံမြေပြင်၌ ခါးတစ်ဝက်မြုပ်နေကြလျက် အရပ်လေးမျက်နှာမှ မီးလျှံ

တောက်နေသည့် သံတောင်ကြီးတို့သည် တဖြည်းဖြည်းလိမ့်ကာပြီးလျှင် ငရဲကောင်တို့အား တစ်လှည့်စီ ကျိတ်သွား၏။

ငရဲကောင်တို့သည် ကိုယ်တခြား၊ ခေါင်းတခြားဖြစ်ကာ နွားသတ်ကုန်း၌ နွားတို့အား အမဲဖျက်သကဲ့သို့ သွေးတလိမ့်လိမ့် ယင်တလောင်းလောင်းဖြင့် မကောင်းဖြစ်နေ၏။

ပြုခဲ့သည့်အကုသိုလ်

ဤဘုံ၌ရောက်နေသော မိန်းမများသည် မိမိ၏လင်ယောကျ်ားနှင့် မတင်းတိမ်ဘဲ လင်ငယ်တို့နှင့် ပျော်ပါးတတ်သည့် မိန်းမတို့ခံစားရသည့်ငရဲ ဖြစ်သည်။

## ၁၄။ ဦးစောက်ကျငရဲ

ဤငရဲ၌ ခံစားရသူများသည် ယောကျ်ားချည်းသာ ဖြစ်သည်။ ငရဲထိန်းတို့က ငရဲကောင်များအား မီးလျှံတောက်နေသည့် မီးကျီးတွင်းသို့ ပစ်ချသဖြင့် ငရဲကောင်တို့သည် မီးကျီးတွင်းသို့ ဇောက်ထိုးကျနေ၏။

ပြုခဲ့သည့်အကုသိုလ်

ဤငရဲဘုံသို့ ကျရောက်သူများသည် လူ့ဘဝက မိမိမယားနှင့် မတင်းတိမ်ဘဲ သူတစ်ပါး သားမယားအား ခိုးယူပေါင်းသင်းသည့်သူတို့ ခံစားရသည့်ငရဲ ဖြစ်သည်။

## ၁၅။ မိစ္ဆာဒိဋ္ဌိငရဲ

ဤငရဲ၌ ငရဲသားတို့သည် ငရဲကောင်တို့အား ကြမ်းတမ်းဆိုးဝါးစွာ ညှဥ်းဆဲနည်းအမျိုးမျိုးဖြင့် ညှဥ်းဆဲနှိပ်စက်ကြသည်။

ပြုခဲ့သည့်အကုသိုလ်

ကံ၊ ကံ၏အကျိုး မရှိ၊ နောင်ဘဝမရှိဟု လွဲမှားစွာ ယုံကြည်သူများ ခံစားရသည့်ငရဲ ဖြစ်သည်။



## ဇာတ်တော်လာ ငရဲခံရသူများ

### ခန္တီဝါဒီရသေ့ကို ပြစ်မှား၍ ငရဲကျသော ကလာဗုမင်း

ဗာရာဏသီပြည်၌ ကလာဗုမင်း မင်းပြုချိန် ဖြစ်သည်။

ထိုအချိန်တွင် ဘုရားလောင်းသည် ကုဋေရှစ်ဆယ် ကြွယ်ဝသော ပုဏ္ဏားမျိုး၌ ဖြစ်သည်။ ကုဏ္ဍလလုလင်ဟု အမည်တွင်ခဲ့သည်။ အရွယ်ရောက်သောအခါ တက္ကသိုလ်သို့သွား၍ အတတ်ပညာမျိုးစုံ သင်ယူတတ်မြောက်ခဲ့သည်။

မိဘတို့ ကွယ်လွန်သော် ဥစ္စာအမွေအားလုံးကို ရရှိအမွေခံရသည်။ ကုဏ္ဍလလုလင်သည် ထိုဥစ္စာစုကြီးကို ကြည့်ပြီးလျှင် "ဤဥစ္စာများစွာကို ငါ့ဆွေ၊ ငါ့မျိုး၊ ငါ့မိဘတို့သည် စုဆောင်းရှာဖွေထားခဲ့ကြသည်။ ထိုဥစ္စာစုတို့ကို မယူသွားနိုင်ဘဲ ကွယ်လွန်သွားကြ၏။ ငါမူကား ဤဥစ္စာတို့ကို ယူ၍သွားမည်" ဟု ကြံစည်မိ၏။

ထိုသို့ကြံပြီးနောက် ဥစ္စာတို့ကို စွန့်ကြဲပေးကမ်းလှူဒါန်းသည်။ ထို့နောက် ဟိမဝန္တာသို့ဝင်ပြီးလျှင် ရသေ့ရဟန်းပြုပြီး သစ်သီးကြီးငယ်ဖြင့် မျှတနေပြီး တရားအားထုတ်နေလေသည်။

ထိုသို့နေ၍ အချိန်များစွာကြာသော် ချဉ်ဆားမှီဝဲခြင်းငှာ ဗာရာဏသီသို့ ကြွလာပြီး မင်းဥယျာဉ်၌နေသည်။ နံနက်မိုးသောက်လျှင် မြို့တွင်းဆွမ်းခံလှည့်လည်စဉ် စစ်သူကြီးအိမ်သို့

ရောက်သည်။ စစ်သူကြီးသည် ရသေ့၏ကူရိယာပုတ်၌ ကြည်ညိုသည်ဖြစ်၍ အိမ်တွင်းသို့ ဖိတ်ပြီး ဆွမ်းဖြင့် လုပ်ကျွေးသည်။ မင်းဥယျာဉ်၌ သီတင်းသုံးစေသည်။

တစ်နေ့တွင် ကလာဗုမင်းသည် သေရည်ယစ်မူးလျက် များစွာသော ကချေသည်အပေါင်း ခြံရံလျက် ဥယျာဉ်သို့သွားသည်။ မင်္ဂလာကျောက်ဖျာ၌ နေရာခင်းပြီး ချစ်ခင်မြတ်နိုးသော မောင်းမ၏ရင်ခွင်၌ အိပ်သည်။ ကခြင်း၊ တီးခြင်း မိန်းမတို့က သီဆိုတီးမှုတ်ကပြဖျော်ဖြေစေသည်။

မင်းသည် သေရည်မူးပြီး မကြာခင် အိပ်ပျော်ခြင်းသို့ရောက်သည်။

"မင်းသည် အိပ်ပျော်သွားပြီ၊ တို့တစ်တွေ သီဆိုကခုန်ဖို့ မလိုတော့"

ကချေသည်မိန်းမတို့သည် ဤသို့ဆိုပြီး တူရိယာပစ္စည်းတို့ကို ထိုနေရာ၌ စုပုံထားလျက် ဥယျာဉ်အတွင်းသို့ လှည့်လည်သွားကြသည်။

ထိုအချိန်ဝယ် ဘုရားလောင်းသည် ပွင့်သော အင်ကြင်းပင်၏အရင်း၌ ရသေ့ရဟန်း ချမ်းသာဖြင့် သီတင်းသုံးနေထိုင်လျက် ရှိသည်။ ကချေသည်တို့သည် ဥယျာဉ်၌ လှည့်လည် ပျော်ပါးသွားလာရင်း ရသေ့ကို ဖူးတွေ့ကြသည်။

"လာ...ရှင်မတို့၊ မင်းသည် မနိုးသေး၊ ထိုအချိန်ကာလအတွင်း ရှင်ရသေ့ထံ၌ တရား အနည်းငယ် နာကြစို့"

ကချေသည်တို့သည် ဘုရားလောင်းရှင်ရသေ့ထံ ဝိုင်းရံရှိခိုးကြပြီး တရားဟောရန် လျှောက်ထားကြသည်။ ရှင်ရသေ့က ထိုမိန်းမတို့ကို တရားဟောသည်။

ထိုအခါ မင်းရင်ခွင်၌ အိပ်နေသောမိန်းမသည် နိုးလာပြီး မင်းကို လှုပ်၍နှိုးသည်။ မင်းသည် နိုးလာပြီး ကချေသည်မိန်းမတို့ကို မမြင်သော်-

"သူယုတ်မာတွေ ဘယ်သွားနေကြသလဲ" ဟုမေး၏။

"မင်းကြီး...ထိုမိန်းမတို့သည် ရသေ့ထံသွားပြီး ခြံရံနေကြပါသည်"

မင်းသည် အမျက်ထွက်လျက် သန်လျက်စွဲကိုင်ကာ ရသေ့ စဉ်းလဲကို သတ်အံ့ဟုကြံ၍ ရသေ့ထံ လျင်မြန်စွာသွားလေသည်။

ကချေသည်တို့သည် အမျက်ထွက်၍လာသောမင်းကို မြင်လျှင် မင်းနှင့်ချစ်ကျွမ်းဝင်သော မိန်းမတို့သည် မင်းလက်၌ရှိသော သန်လျက်ကို လုယူပြီး မင်း၏စိတ်ကို ငြိမ်းစေသည်။ ကလာဗုမင်းသည် ဘုရားလောင်းရသေ့ထံသို့ လာပြီး-

"အသင်ရသေ့...အသင်ကား အဘယ်အယူရှိသနည်း"

"မင်းကြီး...ငါကား ခန္တီအယူရှိသည်"

"ဤခန္တီဟူသည် အဘယ်နည်း"

"ဆဲရေးပုတ်ခတ်လာသူတို့၌ အမျက်မထွက်ခြင်းသည် ခန္တီမည်၏"

"သင်၌ ခန္တီတရား ထင်ရှားရှိသောအဖြစ်ကို ယခုအခါ ငါတို့ ကြည့်ကြကုန်အံ့"

မင်းသည် ဤသို့ဆိုပြီး အာဏာပါးကွက်သားကို ခေါ်စေသည်။ ပါးကွက်သားသည် မိမိထုံးစံအတိုင်း ပုဆိန်ဆူးရှိသော ကြိမ်လုံးကိုယူပြီးလျှင် ဖန်ရည်စွန်းသောအဝတ်ကို ဝတ်သည်။ နီသောပန်းကို ပန်လျက် မင်းထံသို့ လိုက်လာသည်။ မင်းကို ရှိခိုးပြီး-

"အဘယ်အမှုပြုပါရအံ့နည်း မင်းကြီး" ဟုမေး၏။

"ဤရသေ့ပျက်ကို မြေမှာချလှဲပြီး ကျောငါးရာ၊ ရင်ငါးရာ၊ နံပါးတစ်ဖက်တစ်ချက်တို့၌ ငါးရာစီတို့ကို ဆူးကြိမ်ဖြင့် ရိုက်နှက်ကြည့်စမ်းပါ"

ဤအာဏာသားသည် မင်းဆိုတိုင်း ရသေ့ကို ပြုလေသည်။

ဘုရားလောင်းရသေ့၏ အရေပါး၊ အရေထူ၊ အသားတို့သည် ပြတ်ထွက်၏။ သွေးတို့သည် ပန်းထွက်၏။

"ရသေ့...သင်ကား အဘယ်အယူရှိသနည်း"

ကလာဗုမင်းက ထပ်မေးပြန်သည်။

"မင်းကြီး...ငါကား ခန္တီအယူရှိ၏။ သင်မင်းကြီးသည် ငါ၏အရေကြား၌ ခန္တီရှိ၏ဟု မှတ်ထင်သလား၊ ခန္တီကား အရေကြား၌မရှိ။ အသင်မင်းကြီး မြင်ခြင်းငှာလည်း မတတ်ကောင်း၊ ငါ၏နှလုံးကြား၌ ခန္တီကားတည်၏"

"မင်းကြီး အဘယ်သို့ပြုရမည်နည်း"

အာဏာသားက မေးသည်။

"ဤရသေ့စဉ်းလဲ၏လက်နှစ်ဖက်ကို ဖြတ်လော့"

အာဏာသားသည် ပုဆိန်ကိုယူပြီး ရသေ့၏လက်နှစ်ဖက်ကို စဉ်းတီတုံးပေါ်တွင် တင်ကာ ဖြတ်သည်။

"ခြေတို့ကို ဆက်ဖြတ်လော့"

မင်းက ဆက်ခိုင်း၍ အာဏာသားက ရသေ့၏ခြေတို့ကို ဆက်ဖြတ်ပြန်သည်။ အိုးပေါက်မှ ချိတ်ရည်များ ယိုထွက်သကဲ့သို့ လက်ပြတ်ခြေပြတ်မှ သွေးတို့သည် ဒလဟော ယိုစီးထွက်လေသည်။

"ရသေ့...အဘယ်အယူရှိသနည်း"

ကလာဗုမင်းက ဆက်မေးပြန်သည်။

"မင်းကြီး...ငါသည် ခန္တီအယူသာ ရှိ၏။ သင်မင်းကြီးသည် ငါ့ခြေဖျား၊ လက်ဖျားခြံ့သာ ခန္တီရှိသည်ဟု ထင်သလော။ ခန္တီကား ထိုနေရာ၌မရှိ။ နက်နဲသော ငါ၏နှလုံးသား၌သာရှိသည်။"

မင်းသည် ရသေ့၏ နား၊ နှာခေါင်းတို့ကို တဖန် ဖြတ်စေပြန်သည်။ သွေးတို့သည် ယိုစီးလျက်ထွက်၏။

"ရသေ့...သင်သည် အဘယ်အယူရှိသနည်း"

"မင်းကြီး...ငါသည် ခန္တီအယူသာ ရှိ၏။ သင်သည် ခန္တီကို ငါ၏၊ နား၊ နှာခေါင်း၌ တည်သည်ဟု မှတ်ထင်သလော။ ခန္တီသည် နက်နဲသော ငါ၏နှလုံးသားကြား၌ တည်ရှိ၏"

"ရသေ့စဉ်းလဲ...သင့်ခန္တီကို သင်သာ ချီးမြှောက်၍နေရစ်လော့"

ကလာဗုမင်းသည် ဤသို့ဆိုပြီး ရသေ့ကို ကန်ကျောက်ကာ ထွက်ခွာသွားလေသည်။

ကလာဗုမင်း ပြန်သွားလျှင် စစ်သူကြီးသည် ရသေ့ထံသို့သွားကာ သွေးတို့ကို သုတ်ပေးသည်။ လက်ပြတ်၊ ခြေပြတ်၊ နားပြတ်၊ နှာခေါင်းပြတ်တို့ကို ပုဆိုးစွန်းတွင်တင်ထားပြီး ရသေ့ကို ဖြည်းဖြည်းသာသာနေစေသည်။ ထို့နောက် ရသေ့ကိုရှိခိုးပြီး-

"အရှင်ဘုရား...အကယ်၍ အမျက်ထွက်ငြားအံ့၊ အရှင်ဘုရားကို နှိပ်စက်ဖျက်ဆီးသော ကလာဗုမင်းကို အမျက်ထွက်ပါ။ ဤကာသိတိုင်းကိုတော့ ထုံးမှုန့်ကဲ့သို့ မပျက်စီးစေပါနဲ့ ဘုရား"

"စစ်သူကြီး...ကလာဗုမင်းသည် ငါ့ကို ခြေဖြတ်၊ လက်ဖြတ် စသည်ဖြင့် နှိပ်စက်ဖျက်ဆီး၏။ ထိုမင်းသည် ကာလရှည်စွာ အနာကင်းလျက် အသက်ရှည်ပါစေ၊ ငါကဲ့သို့ ခန္တီဗလအားကြီးသောသူတို့သည် အမျက်မထွက်ကုန်"

ဘုရားလောင်းရသေ့ကို ကန်ကျောက်ထွက်ခွာသွားသော ကလာဗုမင်းသည် ဘုရားလောင်း ရသေ၏ အမြင်အဆုံးတွင် မဟာပထဝီမြေကြီး နှစ်ခြမ်းကွဲပြီး မြေထဲမှ မီးလျှံများထွက်လာသည်။ မီးလျှံများသည် ကလာဗုမင်းကို အမျိုးတို့ပေးအပ်သော ကမ္ဗလာကို ခြုံရုံသကဲ့သို့ ဆွဲငင်ယူပြီး ကလာဗုမင်းသည် မင်းဝတ်တန်ဆာဖြင့်ပင် မြေသို့ဝင်ကာ အဝီစိငရဲ၌ တည်လေသည်။

ဘုရားလောင်းရသေ့သည် ထိုနေ့ပင် သေ၍ မင်း၏ပရိသတ်နှင့်တကွ ပြည်သူပြည်သားတို့က ပန်းနံ့သာတို့ဖြင့် သင်္ဂြိုဟ်ပူဇော်ကြလေသည်။

* * *

## ရသေ့တို့ကို ပြစ်မှား၍ သုနခငရဲခံရသော နာဠိကေရမင်း

အင်္ဂတိုင်း၊ ဒန္တပူရမြို့၌ နာဠိကေရမင်းသည် မင်းပြုသည်။ ထိုမင်းသည် တရားမစောင့်၊ အဓမ္မမှုဖြင့် တိုင်းပြည်အုပ်ချုပ်မင်းလုပ်သည်။

တစ်နေ့တွင် ရသေ့တစ်ပါးသည် တပည့်ရသေ့ငါးရာ ခြံရံလျက် ဟိမဝန္တာမှလာပြီး မင်းဥယျာဉ်၌ နေထိုင်ကြကာ များစွာသောလူအပေါင်းတို့ကို တရားဟောကြားသည်။

တရားစောင့်သော ရသေ့ငါးရာသည် ဤမြို့သို့ရောက်လာပြီး မင်းဥယျာဉ်၌ သီတင်းသုံးနေထိုင်ကြပြီး လူတို့အား တရားဟောပါသည်ဟု ဥယျာဉ်မှူးက မင်းအား လျှောက်ထားသည်။

နာဠိကေရမင်းသည် ငါလည်း တရားတော်ကိုနာမည်ဟုဆိုကာ ဥယျာဉ်သို့သွားပြီးလျှင် ရသေ့တို့အား ရှိခိုးလေသည်။ ရသေ့လည်း နာဠိကေရမင်းနှင့် နှုတ်ဆက်စကားပြောပြီး-

"မင်းကြီး...သင်သည် တရားနှင့်လျော်ညီစွာ မင်းပြုပါ၏လော၊ အဓမ္မဖြင့် တိုင်းကားပြည်ရွာကို မနှိပ်စက်ပါနှင့်" ဟု ဆုံးမသည်။ နာဠိကေရမင်းသည် ထိုမျှသောစကားဖြင့် ရသေ့အား အမျက်ထွက်ပြီးလျှင်-

"ဤရသေ့စဉ်းလဲသည် ဤမျှသောကာလပတ်လုံး ပြည်သူတို့ထံဝယ် ငါ၏ကျေးဇူးမဲ့ကို ဆိုလေသည်။ ငါ့အကြောင်းကို ရသေ့ သိစေရမည်" ဟု ကြံစည်သည်။ ထို့နောက် ရသေ့ကို-

"အရှင်ဘုရားတို့...နက်ဖြန်ခါ မင်းအိမ်တံခါးသို့ ကြွပါ" ဟု ဖိတ်ကြားသည်။

မိုးသောက်သောအခါ ကျင်ကြီးတို့ဖြင့် အိုးစရည်းတို့ကို ဖြည့်စေသည်။ နံနက် ရသေ့တို့ ရောက်လာသောအခါ ရသေ့တို့၏ခွက်တို့၌ ကျင်ကြီးတို့ဖြင့် ဖြည့်စေသည်။ တံခါးတို့ကို ပိတ်ပြီး ရသေ့တို့ကို သံတုတ်၊ ကျည်ပွေ့တို့ဖြင့် ဦးခေါင်းကို ရိုက်နှက်စေသည်။ ရသေ့တို့၏ ညို့သကျည်းကို ရိုက်လှဲစေပြီး ခွေးတို့ကို ကိုက်ဆွဲစေသည်။

ထိုခဏမှာပင် နာဠိကေရမင်းအား မြေမျိုပြီး သုနခငရဲ၌ ဖြစ်ရလေသည်။

နာဠိကေရမင်း၏ကိုယ်ကား သုနခငရဲ၌ သုံးဂါဝုတ်ရှိသည်။ ထိုကိုယ်ကို ဆင်ပြောင်ပမာဏရှိသော ခွေးနီ၊ ခွေးနက်၊ ခွေးကျားတို့က အစဉ်လိုက်၍ ကိုက်ကုန်လျက် ကိုးယူဇနာ အထုရှိ အလျှံပြောင်ပြောင်တောက်သော သံမြေပြင်၌ လဲကျစေသည်။ ထို့နောက် အသားတို့ကို ထုတ်နုတ်စားသောက်ကုန်သည်။

(ပါဠိဇာတ်ပါဠိတော်)

* * *

## ကုက္ကုလငရဲ၌ ခံရသော ဒဏ္ဍကီမင်း

ကိသဝစ္ဆရသေ့သည် သရဘင်္ဂမည်သော ရှင်ရသေ့၏အမည် ဖြစ်သည်။ သရဘင်္ဂဆရာ ရသေ့၏ငယ်နာမည်မှာ ဇောတိပါလအမည် ရှိသည်။

ထိုဇောတိပါလသည် သရပုင္ခဗာမာန၊ စက္ကဝိဒ္ဓ၊ သရလင်္ဃသရရဇ္ဇု၊ သရဝေဓိ၊ သရပါသာဒ၊ သရသောပါဏ၊ သရမဏ္ဍပ၊ သရပါကာရ၊ သရပေါက္ခရဏီ၊ သရပဒုမ၊ သရဝဿဟူသော မြားအတတ် (၁၂)မျိုးတွင် ပါဝင်သော သရပါသာဒ စသည်တို့ကိုပြပြီးလျှင် မြားတစ်စင်းဖြင့် မြားအားလုံးတို့ကို ကျစေလျက် ဖျက်ဆီးတတ်သောကြောင့် သရဘင်္ဂဟု အမည်တွင်ခဲ့သည်။

သရဘင်္ဂဆရာရသေ့တွင် သာလိဿရ၊ မေဏ္ဍိဿရ၊ ပဗ္ဗတကာဠဒေဝီလ၊ ကိသဝစ္ဆ၊ အနုသိဿ၊ နာရဒဟူ၍ တပည့်ရသေ့ ခုနစ်ယောက် ရှိလေသည်။

ကိသဝစ္ဆရသေ့သည် ဆရာရသေ့ထံ ခွင့်ပန်ပြီးလျှင် ဒဏ္ဍကီမင်း၏ နိုင်ငံဖြစ်သော ကုမ္ဘဝတီမြို့သို့သွားပြီး မင်းဥယျာဉ်ဝယ်နေသည်။

ထိုအချိန်တွင် ဒဏ္ဍကီမင်းထံမှ လာဘ်လာဘရနေသော ပြည့်တန်ဆာမသည် ပြည့်တန်ဆာအရာမှ ဖြုတ်ခံရသဖြင့် စိတ်ညစ်ပြီး ဥယျာဉ်၌ လှည့်လည်သွားနေစဉ် ကိသဝစ္ဆရသေ့ကို တွေ့မြင်မိသည်။

"ဤသူကား သူယုတ်ဖြစ်လတ္တံ့၊ ဤသူယုတ်ထက်၌ အညစ်အကြေးစွန့်ပြီး ရေချိုးသွားအံ့" ဟုဆိုပြီး ဒန်ပူနှင့်သွားတိုက်ကာ အလုံးစုံသော ချွဲတံတွေးတို့ကို ရသေ့၏ဆံကျစ်၌ ထွေးသည်။ ဒန်ပူဖန်တို့ကိုလည်း ဦးခေါင်းထက်၌ ပစ်ချပြီးသွားသည်။

မင်းသည် ပြည့်တန်ဆာမကို သတိရ၍ တဖန် မူလနေရာရာထူးကို ပြန်ပေးသည်။ "ငါသည် သူယုတ်ကိုယ်ကို တံတွေးဖြင့်ထွေး၍ ဤစည်းစိမ်ကို ပြန်ရသည်" ဟု မောဟဖြင့် တွေဝေကာ မှတ်ထင်ခဲ့သည်။

ထိုမှ နောက်မကြာခင်ပင် မင်းပုရောဟိတ်သည်လည်း အရာမှ ချခံရပြန်သည်။ ပုဏ္ဏားသည် ပြည့်တန်ဆာမထံသို့ သွားပြီး-

"သင်သည် ဘယ်သို့လုပ်၍ မူလရာထူးနေရာပြန်ရပါသနည်း" ဟု မေးသည်။ ပြည့်တန်ဆာမက မိမိလုပ်ခဲ့သောအကြောင်းတို့ကို ပြောပြသည်။ ပုဏ္ဏားသည် ပြည့်တန်ဆာမစကားကို ယုံကာ ဥယျာဉ်သို့သွားပြီးလျှင် ရသေ့ဦးခေါင်းထိပ်ထက်၌ တံတွေးဖြင့် ထွေးထားခဲ့သည်။

ထိုပုရောဟိတ်သည်လည်း မကြာခင် ရာထူးပြန်ရပြန်သည်။

နောင်အခါ ဒဏ္ဍာကီမင်းအား ပစ္စန္တရာဇ်အရပ်သည် ပုန်ကန်ခြားနားသည်။ မင်းသည် စစ်သည်အပေါင်း ခြံရံလျက် စစ်ထိုးရန်ထွက်သည်။ ထိုအခါ ပုရောဟိတ်-

"အရှင်မင်းကြီး…သင်သည် စစ်အောင်ခြင်း၊ ရှုံးခြင်းတွင် အဘယ်ကို အလိုရှိသနည်း" ဟု လျှောက်ထားသည်။

"အသင်ပုဏ္ဏား…အောင်ခြင်းကိုပင် အလိုရှိ၏"

"အရှင်မင်းကြီး…ထိုသို့ဆိုကာ ဥယျာဉ်ထဲဝယ် သူယုတ်ရှိ၏။ ထိုသူယုတ်၏ ကိုယ်ဝယ် အညစ်အကြေး စွန့်သွားပါ"

မင်းသည် ပုဏ္ဏားစကားကို ယုံကြည်ပြီး ရသေ့ထံသို့သွားသည်။ စစ်သည် အပေါင်းကို မင်းသည် မိမိနှင့်အတူ ရသေ့အပေါ်၌ အညစ်အကြေးစွန့်ရန် မှာကြားသည်။ မင်းသည် မိမိလည်း ကိုယ်တိုင် ဒန်ပူစားပြီး ရသေ့ဆံကျစ်ကြား၌ တံတွေးထွေးသည်။ ဒန်ပူဖတ်ကို ပစ်ချသည်။ စစ်သည်အပေါင်းကလည်း မင်းလုပ်သည့်အတိုင်း လိုက်၍လုပ်ကြသည်။

ထိုအထဲတွင် စစ်သူကြီးမပါ။ စစ်သူကြီးသည် အားလုံး ဖယ်ခွာသွားပြီးသော် ရသေ့ထံသို့ လာကာ ရသေ့ကိုယ်ပေါ် အညစ်အကြေးများကို စင်ကြယ်အောင် ဆေးကြောပေးသည်။ ရေချိုးပေးသည်။ ပြီးလျှင်-

"အရှင်ဘုရား…မင်းအား အဘယ်သို့ဖြစ်လတ္တံ့နည်း"

"စစ်သူကြီး…ငါကား စိတ်အမျက်မရှိပါ။ နတ်တို့ကား အမျက်ထွက်ကြလေပြီ။ ခုနစ်ရက်မြောက်သောနေ့၌ တိုင်းပြည်အလုံးစုံ ပျက်စီးလတ္တံ့။ သင်မူကား သားမယားတို့ကို ခေါ်၍ အရပ်တစ်ပါးသို့ သွားပါလေ"

စစ်သူကြီးသည် ရသေ့စကားကိုကြား၍ ကြောက်လန့်ပြီး မင်းကို အကြောင်းကြား လျှောက်ထားသည်။ မင်းက စစ်သူကြီးစကားကို အရေးမထားချေ။ စစ်သူကြီးသည် စစ်ထွက်ရာမှပြန်လာသော် မိမိ၏သားမယားတို့ကို ခေါ်၍ တိုင်းတစ်ပါးသို့ ရှောင်ပြေးလေသည်။

သရဘင်္ဂဆရာသည် ထိုအကြောင်းကိုသိ၍ ရသေ့ပျို့နှစ်ယောက်ကို စေလွှတ်ပြီး ကိသဝစ္ဆရသေ့ကို ညောင်စောင်းထမ်းစင်ငယဖြင့် သယ်ဆောင်ယူစေသည်။ ရသေ့ပျို့နှစ်ပါးသည် ကိသဝစ္ဆရသေ့ကို ကောင်းကင်ခရီးဖြင့် လာရောက်သယ်ယူသွားသည်။

ဒဏ္ဍာကီမင်းသည် စစ်ထိုးပြီး၍ ခိုးသူတို့ကိုဖမ်းကာ မြို့သို့ပြန်လာသည်။ မင်းပြန်လာလျှင် နတ်တို့သည် မိုးကို ဦးစွာရွာစေသည်။ မိုးရေဖြင့် အလုံးစုံသော အကောင်ပုပ်တို့ကို မျောစေကုန်သည်။ ထို့နောက် စင်ကြယ်သော သဲမိုးကို ရွာစေသည်။ သဲမိုးအထက်၌ နတ်ပန်းမိုးကို ရွာစေသည်။ ပန်းထက်၌ ရွှေ၊ ငွေ၊ ပဲစ၊ မတ်စ မိုးကိုရွာစေသည်။ ပဲစ၊ မတ်စထက်၌

ကျပ်စမိုးကို ရွာစေ၏။ ကျပ်စမိုး၌ နတ်တန်ဆာတို့ကို ရွာစေသည်။

လူတို့သည် ဝမ်းမြောက်ဝမ်းသာဖြစ်ကြပြီးလျှင် ရွှေ၊ ငွေ၊ နတ်ဝတ်တန်ဆာတို့ကိုယူရန် အားထုတ်ကြသည်။ ထိုအခါ လူတို့အထက်၌ အလျှံတပြောင်ပြောင်တောက်သော လက်နက်မိုးကို ရွာစေသည်။ လူတို့သည် အပိုင်းပိုင်းအပြတ်ပြတ် ဖြစ်ကြကုန်သည်။

ထို့နောက် အခိုးအလျှံကင်းသော မီးကျီးမိုးကို ရွာစေသည်။ ထိုမှနောက် အလျှံတပြောင်ပြောင်တောက်သော တောင်ထွတ်တို့ ကျစေကုန်သည်။ ထို့နောက် အတောင်ခြောက်ဆယ်မျှ လောက်သောအရပ်ကို ပြည့်စေလျက် သိမ်မွေ့သော သဲမိုးကို ရွာစေသည်။ ဤသို့ဖြင့် ယူဇနာခြောက်ဆယ်သောအရပ်သည် ပျက်စီးလေသည်။

ထို့နောက် ဒဏ္ဍကီမင်းနှင့်တကွသော သူတို့သည် ပျက်စီးကြလျက် ကုက္ကုလငရဲ၌ ကျရောက်ခံကြရလေသည်။

ဒဏ္ဍကီမင်းနှင့်တကွသောသူတို့သည် ပျက်စီးကြလျက် ကုက္ကုလငရဲ၌ ကျရောက်ခံကြရလေသည်။

ဒဏ္ဍကီမင်းကိုယ်ထက်၌ မီးပေါက်မီးပွားတို့ ကျကုန်သည်။ ဒွါရ ၉ ပေါက်မှ ပြာပူတို့သည် ဝင်ကုန်၏။ ဦးခေါင်းထက်၌ မီးကျီးခဲတို့သည် ကျကုန်၏။ ကိုယ်သည် ဆီမီးတိုင်ကဲ့သို့ ပြောင်ပြောင်တောက်၏။ ဆင်းရဲဝေဒနာ ပြင်းစွာဖြစ်၍ ခံရသည်။ မင်းသည် နာကျင်မှုကို သည်းမခံနိုင်၍ ပြင်းစွာ အော်ဟစ်နေရသည်။

(ကုက္ကုလငရဲဟူသည် ယူဇနာတစ်ရာပမာဏရှိပြီး ကမ္ဘာပတ်လုံးတည်သော ပြာပူငရဲဖြစ်သည်။)

* * *

## မြေမျိုပြီး အဝီစိငရဲကျခံရသော မုဆိုးမိုက်

ဗာရာဏသီပြည်တွင် ဗြဟ္မဒတ်မင်း မင်းပြုနေချိန် ဖြစ်သည်။ ဘုရားအလောင်း သီလဝဆင်မင်းသည် ဆင်အပေါင်းခြံရံလျက် ဟိမဝန္တာ၌နေလေသည်။

တစ်နေ့တွင် ဗာရာဏသီပြည်မှ မုဆိုးတစ်ယောက်သည် တောလိုက်ရင်း ဟိမဝန္တာ၌ မျက်စိလည်လမ်းမှားပြီး ပြန်မရဖြစ်နေသည်။ ကြောက်လန့်တကြား ငိုကြွေးလျက် သွားလာနေရာ ဘုရားလောင်း သီလဝဆင်မင်းရှိရာအရပ်သို့ ရောက်သွားသည်။

ဘုရားလောင်း သီလဝဆင်မင်းသည် ထိုမုဆိုးကို သနားသဖြင့် မုဆိုးကို မိမိကျောပေါ်တင်ကာ လူတို့၏လမ်းခရီးသို့ ပို့ဆောင်ပေးလေသည်။

မုဆိုးသည် အရပ်သို့ပြန်ရောက်သော် ဆင်စွယ်ကို ရောင်းစားသော ဆင်စွယ်ပွတ်သမားတို့နှင့် တွေ့ပြီးလျှင် မိမတွေ့ကြုံခဲ့သော သီလဝဆင်မင်းအကြောင်းကို ပြောပြသည်။ ဆင်စွယ်ပွတ်သမားတို့သည် ထိုမုဆိုးကို ငွေပေး၍ ဘုရားလောင်း သီလဝဆင်မင်းရှိရာသို့ ပြခိုင်းသည်။

ကျေးဇူးတရားမသိသော မုဆိုးသည် ထိုဆင်စွယ်ပွတ်သမားတို့ကိုခေါ်ကာ ဘုရားလောင်းဆင်မင်းထံသို့လာခဲ့ပြီး-

"ကျွန်ုပ်သည် ဆင်းရဲပါသဖြင့် အရှင်ထံမှ ဆင်စွယ်ကို ပိုင်းရောင်း၍ အသက်မွေးလိုပါသည်" ဟု ဆိုသည်။

ဘုရားလောင်း သီလဝဆင်မင်းသည် အစွယ်ကိုလှူရန် သဘောတူပြီး ကိုယ်ကို ဝပ်ချပေးသည်။ မုဆိုးသည် ဘုရားလောင်းဆင်မင်း၏ ဦးထိပ်ပေါ်တက်ကာ အစွယ်ထိပ်ဖြာနှစ်ပိုင်းကို ဖြတ်ယူသွားသည်။

များမကြာမီ မုဆိုးသည် ဘုရားလောင်းဆင်မင်းထံရောက်လာပြီး ဆင်စွယ်ကို အလှူခံပြန်သည်။ ဘုရားလောင်းဆင်မင်းကလည်း လှူပြန်သည်။

မကြာခင် မုဆိုးသည် ဘုရားလောင်းဆင်မင်းထံရောက်လာပြီး ဆင်စွယ်ကို အလှူခံပြန်သည်။ ဘုရားလောင်းဆင်မင်းကလည်း လှူပြန်သည်။

မကြာခင် မုဆိုးသည် ဘုရားလောင်းထံ ပြန်လာပြီး ဆင်စွယ်ကို အလှူခံပြန်ပါသည်။

ကျွန်ုပ်မှာ အစွယ်ငုတ်သာကျန်သည်။ ထိုအစွယ်ငုတ်ကိုသာ ဖြတ်ယူပါလော့ဟုဆိုကာ လှူလေသည်။

လောဘသက္ကာရကြီးသော မုဆိုးမိုက်သည် ဦးကင်းပေါ်တက်ပြီး ဆင်၏နှုတ်သီးနှစ်ဖက်တို့ကို ဖနောင့်ဖြင့်ဖွင့်ပြီး အသားကိုထုတ်ယူ၊ ဆင်စွယ်ငုတ်ကို လွှဖြင့် ဖြတ်ယူသည်။

ထိုမုဆိုးသည် ဖြတ်ယူ၍ပြန်လာစဉ် ဘုရားလောင်းဆင်မင်း၏ မျက်စိမြင်အဆုံးတွင် မြေမျိုပြီး အဝီစိငရဲသို့ ကျရလေသည်။

ထိုအခါ တောစောင့်ရုက္ခစိုးနတ်က-

"ကျေးဇူးမသိတတ်၊ အခွေခင်ပွန်းကို ပြစ်မှားတတ်သော သူယုတ်မာအား စကြဝတေးမင်းအဖြစ်ကို ပေးသော်လည်း ရောင့်ရဲစေရန် မတတ်နိုင်" ဟု ဆိုလေသည်။

(စတုက္ကနိပါတ-သီလဝနာဂရာဇာဇာတက)

* * *

## အဝီစိငရဲကျရသည့် သားသတ်မင်းမိုက်

ဗာရာဏသီပြည်၌ မဟာပတာပမင်း မင်းပြုစဉ် ဘုရားလောင်းသည် ထိုမင်း၏သား ဓမ္မပါလအမည် ရှိသည်။

သားတော် ခုနစ်လအရွယ်ရောက်သော မယ်တော်စန္ဒာဒေဝီသည် သားကိုကစားလျက် ရွှင်မြူးနေစဉ် မင်း မိမိထံလာသည်ကို မမြင်မိဖြစ်ရလေသည်။

"မိဖုရားက သားကိုမှီပြီး မာနထောင်သည်။ ငါ့ကို မလေးမစားပြုသည်" ဟု အမျက်ထွက်ပြီးလျှင် မိမိနေရာသို့ပြန်သွားပြီး ခိုးသူသတ် အာဏာသားကို သားတော်ငယ်ကို သွားယူခိုင်းသည်။

မိဖုရားသည် မိမိအား မင်းအမျက်ထွက်သည်ကိုသိ၍ သားငယ်ကို ရင်ဝယ်အိပ်စေပြီး ငိုနေလေသည်။ အာဏာသားသည် မိဖုရားကို ရိုက်နှက်၍ သားတော်ငယ်ကို မိဖုရားရင်ခွင်မှ အတင်းလုယူသွားသည်။ မိဖုရားသည် ငိုလျက် သားနောက်မှ လိုက်သွားသည်။

မင်းသည် အာဏာသားကို-

"ကလေးလက်ကို ဖြတ်လော့" ဟု စေခိုင်း၏။

"အရှင်မင်းကြီး...သားမှာ အပြစ်မရှိပါ။ ကျွန်ုပ်မှာသာ အပြစ်ရှိပါသည်။ ကျွန်ုပ်ကို သာ ဖြတ်ပါ" ဟု ငိုပြောသည်။

အာဏာသားသည် ဓမ္မပါလလက်ကို ဖြတ်သည်။ မင်းသားသည် မငိုဘဲ ခန္တီမေတ္တာကို ရှေ့ထား၍ သည်းခံသည်။

တဖန် မင်းသည် မင်းသား၏ခြေနှစ်ဖက်ကို ဖြတ်ပြန်၏။ မင်းသားက မငို၊ သည်းခံ၏။ ထို့နောက် ဦးခေါင်းကို ဖြတ်စေသည်။ ထို့နောက် မင်းသားအလောင်းကို ကောင်းကင်သို့ ပစ်တင်ပြီး သံလျက်ဖြင့် မွှေ့သည်။

မိဖုရားသည် သားအဖြစ်ကိုမြင်ရပြီး နှလုံးကွဲကာ ထိုနေရာ၌ပင် သေလေသည်။

မင်းသည်လည်း ပြသာဒ်မှ မြေသို့ကျပြီး အဝီစိငရဲ မီးလျှံတက်ပြီး ငရဲမီးလျှံက သယ်ဆောင်ကာ မြေမျိုခံရပြီး အဝီစိငရဲသို့ ကျရလေတော့သည်။

**စူဠဓမ္မပါလဇာတက**

* * *

# အမိစော်ကား၍ ဥသာဒုက္ခရောက်ခံရသူ မိတ္တဝိန္ဒက

ကဿပဘုရားရှင်လက်ထက်၌ ဖြစ်သည်။

ဗာရာဏသီပြည်၌ ကုဋေရှစ်ဆယ် ကြွယ်ဝသော သူဌေးတစ်ဦးတွင် မိတ္တဝိန္ဒကမည်သော သားမိုက်တစ်ဦး ရှိသည်။ မိဘတို့ကား သောတာပန် ဖြစ်ကြသည်။

နောက် အဘကွယ်လွန်သော် အမိသည် ဥစ္စာတို့ကို စီမံအုပ်ချုပ်သည်။ အမိသည် သားကို အလှူပေးရန် ဥပုသ်သီတင်းဆောက်တည်ရန် ဆုံးမသော်လည်း သားက-

"ကျွန်ုပ်ကို မဆုံးမနှင့်၊ ကျွန်ုပ်ထင်သလိုနေမည်" ဟု မချေမငံ ပြောဆိုတတ်သည်။

လပြည့်နေ့တစ်နေ့တွင် အမိက သားကို-

"ယနေ့ ကျောင်းသို့သွား၍ ဥပုသ်စောင့်လျှင် ငွေတစ်ထောင်ပေးမည်" ဟု ပြောသည်။

မိတ္တဝိန္ဒကသည် ငွေကို လိုချင်သဖြင့် ကျောင်းသို့သွားသည်။ ဥပုသ်ဆောက်တည်သည်။ ညဥ့်အခါ ဇရပ်တစ်ခု၌အိပ်ပြီး နောက်တစ်နေ့ နံနက်စောစော ပြန်လာခဲ့သည်။

မိခင်ထံ ဥပုသ်စောင့်ခအတွက် ငွေတစ်ထောင် တောင်းပြီး ထိုငွေဖြင့် မိမိဘာသာ ကုန်ကူးရာ မကြာခင် ငွေတစ်သိန်းနှစ်သောင်း ရလေသည်။

မိတ္တဝိန္ဒကသည် ထိုငွေဖြင့် သမုဒ္ဒရာကို ဖြတ်၍ ရပ်ဝေးသို့ လှေသင်္ဘောဖြင့် ကုန်ကူးသွားရန် စီမံသည်။ မိခင်က တစ်ဦးတည်းသောသားဖြစ်၍ အန္တရာယ်ရှိသော ထိုသမုဒ္ဒရာခရီးကိုမသွားရန် အတန်တန် တောင်းပန်သည်။

လှေသင်္ဘောထွက်မည့်နေ့တွင် မိခင်က သားကိုမသွားရန် လက်ကို အတင်းဆွဲထားရာ မိတ္တဝိန္ဒကသည် အမိကို ရိုက်နက်လဲကျစေပြီး အတင်းဇွတ်ပြုကာ ထွက်ခဲ့သည်။

သူတို့သွား၍ ခုနစ်ရက်ရှိသော် လှေသည် သမုဒ္ဒရာအလယ်တွင် မရွေ့ရှားတော့ဘဲ ရပ်တည်နေလေသည်။ လှေကို အမျိုးမျိုးသွားရန် ကြိုးစားကြသော်လည်း မရချေ။

ထိုအခါ လှေသူကြီးက "တို့လှေထဲတွင် သူယုတ်မာတစ်ယောက်တော့ ပါနေပြီ။ စာရေးကံမဲချ၍ သူယုတ်မာကို ရွေးကြစို့" ဟု ဆိုကာ စာရေးကံမဲ ချသည်။

မိတ္တဝိန္ဒကသည် သုံးကြိမ်လုံးပင် မဲကျသည့်အတွက် လှေသူကြီးက မိတ္တဝိန္ဒကကို ဖောင်ပေါ်တင်၍ သမုဒ္ဒရာထဲ၌ ချထားခဲ့သည်။

ထိုအခါ လှေသည် ဆက်လက်ထွက်ခွာသွားသည်။ မိတ္တဝိန္ဒကသည် ဖောင်ပေါ်၌ ပါလာခဲ့ရာ ခုနစ်ရက်မြောက်သောနေ့တွင် ကျွန်းတစ်ကျွန်းသို့ ရောက်သွားသည်။ ထိုကျွန်းတွင် ခုနစ်ရက် ဆင်းရဲခံရ၍ ခုနစ်ရက် ချမ်းသာကို ခံစားရသော ဝေမာနိကပြိတ္တာမလေးယောက်နှင့် မိတ္တဝိန္ဒကသည် တွေ့သည်။

သူသည် ထိုပြိတ္တာမလေးယောက်နှင့် ခုနစ်ရက်ပတ်လုံး မွေ့လျော်ခံစားနေရသည်။ ခုနစ်ရက်မြောက်သောနေ့တွင် ထိုပြိတ္တာမ ဆင်းရဲခံစားရန် ထွက်ခွာသွားသောအခါ မိတ္တဝိန္ဒကသည် ဖောင်ဖြင့် ဆက်လက်ထွက်ခွာခဲ့ပြန်သည်။

ကျွန်းတစ်ကျွန်းသို့ ရောက်ပြန်သည်။ ထိုကျွန်းတွင်လည်း ခုနစ်ရက်ခံ၊ ခုနစ်ရက်စံသော ပြိတ္တာမရှစ်ယောက်နှင့်တွေ့ပြန်ပြီး ခုနစ်ရက် ခံစားပြန်သည်။

ခုနစ်ရက်ပြည့်ပြန်သော် ဆက်လက်ထွက်ခွာခဲ့ရာ ဝေမာနိက ပြိတ္တာမ တစ်ဆယ့်ခြောက်ဦးနှင့်လည်းကောင်း၊ ထို့နောက် သုံးဆယ့်နှစ်ဦးနှင့်လည်းကောင်း တွေ့ပြီး ခုနစ်ရက်စီ မွေ့လျော်ခံစားခဲ့သည်။

ထိုမှနောက် ဆက်လက်သွားပြန်ရာ တံခါးလေးပေါက်ရှိပြီး သံတံတိုင်း ကာရံထားသော မြို့တစ်မြို့သို့ ရောက်သွားသည်။ ထိုမြို့သည် သင်ခုန်းဓားစက်ကို ဦးခေါင်းပေါ်ရွက်လျက် သွေးများပန်းထွက်ပြီး ဆင်းရဲဒုက္ခ ခံနေရစေယ ဥဿဒငရဲမြို့ ဖြစ်သည်။

မိတ္တဝိန္ဒကသည် သင်ခုန်းဓားစက်ရွက်ပြီး ဆင်းရဲဒုက္ခခံနေရသော ငရဲသားကို ပဒုမ္မာကြာပန်းရွက်ပြီး ကခုန်မြူးတူးနေသောသူဟု ထင်မှတ်ခဲ့သည်။ သို့အတွက် ထိုငရဲသားထံ သွားကာ ပဒုမ္မာကြာပန်းကို တောင်းသည်။ ငရဲသားက သင်ခုန်းဓားစက်ဟု ပြောသည်ကို လက်မခံ။ ဤပဒုမ္မာကြာပန်းကို ငါ့အားပေးလော့ဟု အကြိမ်ကြိမ်တောင်းသည့်အတွက်လည်းကောင်း၊ ထိုခံနေရသော ငရဲသားကလည်း ကျွတ်ချိန်တန်နေ၍လည်းကောင်း၊ မိတ္တဝိန္ဒကသည် ထိုသင်ခုန်းဓားစက်ကို မိမိဦးခေါင်းပေါ်သို့ ရွှေ့ပြောင်းယူတင်မိလိုက်သည်။ ထိုသို့ တင်မိသည်နှင့်တစ်ပြိုင်နက် ဆင်းရဲဒုက္ခကြီးစွာ ခံစားရတော့သည်။

ထိုအချိန်တွင် ဘုရားလောင်းရက္ခစိုးသည် အခြံအရံဖြင့် ဥဿဒငရဲသို့ လှည့်လည်ကြည့်သည်ရှိသော ထိုမိတ္တဝိန္ဒကသည် နတ်သားကို-

"အဘယ်မကောင်းမှုကြောင့် ကျွန်ုပ်သည် ဤဆင်းရဲကို ခံရပါသနည်း" ဟု မေးသည်။

"သင်သည် တဏှာသို့ အလိုလိုက်ခြင်း၊ မိဘစကားကို နားမထောင်ခြင်း၊ အမိကို ပုတ်ခတ်ခြင်းဟူသော အကုသိုလ်ကံကြောင့် ဤဆင်းရဲကို ခံစားရသည်"

ရက္ခစိုးနတ်က ဤသို့ပြောပြီး ဆက်လက်ထွက်ခွာသွားခဲ့သည်။

**စတုဒ္ဒါရ (မဟာမိတ္တဝိန္ဒကဇာတက)**

* * *

## မတရားမှုပြု၍ အဝီစိငရဲကျရသော အဓမ္မနတ်သား

ဗာရာဏသီပြည် ဗြဟ္မဒတ်မင်းလက်ထက် ဘုရားအလောင်း ဓမ္မနတ်သား (ဓမ္မဒေဝပုတ္တ) သည် မိမိအခြံအရံနှင့်တကွ ရထားစီး၍ ညအခါ လူတို့ ထမင်းစားပြီး၍ အိမ်တံခါးများ၌ နေကြစဉ် ရွာ၊ နိဂုံး၊ ဇနပုဒ်၊ မင်းနေပြည်တို့တွင် ကောင်းကင်၌ရပ်လျက်-

"မိဘကိုလုပ်ကျွေးခြင်း၊ သုစရိုက်သုံးပါးကို ကျင့်ခြင်းကိုပြုသော သူတို့သည် နတ်ပြည်သို့လားကြ၏" ဟု လူတို့အား သုစရိုက်ဆယ်ပါးတို့ကို ဆောက်တည်စေ၍ ဗမ္မူဒိပ်ကို လက်ျာရစ်လှည့်လည်၏။

ဒေဝဒတ်လောင်း အဓမ္မနတ်သားသည် "သူ့အသက်ကိုသတ်ကြ" စသည်ဖြင့် ဒုစရိုက်ဆယ်ပါးကိုပြုစေရန် လူတို့အား နှိုးဆော်လျက် ဇမ္ဗူဒိပ်ကို လက်ဝဲရစ်လှည့်၏။

ထိုအခါ နတ်သားနှစ်ဦး၏ရထားတို့သည် ကောင်းကင်၌ ရင်ဆိုင်တွေ့ကြ၏။ ထိုသူနှစ်ဦး၏ပရိသတ်သည် လမ်းခရီးမှဆင်း၍ နှစ်ဖြာဖြစ်ကြ၏။ ဓမ္မနတ်သားက-

"သင်သည် အဓမ္မနတ်သားမည်၏။ ငါသည် ဓမ္မနတ်သားမည်၏။ ငါ့အား လမ်းကို ပေးလော့" ဟု ဆို၏။

အဓမ္မနတ်သားက-

"ငါ မပေးနိုင်၊ စစ်ထိုးကြအံ့။ နိုင်သောသူသည် လမ်းကိုရပါစေ။ သံသည် ရွှေကို ဖြတ်နိုင်၏။ ရွှေသည် သံကို မဖြတ်နိုင်။ ငါသည် သင့်ကိုသတ်အံ့" ဟုဆို၏။

ထိုစကား၌ အဓမ္မနတ်သားသည် ရထားမှ ဦးခေါင်းစောက်ထိုး မြေသို့ကျ၍ မြေမျိုခံရပြီး အဝီစိငရဲ၌ ဖြစ်လေ၏။



## ဇာတ်တော်လာ မြေမျိုခံရသူများငရဲ

## ပဒုမငရဲခံ စူဠကောကာလိက

ကောကာလိကတိုင်း၊ ကောကာလိကမြို့၌ ကောကာလိကသူဌေးသားသည် ရဟန်းပြုပြီးလျှင် မိမိအဖ ဆောက်လုပ်သောကျောင်း၌ပင် သီတင်းသုံးသည်။

တစ်နေ့ ရှင်သာရိပုတ္တရာနှင့် ရှင်မဟာမောဂ္ဂလာန် အဂ္ဂသာဝကနှစ်ပါးတို့သည် နောက်ပါ ရဟန်းအခြံအရံ ငါးရာစီနှင့်တကွ ဒေသစာရီ လှည့်လည်ကြသည်။ ဝါဆိုရန်နီးကပ်သော် နောက်ပါသံဃာတော်များကို ပြန်လွှတ်လိုက်ပြီး သပိတ်သင်္ကန်း ကိုယ်တိုင်ယူကာ ထွက်ခဲ့ကြသည်။ ကောကာလိကမြို့သို့ရောက်ပြီး ထိုကျောင်းသို့ ဝင်ခဲ့ကြသည်။

အဂ္ဂသာဝကနှစ်ပါးသည် ကျောင်းနေရဟန်းနှင့် ဝမ်းမြောက်ဝမ်းသာ နှုတ်ဆက်စကား ပြောဆိုသည်။ ထို့နောက် အရှင်သာရိပုတ္တရာက-

"ငါ့ရှင် ကောကာလိက၊ ငါတို့သည် ဤကျောင်း၌ သုံးလပတ်လုံး ဆိတ်ငြိမ်မှုကို ယူ၍ နေပါကုန်အံ့။ မည်သူ့ကိုမျှ မပြောကြားပါနှင့်"ဟု မိန့်ကြားသည်။

ကောကာလိကသည် ကောင်းပါပြီဟု ဝန်ခံ၍ ဝါတွင်းသုံးလနေပြီးလျှင် ဝါကျွတ်သော် ကောကာလိကသည် အဖိတ်နေ့ကပင် မြို့သို့ဝင်ပြီး-

"လူအပေါင်းတို့၊ ဘုရားရှင်၏အဂ္ဂသာဝကနှစ်ပါးတို့သည် ဤအရပ်မှာလာ၍ ဝါဆိုသည်ကို မသိကြလေသလော။ မည်သူကမျှ ပစ္စည်းလေးပါးဖြင့် ဖိတ်ကြားခြင်းမပြုကြ" ဟု ဆိုသည်။

မြို့သူမြို့သားတို့က-

"အရှင်ဘုရား၊ အဘယ့်ကြောင့် တပည့်တော်တို့အား အကြောင်းမကြားပါသနည်း"

"ကြားသဖြင့် အဘယ်အကျိုးရှိပါမည်လဲ။ ရဟန်းနှစ်ပါးနေသည်ကို သင်တို့ မမြင်ကြလော၊ ထိုနှစ်ပါးသည် အဂ္ဂသာဝက မဟုတ်သလော"

ထိုအခါ မြို့သူမြို့သားတို့သည် လျင်မြန်စွာ စည်းဝေး၍ တင်လဲ၊ ထောပတ်၊ အဝတ်ပုဆိုးစသည်တို့ကိုယူကြပြီးလျှင် ကောကာလိကကျောင်းသို့ လိုက်လာကြသည်။ ကောကာလိကသည် ဤသို့ ကြံစည်မိသည်-

"အဂ္ဂသာဝကနှစ်ပါးတို့က အလွန် အလိုနည်းကုန်၏။ ဝိညာဉ်နှင့်စပ်သောစကားကြောင့်ဖြစ်သော လာဘ်ဟုသိမှု မသာယာကုန်လတ္တံ့၊ ထိုသို့ မသာယာမှု မချွတ်လျှင် ကျောင်းနေရဟန်းအား လှူကြကုန်လေဟု ဆိုလတ္တံ့။ ဤသို့ဆို၍ လှူကြသည်ရှိသော် ထိုပစ္စည်းအားလုံး ငါ ရလတ္တံ့"

အဂ္ဂသာဝကနှစ်ပါးသည် လာဘ်ကိုမြင်သော် ဝိညာဉ်နှင့်စပ်သောစကားကြောင့် ဖြစ်သည်ကိုသိ၍-

"ဤပစ္စည်းတို့ကား ငါတို့အားလည်း မအပ်ကုန်၊ ကောကာလိကအားလည်း မအပ်ကုန်"

ဟူ၍ ကျောင်းနေရဟန်းအား လှူလော့ဟု မမိန့်ကြားဘဲ ပယ်ရှား၍သာ ဖဲခွာကြွသွားကြသည်။

"အဘယ်ကြောင့်လျှင် မိမိတို့ မယူကုန်သည်ရှိသော် ငါ့အားလည်း မပေးစေကုန်ဘိသနည်း"

ကောကာလိကသည် နှလုံးမသာမယာ ဖြစ်လေသည်။

အဂ္ဂသာဝကနှစ်ပါးသည် ဘုရားရှင်ထံသို့ ပြန်လာကြသည်။ ပဝါရဏာပြုပြီးသော် ဘုရားရှင်က ကိုယ်တော်တိုင် ဒေသစာရီ မချီလိုသည်ဖြစ်၍-

"ရဟန်းတို့...များစွာသောလူတို့၏ အကျိုးစီးပွားအလို့ငှာ ဒေသစာရီ ချီကြကုန်လော့" ဟု မိန့်ကြားတော်မူသည်။

အဂ္ဂသာဝကနှစ်ပါးသည် နောက်ပါရဟန်းငါးရာစီနှင့်အတူ ဒေသစာရီကြွကြပြန်သည်။ အစဉ်အတိုင်း ကြွခဲ့ကြရာ ကောကာလိကမြို့သို့ ရောက်ကြပြန်သည်။

မြို့သားတို့သည် မထေရ်မြတ်နှစ်ပါးကိုမြင်လျှင် ပရိက္ခရာရှစ်ပါးနှင့်တကွ ဒါနကို စီရင်ပြီး မြို့တွင်း၌ မဏ္ဍပ်ထိုးကာ ပေးလှူကြသည်။ မထေရ်နှစ်ပါးအား အသီးအခြား ပရိက္ခရာတို့ကို ပေးလှူကုန်၏။ မထေရ်မြတ်တို့က ပရိက္ခရာတို့ကို သံဃာတို့အား ပေးလှူလေသည်။

ထိုအခြင်းအရာကို ကောကာလိကရဟန်း မြင်လေသော် ဤသို့ ကြံမိ၏။

ဤသူတို့သည် ရှေးအခါက အလိုနည်းကုန်၏။ ယခုအခါ လောဘဖြင့် နှိပ်စက်အပ်သည်ဖြစ်၍ ယုတ်မာသော အလိုရှိကြကုန်၏။ ရှေးအခါက အလိုနည်းယောင်၊ ရောင့်ရဲယောင်၊ ဆိတ်ငြိမ်ခြင်းကို အလိုရှိယောင်သာ ပြုကြကုန်၏။ ဤသူတို့သည် ယုတ်မာကြကုန်၏။ ထင်ရှားမရှိသောဂုဏ်ကို ပြတတ်သော ရဟန်းတို့တည်း။ ကောကာလိကသည် မထေရ်တို့ထံ ကပ်ကာ-

"ငါ့ရှင်တို့၊ သင်တို့ကား ရှေးအခါက အလိုနည်းယောင်၊ ရောင့်ရဲယောင်၊ ဆိတ်ငြိမ်ခြင်းကိုအလိုရှိယောင် ဆောင်ကုန်၏။ ယခုမူကား ယုတ်မာသောသဘော ရှိကုန်၏"

ဤသို့ဆိုပြီးလျှင် သပိတ်သင်္ကန်းကိုယူကာ လျင်မြန်စွာ ဘုရားရှင်ရှိရာ သာဝတ္ထိပြည်သို့ ထွက်ခွာလာခဲ့သည်။ ဘုရားရှင်ထံသို့ရောက်သောအခါ ဘုရားရှင်ကို ဝင်ရောက်ရှိခိုးပြီး-

"ဘုန်းတော်ကြီးသော မြတ်စွာဘုရား၊ ရှင်သာရိပုတ္တရာ၊ မောဂ္ဂလာန်တို့သည် ယုတ်မာသော အလိုရှိကုန်၏" ဟု လျှောက်ထားသည်။

ဘုရားရှင်သည် ကောကာလိက လျင်မြန်စွာလာပြီး အဂ္ဂသာဝကနှစ်ပါးကို စွပ်စွဲဆဲရေးမည့်အကြောင်းကို သိသည်။ တားမြစ်၍ရကောင်းအံ့လောဟု ဆင်ခြင်သည်။ တားမြစ်၍မရ။ အဂ္ဂသာဝကနှစ်ပါးကို စွပ်စွဲ၍ မဟာပဒုမငရဲ၌ဖြစ်လတ္တံ့ဟု မြင်တော်မူသည်။

ထိုသို့မြင်တော်မူသော်လည်း အဂ္ဂသာဝကနှစ်ပါးကို သူတစ်ပါးတို့ ကဲ့ရဲ့သောစကားကို ကြားလျက် မတားမြစ်လေဟု သူတစ်ပါးတို့ကဲ့ရဲ့ခြင်းမှ လွတ်စေခြင်းငှာလည်းကောင်း၊ အရိယာပုဂ္ဂိုလ်တို့အား စွပ်စွဲဆဲရေးခြင်းသည် ကြီးစွာသောအပြစ်ဖြစ်သည်ကိုလည်းကောင်း သိစေခြင်းငှာလည်းကောင်း-

"ကောကာလိက ဤသို့မဆိုလင့်။ သာရိပုတ္တရာ၊ မောဂ္ဂလာန်တို့ကို စိတ်၌ ကြည်ညို စေလော့။ သာရိပုတ္တရာ၊ မောဂ္ဂလာန်တို့သည် သီလကို ချစ်ကုန်၏" ဟု သုံးကြိမ်တိုင်တိုင် တားမြစ်သည်။ သို့သော် တားမရ။

ကောကာလိကသည် ဘုရားရှင်ထံမှ ထသွားလျှင်ထသွားချင်း မုန်ညင်းစေ့၊ ပဲနောက်စေ့၊ ကုလားပဲစေ့၊ ကလောစေ့၊ ဆီးစေ့၊ သျှိသျှားစေ့၊ နုသောဥသျှစ်သီး၊ ရင့်သောဥသျှစ်သီး

ပမာဏရှိကုန်သော အိုင်းအမာတို့သည် ပေါက်ကွဲထွက်ကုန်ကြသည်။ သွေးပြည်တို့သည် ထွက်ကုန်၏။ ကိုယ်သည် ပိန္နဲသီးမှည့်ကဲ့သို့ ဖြစ်လာသည်။

ကောကာလိကသည် ပျက်စီးသောကိုယ်ဖြင့် ဆင်းရဲခြင်းနှိပ်စက်ရကား ဇေတဝန်ကျောင်း တံခါးမုခ်၌ အိပ်သည်။

ထိုအခါ တရားနာရန်လာသော လူတို့သည် ကောကာလိကကို မြင်ကြ၍-

"မိကောကာလိက...မိကောကာလိက၊ သင်သည် မသင့်သောအမှုကိုပြုဘိ၏။ မိမိ၏ စကားတစ်ခွန်းကို အမှီပြုလျက် ပျက်စီးခြင်းသို့ ရောက်ရ၏" ဟု ဆိုကြသည်။

ထိုသူတို့၏စကားကို ကျောင်းစောင့်နတ်တို့ကြားသည်။ ထိုနတ်တို့မှတစ်ဆင့် အာသာသ နတ်တို့ ကြားကြသည်။ ဤသို့ အဆင့်ဆင့်အားဖြင့် အကနိဋ္ဌဗြဟ္မာ့ဘုံတိုင်အောင် တစ်ပြိုင်နက် 'မိ'ဟူသော တံတွေးထွေးခြင်းသည် ဖြစ်၏။

ထိုအခါက ဓာတုပိပကအမည်ရှိသော ကောကာလိက၏ ဥပဇ္ဈာယ်ဆရာသည် အနာဂါမ် ဖိုလ်ဆိုက်၍ သုဒ္ဓါဝါသဗြဟ္မာပြည်၌ ဖြစ်နေသည်။ ထိုဆရာသည် ထိုအသံကိုကြား၍-

"ငါမြင်သိစဉ် ဤလူမိုက် မပျက်စီးစေလင့်။ အဂ္ဂသာဝကတို့၌ စိတ်ကို ကြည်ညိုစေခြင်းငှာ ဆုံးမအံ့" ဟု လာ၍ ကောကာလိကရှေ့၌ ရပ်သည်။

"ကောကာလိက၊ သင်သည် အဂ္ဂသာဝကနှစ်ပါးတို့၌ စိတ်ကို ကြည်ညိုစေသော အဂ္ဂသာဝကတို့သည် ချစ်သောသီလ ရှိကုန်၏"

"အသင်ကား ဘယ်သူနည်း"

"ငါကား ရှေးက သင့်ဥပဇ္ဈာယ်ဖြစ်ခဲ့သော တုဂုဗြဟ္မာတည်း"

"ငါ့ရှင် သင့်ကို ဘုရားရှင်က အနာဂါမ်ဟု ပြောခဲ့သည်မဟုတ်လော။ ဤသို့ဖြစ်လျက် လူ့ဘုံသို့ တစ်ဖန် အဘယ်ကြောင့် လာပြန်သနည်း။ သင်ကား တုဂုဗြဟ္မာ မဟုတ်။ ဘုတ်၊ ပြိတ္တာ၊ တစ္ဆေ ဖြစ်လိမ့်မည်"

ထိုတုဂုဗြဟ္မာသည် ကောကာလိက မိမိစကားကို မနာခံ၍ပြန်လေသည်။ ကောကာလိက သည် ထိုနေရာမှာပင် သေ၍ ပဒုမငရဲ၌ ဖြစ်ရလေသည်။

(ပဒုမငရဲဟူသည် သီးသန့်မရှိ၊ အဝီစိငရဲကြီးသည်သာလျှင် ပဒုမအရေအတွက်ဖြင့် ကျက်ရာဖြစ်သော တစ်ခုသောအရပ် ဖြစ်သည်။)

* ပဒုမနိရယဋ္ဌိပါဠိသောက္ကောပဒုမနိရယောနာမနတ္ထိ
* အဝီစိနိရယမှိယေဝပန ပဒုမဂဏနာယပစ္စိတဗ္ဗေ ဧကသ္မိံ ဌာနေနိဗ္ဗတ္တိ။

* * *

## အရှင်လတ်လတ် ငရဲမှစ်ချစ်ရသော ရေဝတီ

ဘုရားရှင် ဗာရာဏသီပြည် မိဂဒါဝုန်တော၌ သီတင်းသုံးနေစဉ်အချိန် ဖြစ်သည်။

ဗာရာဏသီပြည်၌ နန္ဒိယဥပါသကာသည် သဒ္ဓါတရားနှင့်ပြည့်စုံသည်။ ရတနာသုံးပါး၌ ကြည်ညိုသည်။ ပေးလှူတတ်သည်။ သံဃာတော်တို့အား မပြတ်လုပ်ကျွေးသည်။

နန္ဒိယ၏မိဘတို့သည် မိမိတို့အိမ်ရှေ့မှ ဦးရီး၏သမီးဖြစ်သော ရေဝတီကို နန္ဒိယနှင့် လက်ထပ်ပေးကြသည်။

ရေဝတီသည် သဒ္ဓါတရားမရှိသောကြောင့် နန္ဒိယက မနှစ်သက်။ မလိုချင်။ နန္ဒိယ၏ မိခင်က ရေဝတီကို-

"သမီး၊ ငါတို့အိမ်လာလာပြီး သံဃာတော်တို့အား နေရာခင်းခြင်း စသောအလုံးစုံသော ဝတ်ကိုပြုပါ။ ဤသို့ပြုလျှင် သင့်ကို ငါ့သားက နှစ်သက်လိမ့်မည်" ဟု ပြောပြသည်။

ရေဝတီသည် နန္ဒိယအမေပြောသည့်အတိုင်း ပြုလုပ်သည်။ ထိုအခါ နန္ဒိယအမေက သားကို ရေဝတီသည် ဆုံးမလွယ်သူဖြစ်ပါသည်။ ပြုပြင်ပေးက ရပါသည်ဟုဆိုသည်။

ထိုအခါ နန္ဒိယက ရေဝတီသည် ဆုံးမလွယ်သူဖြစ်က ကျွန်ုပ် ဆောင်ယူပါမည်ဟု ဝန်ခံသဖြင့် မိဘတို့က နေ့ကောင်းရက်မြတ်ရွေးကာ လက်ထပ်ပေးခဲ့သည်။

"ရှင်မ...သင်သည် ရဟန်းသံဃာ ငါ့မိဘတို့ကို ရိုသေစွာလုပ်ကျွေးပါက အိမ်၌နေခြင်း ငှာရမည်၊ မမေ့မလျော့ပါနဲ့" ဟု ဆုံးမစကားဆိုသည်။

"ကောင်းပါပြီ အရှင်၊ ကျွန်မ ကောင်းစွာ လုပ်ကျွေးပါမည်"

ရေဝတီသည် ဤသို့ ဝန်ခံပြီးသော် သားနှစ်ယောက်မွေးဖွားသည့်ကာလအထိ လင့်အလို သို့လိုက်ပြီး လင်အလိုကျ ဆောင်ရွက်ခဲ့သည်။

မကြာခင် နန္ဒိယမိဘတို့သည် သေလွန်ခဲ့ကြညပီး ရေဝတီသည် အလုံးစုံသော စည်းစိမ် ဥစ္စာတို့ကို စီမံပိုင်ဆိုင်ခွင့်ရလာသည်။

နန္ဒိယသည် ယခင်ကထက်ပင် သံဃာတော်တို့အား လုပ်ကျွေးသည်။ အထီးကျန် ခရီးသွားတို့၏ အိပ်တဲခါးသဖွယ် ပေးကမ်း၏။

မိဂဒါဝုန်တောဝယ် တိုက်ခန်းလေးခုပါပြီး မုခ်ဝလေးဝရှိသောကျောင်းကို ဆောက်လုပ် သည်။ ကျောင်းအတွင်း၌ ညောင်စောင်း၊ အင်ပျဉ် အစရှိသည်တို့ကို လုံလောက်စွာ ခင်းကျင်း စီရင်ထားပြီး ဘုရားအမှူးရှိသော သံဃာတော်တို့အား လှူဒါန်းသည်။

အလှူရေစက်ချသည်နှင့်တစ်ပြိုင်နက် တာဝတိံသာနတ်ပြည်၌ အလျားအနံ တစ်ဆယ့်နှစ် ယူဇနာ၊ အမြောက်ယူဇနာ တစ်ရာရှိသော ရတနာခုနစ်ပါးတို့ဖြင့်ပြည့်သော နတ်သမီး

တစ်ထောင်အခြံအရံရှိသော ဘုံဗိမာန်သည် ပေါက်လာသည်။

ရှင်မောဂ္ဂလာန်မထေရ်မြတ်ကြီးသည် နတ်ပြည်သို့ လှည့်လည်စဉ် ထိုဘုံဗိမာန်ရှိ နတ်သမီးတို့က မထေရ်မြတ်ကို နန္ဒိယသူဌေး မြန်မြန်လာဖို့ပြောပေးရန် လျှောက်ထားကြသည်။ ရှင်မောဂ္ဂလာန်သည် နတ်ပြည်မှပြန်ရောက်ပြီး ထိုအကြောင်းကို ဘုရားရှင်အား လျှောက်ထားပြန်သည်။

ဘုရားရှင်က "အရပ်တစ်ပါးသို့သွား၍ ကြာမြင့်မှပြန်လာသော ယောကျ်ားကို အဆွေအမျိုး၊ အဆွေခင်ပွန်းတို့သည် ခရီးဦးကြိုဆိုလျက် နှစ်သက်စွာခံယူသကဲ့သို့ ထို့အတူပြုအပ်သောကောင်းမှုရှိသော ဤပစ္စုပ္ပန်လောကမှ တမလွန်လောကသို့သွားသောသူကို မိမိပြုအပ်သောကောင်းမှုတို့သည် ဆီးကြိုလျက် နှစ်သက်စွာ ခံယူကုန်၏"ဟု ဟောတော်မူသည်။

နန္ဒိယဥပါသကာသည် တစ်နေ့တွင် အရပ်တစ်ပါးသို့ ကုန်သွယ်ကိစ္စသွားရန် ပေါ်လာသည်။ သို့အတွက် မယားရေဝတီကို-

"ရှင်မ…သင်သည် ငါတည်ထားအပ်သော သံဃာတော်အား လှူမြဲဝတ်၊ ဖုန်းတောင်းယာစကာတို့အား စွန့်မြဲဝတ်ကို မပျက်မကွက်ပြုပါ" ဟု မှာထားခဲ့သည်။

ရေဝတီသည် လင်ယောကျ်ားအရှေ့တွင် ကောင်းပါပြီဟု ဝန်ခံလျက်နေခဲ့၏။ နန္ဒိယသည် ရောက်လေရာအရပ်ဝယ် ရဟန်းသံဃာတို့အား လှူသောဝတ်၊ ဖုန်းတောင်းယာစကာတို့အား လှူသောဝတ်ကို မပြတ်ပြုလေသည်။

ရေဝတီသည် နန္ဒိယသွား၍ တစ်ရက်၊ နှစ်ရက်၊ သုံးရက်မျှ အလှူဝတ်ကိုဖြစ်စေပြီး ဖုန်းတောင်းယာစကာတို့အား ပေးမြဲဝတ်ကို ဖျက်သည်။ ရဟန်းသံဃာတို့ကိုလည်း ဆန်ကွဲထမင်း၊ ပုန်းရည်ဟင်းကိုသာ လှူသည်။ ရဟန်းသံဃာတို့ စားရာ၌လည်း မိမိစားကြွင်းထမင်းလုံး၊ ငါးပိုင်း၊ အမဲပိုင်းတို့ကို ဖရိုဖရဲ ကြဲချထားပြီး အိမ်နီးချင်းတို့အား-

"ရဟန်းတို့၏အမှုကို ရှုကြပါကုန်။ သဒ္ဓါ၍လှူအပ်သော ဝတ္ထုတို့ကို ဖျက်ဆီးကောင်းသလော" ဟုဆိုကာ ပြသည်။

နန္ဒိယသည် ကုန်သွယ်မှပြန်လာသော် ထိုအကြောင်းတို့ကို သိ၍ ရေဝတီကို အိမ်မှနှင်ထုတ်လေသည်။ အိမ်သို့ရောက်၍ နှစ်ရက်မြောက်တွင် နန္ဒိယသည် အလှူဝတ်ကို ဆက်လက်တည်သည်။

မိတ်ဆွေအပေါင်းအသင်းတို့က မေတ္တာရပ်ခံ၍ ရေဝတီကို အိမ်၌ပြန်လက်ခံသည်။ သို့သော် ဘဏ္ဍာစိုးမပေးတော့။ စားရုံဝတ်ရုံသာ ပေးသည်။

မကြာခင် နန္ဒိယသည် ကွယ်လွန်၍ တာဝတိံသာဘုံ၌ ဖြစ်သည်။ ရေဝတီသည်

အားလုံးကို ပိုင်ဆိုင်လာသည်ဖြစ်၍ အလုံးစုံသော ဒါနဝတ်ကို ဖျက်သည်။

"ဤသူတို့ကြောင့် ငါ၏လာဘ်လာဘယုတ်ရသည်" ဟု ရဟန်းသံဃာတို့ကို ဆဲရေးလျက် လှည့်လည်သည်။

ထိုအခါ ဝေဿဝဏ်နတ်မင်းကြီးသည် ဘီလူးနှစ်ယောက်တို့ကို-

"အချင်းတို့ သွားကြကုန်။ ဗာရာဏသီပြည်၌ ရေဝတီကို ဤနေ့မှ ခုနစ်ရက်မြောက်သောနေ့တွင် အရှင်လတ်လတ် ငရဲသို့ ပစ်ချလတ္တံ့"

ဟု ကြွေးကြော်ကြဟု စေခိုင်းသည်။

ထိုကြွေးကြော်သံကို ကြားရ၍ လူအပေါင်းတို့သည် အလွန်ထိတ်လန့်ကြောက်ရွံ့ကြလေသည်။ ရေဝတီသည်လည်း ကြောက်လန့်၍ ပြာသာဒ်ထက်ဝယ်တက်၍ တံခါးပိတ်ကာ ပုန်းအောင်းနေလေသည်။

ခုနစ်ရက်မြောက်သောနေ့တွင် ဝေဿဝဏ်နတ်မင်းကြီး၏ ဘီလူးနှစ်ယောက်တို့သည် ရေဝတီထံ ရောက်လာပြီး-

"ရေဝတီ လာလော့"

ဟုခေါ်ကာ လက်မောင်းနှစ်ဖက်ကို ချုပ်ကိုင်ဆွဲခေါ်ပြီး လူအပေါင်းတို့ မြင်စေသတည်းဟုဆိုကာ မြို့၌ လှည့်ပြသည်။ ထိုမှတစ်ဖန် တာဝတိံသာသို့ခေါ်ပြီး နန္ဒိယဗိမာန်ကို ပြသည်။

"ဤဘုံဗိမာန်ကား မည်သူ့ဘုံဗိမာန်နည်း"

"နန္ဒိယဥပါသကာ၏ဘုံဗိမာန် ဖြစ်ပါသည်"

"ငါသည် နန္ဒိယဥပါသကာ၏မယား ဖြစ်ပါသည်။ သူနဲ့အတူ စံနေပါရစေ။ သင်တို့ပြသောငရဲကို ငါ မမြင်လို"

"သင်သည် လူ့ပြည်၌ အလွန်ဝန်တို၏။ ရဟန်းသံဃာတို့ကို ဆဲရေး၏။ ထိုမကောင်းမှုကြောင့် သင်၏နေရာကား ငရဲသာဖြစ်သည်။ သင့်တွင် နတ်ပြည်၌စံရန် ကုသိုလ်ကောင်းမှု မရှိပေ"

ဘီလူးနှစ်ယောက်တို့သည် ဤသို့ဆိုပြီး ကွယ်ပျောက်သွားသည်။ ထိုခဏမှာပင် ငရဲထိန်းနှစ်ယောက်သည် ပေါ်လာပြီး ရေဝတီကို သံသဝကမည်သောငရဲသို့ ပစ်ချရန် လာရောက်ဆွဲငင်ယူကြလေသည်။

"ဤငရဲကား အဘယ်ငရဲနည်း"

"ဤငရဲကား သံသဝကမည်သောငရဲ ဖြစ်ပါသည်။ အသူတစ်ရာ နက်ပါသည်။ သင်သည် ဤငရဲ၌ အနှစ်တစ်ထောင်လုံး ခံရပါမည်"

"အဘယ်ကြောင့် ငါ ဤငရဲ၌ ခံရလေသနည်း"

"သင်သည် ရဟန်းပုဏ္ဏားဖုန်းတောင်းယာစကာတို့ကို မုသာဝါဒဖြင့် လှည့်စားသည်။ ရဟန်းသံဃာတို့ကို ဆဲရေး၏။ ထိုမကောင်းမှုကြောင့် ခံရသည်"

(သံသဝကငရဲဟူသည် မစင်ကြယ်သော ကျင်ကြီးကျင်ငယ်တို့ အမြဲယိုထွက်နေသော မစင်ငရဲ ဖြစ်သည်။)

"ရေဝတီ...သင်သည် ဤငရဲ၌ ခံရသည်သာမဟုတ်သေး။ အနှစ်တစ်ထောင်တို့ပတ်လုံး သံသဝကငရဲ၌ ခံရပြီးမှ လွတ်သော် လက်ပြတ်ခြင်း၊ ခြေပြတ်ခြင်း၊ နှာခေါင်း၊ နားပြတ်ခြင်းတို့ကိုလည်း ခံရလတ္တံ့။ ထက်သောနှုတ်သီးရှိသော ကျီး၊ လင်းတတို့သည် သုံးဂါဝုတ်မျှရှိသော သင်၏ကိုယ်ခန္ဓာကို ထိုးဆိတ်စားကုန်လတ္တံ့"

"ကျွန်မကို လူ့ပြည်သို့ ပြန်ဆောင်ပေးပါ။ လူ့ပြည်မှာ ကျွန်မ ကုသိုလ်များစွာပြုပါမည်"

"သင်သည် လူ့ပြည်၌ လူဖြစ်၍ ဘုရားပွင့်သောကာလနှင့် ကြုံကြိုက်သည်။ နန္ဒိယ ဥပါသကာကဲ့သို့သော လင်နှင့်လည်း ပေါင်းဖော်ရသည်။ ဤသို့ ပေါင်းဖော်ရလျက်ပင် မေ့လျော့သည်။ ယခုမှ အော်ဟစ်မြည်တမ်းနေ၍ မရတော့ပါ"

ငရဲသားနှစ်ယောက်တို့သည် ဤသို့ပြောဆိုပြီး ရေဝတီကို ဦးခေါင်းဇောက်ထိုးဖြင့် ငရဲသို့ ပစ်ချကုန်သည်။

ဝိမာနဝတ္ထု

* * *

## ရှင်သာရိပုတ္တရာဦးခေါင်းကို ပုတ်ခတ်၍ ငရဲခံရသော နန္ဒဘီလူး

ဘုရားရှင် ရာဇဂြိုဟ်ပြည်၊ ဝေဠုဝန်ကျောင်း၌ သီတင်းသုံးနေချိန် ဖြစ်သည်။ အရှင်သာရိပုတ္တရာနှင့် အရှင်မောဂ္ဂလာန်တို့သည် ကပေါတချောက်ဝယ် ဆောက်ထားသောကျောင်း၌ သီတင်းသုံးနေကြသည်။

ရှင်သာရိပုတ္တရာသည် လဆန်းပက္ခညဉ့်၌ ဆံချသစ်စဖြစ်သော ဦးခေါင်းရှိသည်ဖြစ်၍ လွင်တီးခေါင်၌ အမုတ်မရှိသော သမာပါတ်ကို ဝင်စားနေတော်မူ၏။

ထိုအခါ ဘီလူးနှစ်ယောက်တို့သည် မြောက်ဘက် ဟိမဝန္တာရှိ ဘီလူးအစည်းအဝေးမှ ပြန်လာပြီး မိမိတို့နေရာ တောင်အရပ်သို့ သွားကြသည်။

လရောင်အောက်ဝယ် တပြောင်ပြောင်ဖြစ်နေသော အရှင်သာရိပုတ္တရာ၏ဦးခေါင်းကို မြင်၍ ဘီလူးတစ်ယောက်က-

"အဆွေ…မပြုလင့်၊ ဤရဟန်းကား တန်ခိုးကြီးမားလှသည်"

ဤသို့ တားမြစ်သော်လည်းမနေ။ မထေရ်မြတ်၏ဦးခေါင်းကို ပုတ်ခတ်လေသည်။ ပုတ်ခတ်မှုကား ပြင်းထန်သည်။ ခုနစ်တောင်ရှိသော ဆင်သော်မှ ချက်ချင်း သေနိုင်၏။ ကြီးစွာသော တောင်ထွတ်သော်မှ ဖရိုဖရဲ ကွဲသွားနိုင်၏။ မထေရ်သ်ကား သမာဓိကြောင့် ဘာမျှမဖြစ်ချေ။

"အမလေး ပူလိုက်တာ၊ ပူလိုက်တာ"

ဘီလူးသည် ဤသို့ ညည်းတွားအော်ဟစ်ရင်း ကောင်းကင်ထက်မှာကျပြီး အဝီစိငရဲသို့ ကျလေသည်။

ရှင်မဟာမောဂ္ဂလာန်သည် ဒိဗ္ဗစက္ခုဉာဏ်ဖြင့် ရှင်သာရိပုတ္တရာအား ဘီလူးပုတ်ခတ်သည်ကို မြင်၍ မထေရ်ထံသို့ ကြွလာကာ-

"ငါ့ရှင် သာရိပုတ္တရာ…ခံ့ကျန်းပါ၏လော" ဟု မေးသည်။

"ငါ့ရှင် မောဂ္ဂလာန် ခံကျန်းပါ၏။ ဒါပေမယ့် ငါ၏ဦးခေါင်းဝယ် အတန်ငယ် နာကျင်ပါ၏"

"ငါ့ရှင် သာရိပုတ္တရာ၊ ဘီလူးသည် သင်၏ဦးခေါင်းကို ထောင်းထု၏။ သင်သည် ခံ့ကျန်းပါ၏။ ဒါပေမယ့် အတန်ငယ်သာ နာကျင်ပါ၏ဆိုခြင်းသည် အံ့ဖွယ်သရဲ ရှိလှပါ၏"

"ငါ့ရှင် မောဂ္ဂလာန်၊ သင်ကား ဘီလူးကို မြင်၏။ ငါမူကား တံမြက်ချေးစုရာ စသည်တို့၌ လှည့်လည်သွားလာသော မြေဘုတ်ဘီလူးပြိတ္တာငယ်မျှ မမြင်ဖူးပါ။ အံ့သြဖွယ် သရဲပါတကား" ဟု မိန့်ကြားသည်။

* * *

## ဥပ္ပလဝဏ်ထေရီကို ဖျက်ဆီး၍ ငရဲခံရသော နန္ဒလုလင်

ဥပ္ပလဝဏ်ထေရ်သည် ပဒုမုတ္တရာဘုရားရှင် ခြေတော်ရင်း၌ ဆုပန်ခဲ့သူဖြစ်သည်။ ကမ္ဘာတစ်သိန်းပတ်လုံး ကုသိုလ်ပြုလျက် လူ့ပြည်၊ နတ်ပြည်၌သာ ကျင်လည်ခဲ့ရသူ ဖြစ်သည်။

ယခု ဂေါတမဘုရားရှင်လက်ထက်ရောက်သောအခါ သာဝတ္ထိပြည်ရှိ သူဌေးတစ်ဦးအိမ်၌ ပဋိသန္ဓေယူ၍ ဖွားမြင်ခဲ့သည်။ ကြာညိုအတွင်းတိုက်နှင့်တူသော အဆင်းရှိ၍ ဥပ္ပလဝဏ် ဟူ၍ အမည်မှည့်ခဲ့သည်။

ဥပ္ပလဝဏ် အမျိုးသမီးအရွယ်ရောက်သော် အဖသူဌေးထံသို့ ဇမ္ဗူဒိပ်ကျွန်းနေ မင်းညီ မင်းသား သူဌေးသားတို့က သူတို့နှင့် လက်ထပ်ထိမ်းမြားပေးရန် တောင်းဆိုလာကြသည်။

တောင်းသူများ၏ သူဌေးကြီးမှာ ဝေခွဲမရ ဒုက္ခရောက်ရသည်။

"ငါသည် လူခပ်သိမ်းတို့၏အလိုဆန္ဒကို ဤသမီးတစ်ယောက်တည်းနဲ့ အလိုမဖြည့်နိုင်" ဟု ကြံစည်မိပြီး သမီးကိုခေါ်ကာ-

"သမီး…သင် ရဟန်းပြုနိုင်မည်လော" ဟု မေးသည်။

ဥပ္ပလဝဏ်သည် နောက်ဆုံးဘဝဖြစ်သူဖြစ်၍ ဖခင်စကားကို ကြားရသောအခါ ထိပ်ပေါ်၌ အကြိမ်တစ်ရာချက်အပ်သော ဆီထောပတ်ကို လောင်းချသကဲ့သို့ အေးမြကြည်လင်သွားပြီး-

"ဖခင် ရဟန်းပြုနိုင်ပါသည်" ဟု ပြောသည်။

သူဌေးသည် သမီးအား များစွာသောပူဇော်သက္ကာရကို ပြုပြီးလျှင် ဘိက္ခုနီမကျောင်းသို့ဆောင်ယူပြီး ရဟန်းပြုပေးလိုက်လေသည်။

ဥပ္ပလဝဏ်သည် ရဟန်းပြု၍ မကြာမြင့်မီပင် ဥပုသ်အိမ်၌ တံမြက်စီးလှည်းသည်။ ပြီးလျှင် ဆီမီးညှိထွန်းသည်။ ဆီမီး၏ မီးလျှံနိမိတ်ကိုယူပြီး အဖန်တလဲလဲကြည့်သော် တေဇောကသိုဏ်းလျှင် အာရုံရှိသောဈာန်ကိုဖြစ်စေ၍ ထိုဈာန်ကို အခြေပြုပြီးအားထုတ်ရာ ပဋိသမ္ဘိဒါ အဘိညာဏ်နှင့်တကွ အရဟတ္တဖိုလ်သို့ ဆိုက်ရောက်လေသည်။

ဥပ္ပလဝဏ်ထေရီသည် ဆွမ်းကိစ္စပြီးတိုင်း တောသို့ဝင်ကာ နေ့သန့်စင်နေလေ့ရှိသည်။ (ထိုအချိန်က ဘိက္ခုနီများ တောကျောင်း၌နေခြင်းကို မပညတ်သေးချေ။ သို့အတွက် တော၌ ကျောင်းပြုလုပ်ထားပြီး ညောင်စောင်းခင်းကာ တင်းတိမ်ကာရံ၍နေသည်။)

ဥပ္ပလဝဏ်ထေရီသည် သာဝတ္ထိပြည်၌ ဆွမ်းခံထွက်သည်။ ဥပ္ပလဝဏ်၏ဦးရီးသား နန္ဒလုလင်သည် ဥပ္ပလဝဏ် လူဝတ်ဘဝရှိစဉ်ကပင် ဥပ္ပလဝဏ်အပေါ်၌ စွဲလမ်းနှစ်သက်နေသူဖြစ်သည်။ ဥပ္ပလဝဏ်ကိုရရန် မယှဉ်နိုင်သူဖြစ်၍သာ သည်းခံနေရသူ ဖြစ်သည်။ အခွင့်အရေးကို ချောင်းနေသူ ဖြစ်သည်။

ဥပ္ပလဝဏ်ထေရီ သာဝတ္ထိပြည် ဆွမ်းခံဝင်နေစဉ် မိမိက ဥပ္ပလဝဏ်ထေရီ နေ့သန့်စင်နေကျ တောထဲရှိကျောင်းသို့သွားပြီး ညောင်စောင်းနောက်၌ ပုန်းအောင်းနေလေသည်။

ဥပ္ပလဝဏ်သည် ထုံးစံအတိုင်း ထိုကျောင်းသို့ နေ့သန့်စင်ရန် ကြွလာသည်။ ပြင်ပနေပူမှ လာခဲ့သည်အဖြစ်ကြောင့် အတွင်း၌အရာကို ထင်စွာမမြင်ရချေ။ ညောင်စောင်းပေါ်သို့ လှဲကာမျှနှင့် နန္ဒလုလင်သည် ညောင်စောင်းအောက်မှထွက်ပြီး ဥပ္ပလဝဏ်ထေရီကို အနိုင်ထက်ပြုသည်။

"ငမိုက်သား သင့်အား မပျက်စီးစေလင့်"

ဥပ္ပလဝဏ်ထေရီက တားမြစ်သော်လည်း ရာဂဘီလူးဝင်ပူးနေသော နန္ဒလုလင်သည် ထေရီကို အနိုင်အထက်ပြုကာ မိမိအာသာဆန္ဒကို ပြုလေသည်။

ပြုပြီး၍ပြန်အထွက်တွင် နန္ဒလုလင်၏ကျေးဇူးမဲ့ကို ဆောင်ထားခြင်းငှာ မတတ်နိုင်သော မဟာပထဝီမြေကြီးသည် နှစ်ခြာခွဲပြီး နန္ဒလုလင်ကိုမျိုကာ အဝီစိငရဲသို့ ပို့လေသည်။

(ထိုကိစ္စကို ဘုရားရှင်သိပြီးနောက် ဘုရားရှင်သည် ဘိက္ခုနီများ ရွာတွင်း၌သာ နေခွင့်ပြုခဲ့သည်။)

* * *

## ရဟန္တာကို နှိပ်စက်၍ ငရဲခံရသော ရွှံသမား

ဘုရားရှင် သာဝတ္ထိပြည် ဇေတဝန်ကျောင်း၌ သီတင်းသုံးနေချိန် ဖြစ်သည်။ သာဝတ္ထိပြည်မှ ရွှံသမားတစ်ဦးသည် မိမိ၏ဆရာဖြစ်သော တိဿမထေရ်ကို (၁၂) နှစ်တို့ကာလပတ်လုံး မိဘအရာ၌ထား၍ ဆွမ်းလုပ်ကျွေးနေခဲ့သည်။

တစ်နေ့တွင် ရွှံသမားသည် မထေရ်မြတ်၏ရှေ့၌ အမဲလှီး၍နေသည်။ ထိုခဏ၌ပင် ကောသလမင်းက ပတ္တမြားရတနာတစ်ခုကို သွေးဖောက်၍ပေးရန် ပို့လာသည်။

ရွှံသမားသည် အသားအသွေးလူးသောလက်ဖြင့် ပတ္တမြားရတနာကိုယူ၍ စဉ်းတီတုံးထက်၌ တင်ထားပြီးလျှင် လက်ဆေးရန် အိမ်တွင်းသို့ဝင်သွားသည်။ ထိုအခါ အိမ်တွင်မွေးထားသော ကြိုးကြာငှက်သည် သွေးနံ့ဖြင့် အမဲသားဟု ထင်မှတ်ကာ ထိုပတ္တမြားကို မထေရ်မြင်စဉ်ပင် မျိုလေသည်။

ရွှံသမားသည် အိမ်တွင်းမှထွက်လာ၍ ပတ္တမြားကို မမြင်လျှင်-

"အဘယ်သူသည် ပတ္တမြားကို ယူသနည်း"

ဟု အိမ်သူအိမ်သားတို့ကို မေးသည်။ အိမ်သူအိမ်သားတို့ကလည်း မည်သူမျှမယူဟု ဆိုကြသောအခါ ယောကျ်ားက-

"ရဟန်းများ ယူလေသလား"

"သခင်…ဤသို့ မစွပ်စွဲလင့်။ နှစ်ပေါင်း တစ်ဆယ့်နှစ်နှစ်မျှကာလပတ်လုံး ရဟန်း၌ အပြစ်ဒေါသ စိုးစဉ်းမျှ ငါတို့မမြင်ဖူးပါ။ ဤပတ္တမြားကိုယူမည် မထင်ပါ" ဟု မယားက ပြောသည်။ ရွှံသမားသည် အကြံရခက်နေသည်။ အနားတွင်လည်း ဤရဟန်းသာ ရှိသည်။

"အရှင်ဘုရား၊ ဤတုံးပေါ်တွင် တင်ထားသော ပတ္တမြားကို ယူမိပါသလော"

"ဥပါသကာ ငါကားမယူ"

"အရှင်ဘုရား၊ ဤအရပ်တွင် အရှင်ဘုရားသာ ရှိသည်။ အရှင်ဘုရား မယူ၊ ဘယ်သူယူမည်နည်း။ ပတ္တမြားကို ပြန်ပေးပါ" ဟုတောင်း၏။

မထေရ်က ယူသည်ဟုဝန်မခံသောအခါ ရွှဲသမားသည် မယားကို-

"ရှင်မ မထေရ်သည်သာ ပတ္တမြားယူသည်ဖြစ်လိမ့်မည်။ အနိုင်အထက် နှိပ်စက်၍ မေးမှရမည်" ဟု ပြောသည်။

"သခင်...ငါတို့ကို မဖျက်ဆီးပါလင့်။ ငါတို့ ကျွန်ဘဝရောက်ချင်ရောက်ပါစေ။ မထေရ်မြတ်ကို ဤသို့ မစွပ်စွဲပါနှင့်"

"ငါတို့တစ်အိမ်သားလုံး ကျွန်အဖြစ်ရောင်းသော်လည်း ပတ္တမြားတန်ဖိုးရမည်မဟုတ်ပါ"

ရွှဲသမားသည် ဤသို့ဆိုပြီးလျှင် ကြိုးကိုယူကာ မထေရ်မြတ်ဦးခေါင်းကို ရစ်ပတ်လျက် တုတ်ဖြင့် ရိုက်နှက်လေသည်။ မထေရ်၏ဦးခေါင်း၊ နှာခေါင်း၊ နားတို့မှ သွေးတို့သည် ယိုထွက်ကုန်၏။ မျက်စိတို့သည် ပေါက်ထွက်မတတ် ဖြစ်ကြကုန်သည်။ မထေရ်သည် ဆင်းရဲဝေဒနာကိုရောက်ကာ မြေ၌လဲကျသည်။

ကြိုးကြာသည် သွေးနံ့ရ၍ပြေးလာပြီး သွေးကိုသောက်သည်။ ရွှဲသမားသည် မထေရ်၏ ဖြစ်သောဒေါသ မပြေသေးသဖြင့် ကြိုးကြာကိုပါ ဘာလာလုပ်တာလဲဆိုပြီး ကြိုးကြာကို ခြေနှင့်ကန်ကျောက်လေသည်။

ကြိုးကြာသည် ဒေါသနှင့်ကန်ကျောက်သော ခြေဒဏ်ကြောင့် ပက်လက်လှန်ကာ သေလေသည်။ မထေရ်သည် ထိုအခြင်းအရာကိုမြင်၍-

"ဥပါသကာ...ငါ၏ဦးခေါင်း၌ ရစ်သောကြိုးကို လျော့၍ ကြိုးကြာကို ကြည့်ပါဦး။ ကြိုးကြာ သေသလော။ ရှင်သေးသလော" ဟု ဆိုသည်။

"အရှင်ဘုရားလည်း ဤကြိုးကြာကဲ့သို့ သေရလိမ့်မည်"

"ဥပါသကာ ဤကြိုးကြာသည် သင်၏ပတ္တမြားကို မျိုသည်။ အကယ်၍ ဤကြိုးကြာ သည် မသေငြားအံ့၊ သင့်အား ငါ သေသော်လည်း ပတ္တမြားကို မရရာ"

ရွှဲသမားသည် ကြိုးကြာ၏ဝမ်းကိုခွဲ၍ အထဲ၌ပတ္တမြားကိုတွေ့သော် တုန်လှုပ်ထိတ်လန့်လျက် မထေရ်မြတ်ခြေရင်း၌ ဝပ်တွားကာ-

"အရှင်ဘုရား...သည်းခံတော်မူပါ။ အကျွန်ုပ် မသိသောကြောင့် ဤအမှုပြုမိပါသည်"

"ဥပါသကာ...သင်အား အပြစ်မရှိ။ ငါ၏ဝဋ်ကြွေးသည်သာလျှင် အပြစ်ဖြစ်သည်။ ငါသည် သင့်အား သည်းခံ၏"

"အရှင်ဘုရား...သည်းခံငြားအံ့။ ယခင်ကလို ဆွမ်းစားကြွတော်မူပါဘုရား"

"ဥပါသကာ...ငါသည် ယနေ့မှစ၍ သူတစ်ပါးအိမ်တွင်းသို့ မဝင်တော့ပြီ။ ယခု ဖြစ်သောအပြစ်ကား အိမ်တွင်းဝင်သောအပြစ်သာ ဖြစ်သည်။ ယခုချိန်မှစပြီး ခြေကို အားကိုး

ပြီး ဆွမ်းခံစားတော့အံ့''

မထေရ်သည် ထိုနှိပ်စက်ခံရသောအနာဖြင့်ပင် မကြာခင် ပရိနိဗ္ဗာန်ပြုလေသည်။

ကြိုးကြာကား ရွှေသမား၏ဝမ်း၌ ပဋိသန္ဓေနေသည်။ ရွှေသမားသည် သေသောအခါ ငရဲ၌ ဖြစ်ရလေသည်။

ရွှေသမား၏မယားသည် နူးညံ့သောစိတ်ရှိသူဖြစ်၍ သေသောအခါ၀ယ် နတ်ပြည်၌ ဖြစ်ရလေသည်။

(ဓမ္မပဒအဋ္ဌကထာ)

## အဝိစိငရဲ ခုနစ်ရက်ခံရသော မလ္လိကာမိဖုရား

ဘုရားရှင် သာဝတ္ထိပြည် ဇေတဝန်ကျောင်း၌ သီတင်းသုံးနေချိန် ဖြစ်သည်။ ကောသလ မင်းတွင် အလွန်တရာ ချစ်မြတ်နိုးသော မလ္လိကာမိဖုရား ရှိသည်။ ထိုမိဖုရားသည် ကုသိုလ် အမှု၌ မွေ့လျော်သည်။ ကောသလမင်း၏ အသဒိသအလှူ၌ ကိုယ်တိုင်ကိုယ်ကျ ပါဝင်လှူဒါန်း ခဲ့သည်။ နေ့စဉ်နေ့တိုင်းလည်း ဘုရားရှင်ကိုသာ လှူမည်၊ အဂ္ဂသာဝကနှစ်ပါးကိုသာ လှူမည် စသည်ဖြင့် အမြဲကြံဆတွေးတောပြီး အလှူဝတ်ကို စီမံနေသူဖြစ်သည်။

တစ်နေ့ မိဖုရားသည် ရေချိုးအိမ်သို့ဝင်ပြီး မျက်နှာသစ်သည်။ ပြီးလျှင် ရှေ့သို့ ကိုယ်ညွတ် ပြီး ဒူးခေါင်းကို ရေဆေးရန် စီမံအားထုတ်သည်။ မိဖုရားနှင့် အကျွမ်းဝင်ပြီး မိဖုရားနှင့် အတူတူ ရေချိုးအိမ်သို့ ဝင်လိုက်လာသောခွေးသည် ကိုင်းညွှတ်နေသော မိဖုရားကို မြင်၍ ကာမရာဂဖြင့် ပေါင်းဖော်ရန် အားထုတ်သည်။ မိဖုရားသည် ခွေး၏အတွေ့ကို သာယာလျက် ငြိမ်နေသည်။

မင်းကြီးသည် ပြာသာဒ်ထက် လေသာတံခါးမှကြည့်သော် ထိုအခြင်းအရာကိုမြင်၍ မိဖုရား ပြန်တက်လာသောအခါ-

''မိန်းမပျက်များ အဘယ်ကြောင့် မဖွယ်မရာကို ပြုလေသနည်း' ဟု ကြိမ်းမောင်းဆို သည်။

''မင်းကြီး အဘယ်အမှုကို ကျွန်ုပ် ပြုသနည်း''

''မိဖုရား...သင်သည် ရေချိုးအိမ်၌ ခွေးနှင့် ပေါင်းဖော်ခဲ့သည်မဟုတ်လော''

''မင်းကြီး ဤအကြောင်းကား မဟုတ်''

''ငါပင် ကိုယ်တိုင်မြင်လျက် သင့်စကားကို ငါ ဘယ်လိုလုပ်ယုံရမလဲ မိန်းမယုတ်ရဲ့''

''မင်းကြီး ဤရေချိုးအိမ်ဝင်သောသူကို ဤလေသာတံခါးမှ ကြည့်သည်ရှိသော

တစ်ယောက်တည်းပင်ဖြစ်လင့်ကစား ဖောက်ပြန်၍ နှစ်ယောက်ထင်တတ်သောသဘော ရှိသည်''

မိဖုရားက လှည့်စား၍ဆိုသည်။

''အကယ်၍ မင်းကြီးမယုံလျှင် မင်းကြီးကိုယ်တိုင် ဤရေချိုးအိမ် ဝင်ကြည့်ပါ။ ကျွန်ုပ်က ဤလေသာတံခါးက ကြည့်ပါမည်''

မင်းကြီးသည် ပညာမဲ့၍ မစဉ်းစားနိုင်ဘဲ မိဖုရားဆိုတိုင်း ရေချိုးအိမ်သို့ ဝင်လေသည်။ မိဖုရားက လေသာတံခါးက ဖွင့်ကြည့်သည်။

''မင်းကြီး အဘယ်ကြောင့် ဆိတ်မနှင့်ပေါင်းဖော်နေပါသနည်း''

''မိဖုရား ငါကား ဤအမှုကိုမပြုပါ''

''မင်းကြီး ကျွန်ုပ်ကိုယ်တိုင် မြင်ရပါလျက် မင်းကြီးစကားကို ဘယ်လိုလုပ်ယုံရပါ မည်လဲ''

မင်းကြီးသည် ပညာနည်းပါး၍ ရေချိုးအိမ်၏လှည့်စားချက်ပေပဲ သတ်မှတ်ကာ ယုံကြည် သွားလေသည်။

''ဤမင်းကား ပညာနည်းပါးလှသောကြောင့်သာ ငါ လှည့်ပတ်နိုင်ခဲ့သည်။ ငါသည် ယုတ်မာသောအမှုကို ပြုမိခဲ့ချေပြီ။ မင်းကိုလည်း မဟုတ်တယုတ် စွပ်စွဲမိခဲ့ချေပြီ။ ငါ၏အမှု ကို ဘုရားရှင်လည်း ထင်ရှားသိတော်မူလတ္တံ့၊ အဂ္ဂသာဝကနှင့် မဟာသာဝက ရှစ်ကျိပ်တို့ လည်း သိတော်မူလတ္တံ့။ သြော်...ငါသည် ဝန်လေးသောအမှုကို ပြုမိလေသည်တကား''

ဤသို့ ကြံစည်မိပြီးလျှင် စိတ်မချမ်းသာမှု ခံစားရလေသည်။

မလ္လိကာမိဖုရားသည် သေကာနီးသောကာလဝယ် များမြောင်စွာသော အလှူတို့ကို မအောက်မေ့မူ၍ မင်းကြီးအပေါ်၌ လှည့်စားခဲ့သော မကောင်းမှုကိုသာ အောက်မေ့လျက် သေသောကြောင့် အဝီစိငရဲ၌ ဖြစ်ရလေသည်။

မင်းကြီးသည် မိဖုရား၌ အလွန်ချစ်မြတ်နိုးလှသဖြင့် မိဖုရားအတွက် စိုးရိမ်သောကစိတ် ဖြစ်မိကာ မိဖုရား၏လားရာဂတိကို ဘုရားရှင်ထံ မေးလျှောက်ရန် ကြိုးစားခဲ့သည်။

ဘုရားရှင်က ခုနစ်ရက်ပတ်လုံး မင်းကြီးကို ထိုအကြောင်းမမေးမိအောင် တန်ခိုးတော် ဖြင့် သတိမေ့စေသည်။

မလ္လိကာသည် ခုနစ်ရက်မျှ အဝီစိငရဲ၌ခံရပြီး ရှစ်ရက်မြောက်သောနေ့တွင် ငရဲမှလွတ် ပြီး တုသိတာနတ်ပြည်၌ ဖြစ်ရလေသည်။

ဘုရားရှင်သည် မင်းကို သတိမေ့စေသည်မှာ မင်းသည် မိဖုရားကို အလွန်ချစ်သည်။

မိဖုရား ငရဲ၌ဖြစ်သည်ဟု ကြားသိပါက ဤသို့သဘောရှိသော သဒ္ဓါတရားနှင့်ပြည့်စုံသော မိဖုရားသည်ပင် ငရဲ၌ကျသေးပါက အလှူပေးနေတာ ဘာအကျိုးရှိမည်နည်းဟု အကျိုးမရှိ အမှားအယူကိုယူပြီးလျှင် မိမိနန်းတော်၌ထားသော ငါးရာသောဆွမ်းဝတ်ကို ပိတ်လိုက်မိပါက ငရဲသို့ ရောက်သွားနိုင်သည့်အတွက် ဖြစ်သည်။

ရှစ်ရက်မြောက်သောနေ့တွင် ဘုရားရှင်ကိုယ်တော်တိုင် မင်းအိမ်တံခါးသို့ ကြွတော်မူသည်။ မင်းကြီးသည် ဘုရားရှင်ကြွလာသည်ကို မြင်လျှင် ထွက်၍ သပိတ်တော်ကိုယူပြီး ပြာသာဒ်သို့ကြွရန် ဖိတ်ကြားသည်။

ဘုရားရှင်က ရထားဇရပ်၌နေရန် အမူအရာကို ပြတော်မူသည်။ မင်းကြီးက ရထားဇရပ်၌ နေရာပြင်ဆင်ပေးပြီး ယာဂု၊ ခဲဖွယ်တို့ဖြင့် ပူဇော်လုပ်ကျွေးပြီးလျှင်-

"ဘုန်းတော်ကြီးသော မြတ်စွာဘုရား၊ မလ္လိကာမိဖုရား၏ လားရာဂတိကို မေးလျှောက်ရန် အကြိမ်ကြိမ် လာခဲ့သော်လည်း မေ့လျော့၍ မမေးလျှောက်ခဲ့ရပါ။ ယခု မေးလျှောက်ပါရစေဘုရား။ မလ္လိကာမိဖုရား၏ လားရာဂတိကို သိပါရစေဘုရား"

"မင်းကြီး၊ တုသိတာနတ်ပြည်မှာ ဖြစ်ရသည်"

"ဘုန်းတော်ကြီးလှသော မြတ်စွာဘုရား၊ ဤမိန်းမမှ တုသိတာနတ်ပြည်၌မဖြစ်သော် အဘယ်မိန်းမ ဖြစ်နိုင်အံ့နည်း။ ဤမိန်းမနှင့်တူသော မိန်းမကား ရှားပါသည်။ ဤမိန်းမသည် အသက်ရှင်စဉ် ဘုရားရှင်ကို ဤဝတ္ထုလှူအံ့၊ ဤသို့သော ပူဇော်မှုကိုပြုအံ့၊ အဂ္ဂသာဝက မဟာသာဝကတို့အား ဤဝတ္ထုကို လှူအံ့၊ ဤသို့သော ပူဇော်မှုကိုပြုအံ့ဟု ဒါနစီရင်မှုကို အမြဲပြုနေခဲ့ပါသည်။ ဤအလုပ်ကိုသာ အမြဲစိတ်ဝင်စားခဲ့ပါသည်။ ဘုန်းတော်ကြီးသော မြတ်စွာဘုရား၊ ဤမိန်းမ သေသောနေ့မှစ၍ တပည့်တော် ပူပန်နေခဲ့ရပါသည်ဘုရား"

"မင်းကြီး...မစိုးရိမ်ပါနှင့်။ သတ္တဝါခပ်သိမ်းသည် သေတတ်သောသဘောရှိသည်သာ"

ဘုရားရှင်က မင်းကြီးအား တရားဟောပြီးလျှင် ပြန်လည်ကြွခဲ့လေသည်။

* * *

## ရောဂါရှဝငရဲခံရသော သူဌေးကြီး

ဘုရားရှင် သာဝတ္ထိပြည်၊ ဇေတဝန်ကျောင်း၌ သီတင်းသုံးနေချိန် ဖြစ်သည်။

ထိုသူဌေးသည် အလွန်ပင် ချမ်းသာပြည့်ဝသော်လည်း ရွှေခွက်ဖြင့် ထမင်းမစား။ ခွက်ပဲ့ဖြင့်သာ စားသည်။ အဝတ်ကောင်းမဝတ်၊ ပိုက်ဆံလျှော်ပုဆိုးကိုသာ ဝတ်သည်။ ယာဉ်ရထားအိုကိုသာ စီးသည်။ သစ်ရွက်ထီးဆောင်းသည်။ ဤသို့ဖြင့် သူဌေးသည် အကောင်း

ဟူသမျှ အကုန်ပယ်၍ မကောင်းဟူသမျှကိုသာ သုံးဆောင်နေထိုင်လေ့ရှိသည်။

ထိုသူဌေးကြီး ကွယ်လွန်သောအခါ ပစ္စည်းဥစ္စာအတွက် သားသမီးမရှိ၍ ကောသလမင်းကြီးသည် မင်းဘဏ္ဍာအဖြစ် သိမ်းယူလေသည်။

ကောသလမင်းကြီးသည် တစ်နေ့တွင် ထိုသူဌေးအကြောင်းကို ဘုရားရှင်အား လျှောက်ထားသည်။ ဘုရားရှင်က သူဌေး၏အတိတ်ဇာတ်ကြောင်းကို မင်းကြီးအား ဟောဟောပြတော်မူသည်။

ထိုသူဌေးသည် အတိတ်ဘဝက မိမိအိမ်ရှေ့တွင် ဆွမ်းလာရပ်သော တဂရသီခိအမည်ရှိသော ပစ္စေကဗုဒ္ဓါကို မြင်သည်ရှိသော အိမ်ရှင်မကို-

"ရဟန်းကို ဆွမ်းလှူလိုက်ပါ"

သူ့မယားကို စေခိုင်းပြီး ထသွားသည်။ မယားက သဒ္ဓါတရား ရှိသည်။ ရတနာသုံးပါးကို ကြည်ညိုသည်။

"ငါသည် ဤသူနှင့်အိမ်ထောင်ကျသည်မှာ ကြာခဲ့ပြီ။ ဤလင်၏နှုတ်မှ တစ်ခါမျှ လှူလော့ဟူသောစကားကို မကြားရစဘူး။ ယနေ့ ကြားရသည့်အတွက် ယနေ့ ငါ၏နှလုံး အလိုပြည့်စေအံ့"

ဟုကြံစည်လျက် ပစ္စေကဗုဒ္ဓါသပိတ်ကို ယူပြီးလျှင် မွန်မြတ်သောဘောဇဉ်တို့ကို ပြည့်စေပြီး လှူလေသည်။

သူဌေးသည် တစ်ဖန်ပြန်လာပြီးလျှင် ပစ္စေကဗုဒ္ဓါကို-

"ရဟန်း...စိုးစဉ်းမျှသောဆွမ်းကို ရပါသလော" ဟုမေးပြီး သပိတ်ကို ဖွင့်ကြည့်သည်။

သပိတ်ထဲ၌ မွန်မြတ်သောဆွမ်းများစွာကို မြင်ရလျှင် မသာယာသောစိတ်ဖြစ်ကာ ဤသို့ စိတ်ကူးမိသည်-

"ဤဆွမ်းသည် မြတ်စွ။ ငါ့ကျွန်၊ ငါ့အမှုလုပ်တို့စားပါမူကား ငါ၏အမှုကိစ္စတို့ကို ကောင်းစွာ ဆောင်ရွက်နိုင်ရာ၏။ ရဟန်းကား စားပြီး အလကား အိပ်လတ္တံ့။ ငါ၏ဆွမ်းသည် အကျိုးမပြီး။ အချည်းနှီးသာ ဖြစ်ရသည်"

ထိုသူဌေး၏အစ်ကိုသည် ညီကို သားမယားတို့ကိုအပ်၍ ရဟန်းပြုလေသည်။ ညီ၏ သားငယ်သည် ဘထွေးလက်ကိုဆွဲ၍ လှည့်လည်သွားသည်ရှိသော ဥစ္စာပစ္စည်းတို့ကိုတွေ့က-

"ဤအရာများသည် ငါ့အဘဥစ္စာတို့ဖြစ်သည်" ဟုဆိုသည်။

ထိုအခါ သူဌေးက ဤသူငယ်သည် ယခုကပင် အဘဥစ္စာဟူ၍ ဆိုနေသည်။ ကြီးသောအခါ အဘဥစ္စာဆိုပြီး ဤအိမ်ကိုပါ သိမ်းယူလိမ့်မည်။ ငယ်ငယ်ကတည်းက သတ်ပစ်တာ

ကောင်းသည်ဟု ကြံစည်ပြီး ကလေးကို တောသို့ ချော်ခေါ်သွားပြီး လည်ပင်းညှစ်၍ သတ်ပစ်ခဲ့လေသည်။

သူဌေးသည် တဂရသီခိပစ္စေကဗုဒ္ဓါကို ဆွမ်းလှူစေသော ကုသိုလ်ကောင်းမှုကြောင့် နတ်ပြည်၌ ခုနစ်ကြိမ်ဖြစ်ရသည်။ ထိုကုသိုလ်အကြွင်းဖြင့် သာဝတ္ထိ၌ သူဌေးခုနစ်ကြိမ်ဖြစ်ရသည်။

ပစ္စေကဗုဒ္ဓါအား ဆွမ်းလှူစေပြီးနောက် ပရစေတနာပျက်ခဲ့သောကြောင့် သူဌေးအား မွန်မြတ်သော ကာမဂုဏ်ငါးပါးတို့ကို ခံစားခြင်းငှာ စိတ်မညွတ်။

အစ်ကို၏သားကို သတ်ခဲ့ဖူးသော အကုသိုလ်ကြောင့် ဘဝပေါင်း၊ သိန်းပေါင်းများစွာ ငရဲ၌ခံရသည်။

ထိုငရဲမှလွတ်၍ ခုနစ်ခုမြောက်သော ဤဘဝ၌ သူဌေးဖြစ်ပြီး သားသမီးအမွေခံမရှိဘဲ ဥစ္စာပစ္စည်းများ မင်းဘဏ္ဍာအဖြစ် အသိမ်းခံရသည်။

ယခုသေသောအခါ သူဌေးတွင် ကုသိုလ်ကံအကြွင်းကုန်ပြီး အကုသိုလ်ကံအဆက်သာ ရှိသောကြောင့် သူဌေးသည် ယခု မဟာရောရုဝငရဲသို့ ကျရောက်ခံရသည်။

ကောသလမင်းကြီးသည် ဘုရားရှင်ထံမှ သူဌေးအကြောင်းစုံကို သိရသောအခါ သံဝေဂတရားများစွာ ရမိသည်။

"မင်းကြီး ပညာမဲ့သူတို့သည် စည်းစိမ်ဥစ္စာကိုရကုန်လျက် ဝဋ်ဆင်းရဲကုန်ရာ နိဗ္ဗာန်ကို မရှာကုန်။ စည်းစိမ်ကိုမှီ၍ဖြစ်သော တဏှာသည်ကား ပညာမဲ့လူမိုက်တို့ကို ရှည်စါသော နေ့ညပတ်လုံး သတ်လေသည်"

* * *

## သူသားမယား ပြစ်မှားလိုသော ကောသလမင်းနှင့် ငရဲရောက်သူဌေးသား လေးယောက်

ကောသလမင်းသည် တစ်နေ့ မြို့တွင်းသို့ လှည့်လည်ရှုကြည့်သည်။ တစ်နေရာတွင် လင်ရှိသော မိန်းမတစ်ယောက်ကိုမြင်ပြီး ထိုမိန်းမ၌ တပ်စွန်းသောရာဂသည်ဖြစ်၍ လင်ကို သတ်၍ယူမည်ဟု ကြံစည်ကာ ပြန်လာခဲ့သည်။

ညဦးချိန်အိပ်သည်ရှိသော ထိုမိန်းမ၌စွဲသော ရာဂကြောင့် သန်းကောင်ယံထိ အိပ်မပျော်ချေ။

ထိုခဏ၌ ယူဇနာခြောက်ဆယ် လောဟကုမ္ဘီငရဲအိုး၌ ခံနေကြရသော သူဌေးသား

လေးယောက်တို့သည် ကျိုက်ကျိုက်ဆူသော ထမင်းအိုး၌ ဆန်တို့ကို ပြန်လှန်၍ ကျက်ရကုန်သည်။

အနှစ်သုံးသောင်းတို့ဖြင့် အောက်အပြင်သို့ရောက်၍ အနှစ်သုံးသောင်းတို့ဖြင့် တစ်ဖန် မျက်နှာဝသို့ ရောက်လာသည်။ ထိုသူဌေးသားလေးယောက်တို့သည် ဦးခေါင်းကိုမ,၍ အချင်းချင်းကြည့်ပြီးလျှင် တစ်ခုတစ်ခုသောဂါထာကိုဆိုခြင်းငှာ အားထုတ်ကြသည်။ ဂါထာကိုဆုံးအောင်မဆိုနိုင်ဘဲ တစ်လုံးသာဆိုပြီး လောဟကုမ္ဘီငရဲအိုးထဲသို့ ပြန်နစ်သွားကြသည်။

ထိုငရဲသားလေးယောက်တို့ ဒု-သ-န-သော ဟု တစ်ယောက်တစ်လုံးစီ ဆိုသွားသော အသံကို ညဉ့်သန်းခေါင် အိပ်မရသော မင်းကြီးသည် ကြားသည်။

"အသို့နည်း…အသက်၊ စည်းစိမ်၊ မိဖုရား၊ ဤသုံးပါးတို့အတွက် အန္တရာယ်နိမိတ်လော"

ဟု တွေးတောပြီး ထိတ်လန့်ကြောက်ရွံ့ကာ တစ်ညဉ့်လုံး တစ်မှေးမျှ မအိပ်ရဘဲ မိုးလင်းသည်။ မိုးလင်းလျှင် ပုရောဟိတ်ပုဏ္ဏားကိုခေါ်ကာ ညက အသံအကြောင်းကို ပြောပြပြီး ကောင်းကျိုး၊ ဆိုးကျိုးကို မေးသည်။ ပုရောဟိတ်သည် ထို ဒု-သ-န-သော ဟူသော အသံ၏ အနက်အဓိပ္ပာယ်ကို မည်သို့မျှ မဖော်နိုင်။ မဖော်နိုင်က မိမိ၏လာဘ်လာဘရာထူး ဆုတ်ယုတ်မည်ကို စိုးရိမ်ပြီး-

"အရှင်မင်းကြီး ဝန်လေးလှ၏။ အသက်အန္တရာယ်ဖြစ်ဖွယ် ထင်ပါသည်" ဟု လျှောက်ထားသည်။ မင်းကြီးသည် အလွန်ကြောက်ရကား-

"အသင်ပုရောဟိတ်၊ အသက်ချမ်းသာအောင် ပြုပါလော့" ဟုမိန့်သည်။

"အရှင်မင်းကြီး မစိုးရိမ်လင့်။ သဗ္ဗသတယဇ်ကို ပူဇော်သော် အရှင်မင်းကြီး၏အသက် ကို ရပါမည်"

"အသင်ပုရောဟိတ်၊ ယဇ်အတွက် မည်သည့်အရာများလိုပါသနည်း"

"အရှင်မင်းကြီး၊ ဆင်တစ်ရာ၊ မြင်းတစ်ရာ၊ နွားထီးတစ်ရာ၊ နွားမတစ်ရာ၊ မြည်း တစ်ရာ၊ ဆိတ်မြန်မာတစ်ရာ၊ ဆိတ်ကုလားတစ်ရာ၊ ဝက်တစ်ရာ၊ ကြက်တစ်ရာ၊ အမျိုးသမီး တစ်ရာ လိုပါသည်"

မင်းကြီးသည် ငါ အသက်ရခြင်းသည်သာ ငါ့မှာမြတ်သောလာဘ် ဖြစ်ပေသည်ဟု ကြံစည်မိပြီးလျှင်-

"လိုအပ်သမျှတို့ကို ဆရာသည်ပင် ကိုယ်တိုင်ယူပါလေဟု မိန့်ကြားသည်။ ဤသို့လျှင် ပုရောဟိတ် တပည့်မင်းချင်းတို့သည် မင်းက တစ်ရာစီသာ စေခိုင်းပါလျက် အပိုအလို ငါးရာစီမျှ ဖမ်းဆီးယူငင်ကြလေသည်။"

ထိုသို့ယူသည့်အတွက် ဥစ္စာရှင်၊ သမီးရှင်တို့က ငိုကြွေးမြည်တမ်းသောအသံသည်

မြေပြိုအံ့သကဲ့သို့ အုတ်အုတ်ကျက်ကျက် ဖြစ်လေသည်။

ထိုအသံကို မလ္လိကာမိဖုရားကြားလျှင် မင်းကြီးထံသို့သွားရာ-

"ဘယ်လိုလဲ အရှင်မင်းကြီး၊ မျက်နှာမသာမယာနှင့် နေမကောင်းဖြစ်နေပါသလား" ဟု လျှောက်ထားသည်။

"မလ္လိကာ...ငါ၏နားရင်းသို့ သိ၍သွားသော မြွေဟောက်ကို သင် မသိပါ"

"အရှင်မင်းကြီး...ကျွန်မကား နားမလည်။ မည်သို့အကြောင်း ရှိပါသနည်း"

ထိုအခါ မင်းကြီးက မလ္လိကာမိဖုရားကို ဖြစ်ကြောင်းကုန်စင်ပြောပြပြီး ယဇ်ပူဇော်ရန် ပုရောဟိတ်ကို တာဝန်ပေးကြောင်းကို ပြောဆိုမိန့်ကြားသည်။

"အသင်မင်းကြီး...မင်းကြီးကား အလွန်မိုက်မဲ၏။ မင်းသည် အမဲဟင်းလျာနှင့် ဆန်တစ်တင်းချက်ကို နေ့စဉ် စား၏။ ကောသလတိုင်း၊ ကာသိတိုင်းဆိုသော တိုင်းနှစ်တိုင်းကို အုပ်ချုပ်မင်းလုပ်နေ၏။ ဤသို့သော မင်းကြီးက အလှူကြီးကိုပြုပါက အသင်မင်းကြီးအား အလွန်ပညာနည်းပါး၍ မိုက်မဲသူဟု ဆိုကြပါလိမ့်မည်"

"မလ္လိကာ သင့်ရဲ့စကားက ကြီးမားပြင်းထန်လှသည်။ လုံနှင့်နားကို ထိုးသည်မျှမက ထိပ်ထက်မိုးကြိုးကျသကဲ့သို့ အဘယ်ကြောင့် ဤသို့ ဆိုဘိသနည်း"

"သူတစ်ပါးအသက်ကိုသတ်၍ မိမိအသက်ရှင်နိုင်သည်ကို အဘယ်မှာ အရှင်မင်းကြီး မြင်ဖူးသနည်း။ မိုက်မဲလှသော ပုဏ္ဏားတို့၏စကားကို နားထောင်လျက် သတ္တဝါအပေါင်း၏ ဦးခေါင်းထက်၌ ဘာပြုလို့ ဆင်းရဲကို ပစ်ချချင်ရသနည်း။ မြို့ဦးမြို့ထိပ်ဖြစ်သော ကျောင်းဝယ် နတ်လူတို့၏ဆရာဖြစ်တော်မူသော အလုံးစုံသောအကြောင်းတို့ကို သိနိုင်သော ဉာဏ်တော် ရှိသော ဘုရားသည်ရှိသည်မဟုတ်ပါလော။ ဘုရားရှင်သည် အလုံးစုံသိမြင်သူ သဗ္ဗညုတဉာဏ် ရှိသော ဘုရားသည်ရှိသည်မဟုတ်ပါလော။ ဘုရားရှင်ထံ ဤအကြောင်းကိုလျှောက်ထား၍ ဘုရားအဆုံးအမတိုင်း လိုက်နာပါ"

မင်းကြီးသည် မလ္လိကာမိဖုရား လျှောက်ထားသည်ကို များစွာ နှစ်သက်သဘောကျ၍ မိဖုရားနှင့်အတူ ဘုရားရှင်ထံသို့သွားပြီး အကြောင်းစုံကို မလ္လိကာမိဖုရားက ဘုရားရှင်ကို လျှောက်ထားပြသည်။

"မင်းကြီး...မကြောက်လင့်၊ သင့်အား အန္တရာယ်မရှိ။ ငရဲသတ္တဝါသည် မိမိ၏ဆင်းရဲကို ထင်စွာပြလို၍ ဆိုကြခြင်းဖြစ်သည်"

ဘုရားရှင်က ဤသို့မိန့်ကြားပြီး ဒု-သ-န-သော ဖြစ်စဉ်အတိတ်ကိုဆောင်၍ ဟောကြားတော်မူလေသည်။

## ဒုသနသောသူဌေးသားလေးယောက် ငရဲရောက်

လူတို့သက်တမ်း အနှစ်နှစ်သောင်းကာလအချိန်တွင် ဤဘဒ္ဒကမ္ဘာ၌ ကဿပဘုရားရှင် ပွင့်တော်မူသည်။

ဘုရားရှင်သည် နှစ်သောင်းမျှသော ရဟန္တာတို့ခြံရံလျက် ဗာရာဏသီသို့ ဒေသစာရီ ကြွချီခဲ့သည်။ ဗာရာဏသီမြို့သူမြို့သားတို့သည် စုဝေးတိုင်ပင်ကြပြီး ဘုရားရှင်အား ပူဇော် ကြသည်။

ထိုအချိန်တွင် ဗာရာဏသီပြည်၌ ကုဋေလေးဆယ်ကြွယ်ဝသော သူဌေးသားလေးယောက် တို့ ရှိကြသည်။ သူတို့သည် အလွန်တရာ ချစ်ကျွမ်းဝင်ကြသော သူငယ်ချင်းများ ဖြစ်ကြ သည်။

အများတကာတွေ ဘုရားရှင်အား အာဂန္တုကဒါနပြုကြစဉ် သူတို့လေးယောက်သည်လည်း စုဝေးတိုင်ပင်မိကြသည်။

ပထမ သူဌေးသားတစ်ဦးက-

"အဆွေတို့…ငါတို့မှာ ရွှေငွေဥစ္စာများစွာ ရှိကြသည်။ မည်သို့လုပ်ကြမည်နည်း။ ယခု ကြွလာသော ကဿပဘုရားရှင်နှင့် ရဟန္တာမထေရ်တို့ကို အလှူပေးကြကုန်အံ့။ ပူဇော် ကြကုန်အံ့။ ပြီးတော့ သီလဆောက်တည်ကြကုန်အံ့" ဟု ပြောသည်။

တစ်ယောက်မျှ သဘောတူကြောင်းမပြောကြ။ တိတ်ဆိတ်စွာနေကြသည်။

ထို့နောက် တစ်ယောက်က ပြောပြန်သည်။

"အဆွေတို့…ငါတို့သည် အကောင်းဆုံးသော သေရည်ကို သောက်၊ အကောင်းဆုံး သော အသားများကို စားသောက်ပြီး လှည့်လည်သွားကြကုန်အံ့။ ထိုသို့သွားရခြင်းသည် ငါတို့အား အသက်ရှည်ပေလိမ့်မည်" တစ်ယောက်က-

"အဆွေတို့…ငါတို့သည် နေ့စဉ်နေ့တိုင်း ကောင်းပေ့ဆိုသော အဝတ်နံ့သာတို့ကို ဝတ်ဆင် ပြီး ကောင်းပေ့ဆိုသော သလေးထမင်းကို အရသာထူးဟင်းတို့ဖြင့် စားသုံးကြပြီး လှည့်လည် သွားကြပါစို့" ဟု ပြော၏။ တစ်ယောက်က-

"အဆွေတို့…တခြားကိစ္စမလုပ်ကြနဲ့။ လောက၌ မိန်းမတို့မည်သည် ငွေမမက်သူဟူ၍ မရှိ။ ငွေပေးက ရနိုင်သည်။ သို့အတွက် ကြိုက်သောမိန်းမတို့ကို လင်ရှိသော၊ မရှိသော နားမလည်။ ငွေနှင့်ဖြားယောင်းမြူဆွယ်ပြီး ဖြားယောင်းရသော မိန်းမတို့ဖြင့် ပျော်ပျော်ပါးပါး နေကြပါစို့"

ထိုအခါ သူဌေးသားလေးယောက်စလုံးက-

"ကောင်းလှပေသည်၊ ကောင်းလှပေသည်"

ဟု သဘောတူကြကာ ထိုကိစ္စကိုပြုလုပ်ရန် သဘောတူဆုံးဖြတ်ကြသည်။

ထို့နောက် သူတို့သည် ထိုအချိန်မှစ၍ ချောမောလှပသော မိန်းမတို့ကို တွေ့မြင်လျှင် လင်ရှိ၊ မရှိ နားမလည်။ သဘောကျက ငွေနှင့်မြူဆွယ်ပြီး ပျော်ပါးကြသည်။ ထိုသို့ လေးယောက် သဘောတူ၊ ဆန္ဒတူပြုလုပ်လာကြရာ အသက်ထက်ဆုံးပင် ဖြစ် သည်။

ထိုသူဌေးသားလေးယောက် သေဆုံးသောအခါ ပြုခဲ့ကြသော ပရဒါယကကံကြောင့် အဝီစိငရဲ၌ ကျရောက်ကြရသည်။

ထိုအဝီစိငရဲ၌ သက်တမ်းအရခံရပြီးသော် အကုသိုလ်ကံအကြွင်းဖြင့် လောဟကုမ္ဘီငရဲသို့ ပြောင်းရွှေ့ခံရသည်။ အနှစ်သုံးသောင်းတို့ကာလပတ်လုံး ငရဲအိုးအောက်၌ နစ်မြုပ်နေရပြီး အနှစ်သုံးသောင်းရှိသောအခါ ငရဲအိုး၏မျက်နှာဝသို့ ရောက်လာသည်။ ငရဲအိုးအဝသို့အရောက်တွင် တစ်ခုသောစကားတို့ကို ဆိုလို၍ ရွတ်ဆိုသော် အဆုံးမဆိုနိုင်ချေ။ (ဒု)ဟူသောစကား တစ်လုံးသာဆိုနိုင်ပြီး ငရဲအိုးအောက်သို့ ပြန်လည်နစ်မြုပ်သွားရသည်။

"ငါတို့အား စည်းစိမ်ဥစ္စာများစွာ ရှိကုန်ကြလျက် မပေးလှူမိကြကုန်။ သို့အတွက် ငါတို့သည် ငရဲ၌ ရှည်ကြာစွာ အသက်ရှည်၍နေရကုန်ပြီ"

တစ်ယောက်သည် (သ)ဟူသောအသံသာ မြည်ဆိုပြီး ပြန်နစ်မြုပ်သွားရပြန်သည်။

"လောဟကုမ္ဘိ ဤသည်ငရဲ၌ အချင်းခပ်သိမ်း နစ်မြုပ်ပေါ်လျက် ကျယ်၍ခံစားရသော ငါတို့အား အနှစ်ခြောက်သောင်း ပြည့်ပါပြီ။ ဘယ်တော့အခါများ ဆုံးပါလိမ့်မည်နည်း။ လွတ်ပါလိမ့်မည်နည်း"

တတိယသူဌေးသားသည် (န)ဟူသောအသံသာ မြည်ဆိုပြီး ပြန်နစ်သွားရပြန်သည်။

"သူဌေးသားဖြစ်စဉ်က သူတစ်ပါးသားမယားတို့ကို ကျူးလွန်ခဲ့သော ကံ၏မကောင်းမှု ကံသည် သင်နှင့်ငါတို့အား အဆုံးမရှိ အဆုံးမသတ်နိုင်ပါချေတကား"

စတုတ္ထသူဌေးသားသည် (သော)ဟူသောအသံကိုသာ မြည်ဆိုပြီး ပြန်နစ်သွားရသည်။

"သူ့သားအိမ်ရာတို့ ပြစ်မှားမိ၍ ဤသို့ ရေပူငရဲ၌ ပြင်းစွာ ခံစားနေရသော ငါသည် ဤငရဲမှလွတ်၍ အကယ်၍ လူဖြစ်က ပညာရှိတို့၏စကားကို နားထောင်ပြီး ဒါနသီလတို့ကို ပြုပါတော့မည်"

ဤသူဌေးသားလေးယောက်သည် ဂေါတမဘုရားရှင်လက်ထက်တွင် အပေါ်သို့ တစ်ခါပေါ်၍ အထက်ပါအသံကို အော်ဟစ်ပြောဆိုကြသည်။ ကောသလမင်းကလည်း ပြာသာဒ်မယ် ကို သူ့လင်လက်မှ လုယူရန် စီမံချက်ချစဉ် အချိန်နှင့်ကြုံပြီး ထိုအသံကို ကြားရသည်။

ကောသလမင်းသည် ထိုအသံကိုကြောက်ပြီး ဘုရားရှင်ထံ သွားရောက်လျှောက်ထားရာ ဘုရားရှင်က ထိုသူဌေးသားလေးယောက်အကြောင်းနှင့် ဒု-သ-န-သော အဓိပ္ပာယ်ကို ဖော်ထုတ်ဟောခဲ့သည်။

* * *

## အရှင်လတ်လတ် ငရဲခံရသော စုန္ဒဝက်သတ်သမား

ဘုရားရှင်သည် ရာဇဂြိုဟ်ပြည် ဝေဠုဝန်ကျောင်း၌ သီတင်းသုံးနေစဉ် ထိုကျောင်းအနီး၌ စုန္ဒမိသားစု ဝက်သတ်သမားမိသားစု နေသည်။

စုန္ဒသည် ဝက်တို့ကိုသတ်၍ စားလည်း စား၏။ ရောင်းလည်းရောင်းချသည်။ အိမ်နောက်ဖေး၌ ခြံများကာရံ၍ ဝက်ငယ်များကို မွေးထားသည်။ ဝက်ငယ်များကြီးလာသောအခါ သတ်လိုသောဝက်ကို မလှုပ်နိုင်အောင် ချည်နှောင်ထားပြီး အသားတိုးအောင် ဝက်ကို ရိုက်နှက်ထုထောင်းသည်။ အသားများ ပွရောင်လာပြီဆိုလျှင် ဝက်၏ပါးစပ်ကို အတင်းဖွင့်၍ ကြပ်ကြပ်ဆူသော ရေနွေးတို့ကို လောင်းထည့်သည်။ ကျန်ရေနွေးတို့ကို ဝက်၏ကျောကုန်း၌ လောင်းချသည်။ ရေနွေးပူသည် ဝက်၏အမွေးအရေခွံတို့ကို ကျွတ်စေသည်။ ထို့နောက် ဝက်၏ဦးခေါင်းကို ဖြတ်၍သတ်သည်။ ထွက်လာသောသွေးကို ခွက်ဖြင့်ခံ၍ အသားဖြင့်နယ်ကာ ချက်ပြုတ်သည်။ ထိုဟင်းတို့ကို သားမယားနှင့်အတူ မြိန်ရှက်စွာ စားသောက်သည်။ ကျန်အသားတို့ကို ရောင်းချသည်။

စုန္ဒသည် ဘုရားကျောင်းအနီး၌ရှိနေသော်လည်း တစ်ခါမျှ အလှူမပေးခဲ့ချေ။ ဆွမ်းတစ်ယောက်မမျှ မလောင်းလှူခဲ့ပေ။

ဤသို့ဖြင့် စုန္ဒသည် ၅၅ နှစ်တာကာလပတ်လုံး ဝက်သတ်၍ အသက်မွေးခဲ့သည်။ တစ်နေ့တွင် စုန္ဒကိုယ်၌ အနာဖြစ်လာသည်။ အသက်ရှင်စဉ်ပင် အဝီစိငရဲမီးပူသည် လောင်လေသည်။ စုန္ဒငရဲမီးပူသည် လောင်သည်ရှိသော် မိမိပြုခဲ့သည့် ဝက်သတ်သည့်အကုသိုလ်အတိုင်း ခံရလေသည်။ အိမ်၏အလယ်၌ ဝက်မြည်သကဲ့သို့ အော်မြည်ကာ လေးဘက်ထောက်ပြီး အရှေ့နံရံမှ အနောက်နံရံသို့ လူးလားတုံ့ပြန်သွားလာနေရသည်။ အိမ်သားများက စုန္ဒကိုဖမ်း၍ ပါးစပ်ကို ပိတ်ကြသည်။ ပိတ်၍မရပေ။ စုန္ဒ ဝက်အော်သံကဲ့သို့ အော်နေသောကြောင့် ထိုအသံကို နားမခံနိုင်ဘဲ အိပ်ရေးပျက်ကြသည်။ စုန္ဒသည် (၇) ရက်ပတ်လုံး ဝက်ကဲ့သို့ အော်ဟစ်ခံရပြီး သေဆုံးသွားပြီး အဝီစိငရဲသို့ ကျရောက်သွားသည်။



## ဇာတ်တော်လာ မြေမျိုခံရသူများငရဲ

### အပသတ်သား ငရဲလားရာ

ဗိမ္ဗိသာရမင်းကြီး၏ အဂ္ဂမဟေသီ ဝေဒေဟီမိဖုရားကြီးတွင် သန္ဓေတည်သောကာလ။

"ငါသည် မင်းကြီး၏လက်ျာလက်မောင်းသွေးကို သောက်မျိုရမူ ကောင်းလေစွ" ဟူ၍ တောင့်တမှုချင်ခြင်းဖြစ်လေသည်။

"ဝန်လေးသောအရာ၌ ငါ၏ချင်ခြင်းကား ဖြစ်လေသည်။ အခြားသူတစ်ဦးတစ်ယောက်မှုပြောကြား၍ မသင့်ပါချေတကား"

ဟု ဆင်ခြင်စဉ်းစားကာ ထိုချင်ခြင်းကို ရဲရဲဝံ့ဝံ့ မပြောဆိုဝံ့ဘဲရှိနေရာ အစားပျက်၊ အအိပ်ပျက်ဖြစ်ပြီး ရုပ်ရည်သည် တဖြည်းဖြည်း ကြုံလှီညှိုးနွမ်းလာလေသည်။

ထိုအခြင်းအရာကို မင်းကြီးက-

"မိဖုရားကြီး…သင်၏ခန္ဓာကိုယ်အတ္တဘောသည် နဂိုပကတိအဆင်း မဟုတ်တော့ပါလား။ အကြောင်းမည်သို့ရှိနေပါသနည်း" ဟု မေးသည်။

"အရှင်မင်းကြီး မေးတော်မမူပါလင့်"

"မိဖုရားကြီး..သင်၏လိုလားချက်ကို ငါ့အား မပြောကြားလျှင် အခြားဘယ်သူ့အား ပြောကြားမည်နည်း"

မင်းကြီးက အကြိမ်ကြိမ် မေးစိစစ်သော် မိဖုရားကြီးသည် မိမိ၏ချင်ခြင်းကို မင်းကြီးအား ဖွင့်ဟလျှောက်ထားလေသည်။ မင်းကြီးသည် မိဖုရားကြီး၏ချင်ခြင်းကို ကြားသိရလျှင် ချစ်ခင်မြတ်နိုးသောစိတ် လွှမ်းမိုးကာ-

"မိုက်လှစွာသော အဘယ်မိဖုရား၊ အဘယ်ကြောင့် သင့်မှာ ဝန်လေးလှ၏ဟူသော အမှတ်သညာဖြစ်ရသနည်း"

ဟု မည်တွန်တောက်တီးကာ ဆေးဆရာကိုခေါ်စေပြီး ရွှေဓားငယ်ဖြင့် လက်ရုံးကို ဖောက်ကာ သွေးကိုခံယူစေပြီး ရေရောကာ တိုက်ကျွေးလေသည်။

နိမိတ်ဖတ်ကြသော ဟူးရားဆရာတို့သည် ထိုသတင်းကိုကြားလျှင်-

"ယခု မိဖုရားကြီး၌ စွဲကပ်နေသော ယခုကိုယ်ဝန်သည် မင်းတရားကြီး၏ရန်သူစစ်စစ် ဖြစ်လိမ့်မည်။ ဤကိုယ်ဝန်တည်မင်းသားသည် မင်းတရားကြီးကို သတ်လိမ့်မည်"

ဟု နိမိတ်ဖတ်ဟောကြားကြလေသည်။

"ငါ၏ဝမ်းမှဖွားသောသားသည် မင်းကြီးကို သတ်လိမ့်မည်တဲ့"

မိဖုရားကြီးသည် ထိုသတင်းကိုကြားကာ ကြီးစွာသော စိုးရိမ်စိတ်ဖြစ်ပေါ်လာပြီးလျှင် ကိုယ်ဝန်ကို ဖျက်ချလိုသည်ဖြစ်၍ ဥယျာဉ်သို့သွားကာ ဝမ်းဗိုက်ကို နှိပ်နင်းစေလေသည်။ ကိုယ်ဝန်ကား မကျချေ။ မိဖုရားကြီးသည် အကြိမ်ကြိမ်ပင် ဥယျာဉ်သို့သွား၍ ကိုယ်ဝန်ကို ဖျက်ချသည်။

"အဘယ်အတွက် ဤမိဖုရားသည် ဥယျာဉ်သို့သွားပါသနည်း"

မင်းကြီးသည် အကြောင်းစုံကို စုံစမ်းလတ်သည်ရှိသော် ထိုကိုယ်ဝန် ဖျက်ချသည့် အကြောင်းကို သိသည်။

"မိဖုရားကြီး...ရှင်မိဖုရားဝမ်းတိုက်၌ သားဟူ၍လည်းကောင်း၊ သမီးဟူ၍လည်းကောင်း မသိအပ်သေးချေ။ မိမိအား ဖြစ်လာသော သားသူငယ်ကို ဤသို့ပြုသတဲ့ဟူ၍လည်း ငါ့အဖို့ ကြီးစွာသော ဂုဏ်ကျေးဇူးမဲ့ မကောင်းသတင်း ဇမ္ဗူဒိပ်ကျွန်းတစ်ဝှမ်းလုံး၌ ထင်ရှားဖြစ်ပါ လိမ့်မည်။ သင်မိဖုရားကြီးသည် ဤသို့ မပြုပါလင့်"

ဟု တားမြစ်၍ အစောင့်အနေများ ချထားလေသည်။

မိဖုရားကြီးကမူ ဖွားမြင်သောအခါ သတ်တော့မည်ဟု ကြံစည်ထားလေသည်။

ထိုသို့ ဖွားမြင်သောအခါတွင်လည်း အစောင့်မင်းချင်းများက သားသူငယ်ကို မိဖုရားကြီး

မသတ်နိုင်ရန် လွတ်ရာသို့ ယူဆောင်ထားကြလေသည်။

ထို့နောက် ကြီးပြင်းလာသော မင်းသားကို မိဖုရားကြီးအား ပြသလေသည်။ မိဖုရားကြီးသည် သားကိုမြင်ရသောအခါ သားဦးချစ်ခြင်းကို ပြင်းထန်စွာ ဖြစ်ပေါ်ခံစားရလေသည်။ သားကို သတ်လိုသောစိတ် မရှိတော့ချေ။

ခမည်းတော် ဗိမ္ဗိသာရမင်းကြီးသည်လည်း အစဉ်သဖြင့် ကြီးပြင်းလာသော သားတော်လေးကို အိမ်ရှေ့အရာ ပေးထားလေသည်။

ထိုအချိန်တွင် ဘုရားရှင်သည် ခမည်းတော်ရှိရာ ကပိလ ဝတ္ထုပြည်သို့ ကြွတော်မူသည်။ ဘုရားရှင် ကပိလဝတ္ထုမှအပြန်တွင် သာကီဝင်မင်းသားခြောက်ဦးနှင့် ဆတ္တာသည် ဥပါလိတို့သည် ဘုရားရှင်နောက်သို့လိုက်ပြီး ရဟန်းပြုကြသည်။

ရဟန်းပြုကြပြီးနောက် ထိုရဟန်းခုနစ်ပါးအနက်-

- အရှင်ဘဒ္ဒိယသည် ထိုနှစ်ဝါတွင်းမှာပင် တေဝိဇ္ဇပတရဟန္တာ ဖြစ်သည်။
- အရှင်အနုရုဒ္ဓါသည် ဒိဗ္ဗစက္ခုအဘိညာဏ်ရပြီး အရဟတ္တဖိုလ်ဆိုက်သည်။
- အရှင်အာနန္ဒာသည် သောတာပတ္တိဖိုလ်တည်သည်။
- ဘဂုနှင့် ကိမိလမထေရ်တို့သည် အရဟတ္တဖိုလ်သို့ ဆိုက်ကြသည်။
- ရှင်ဒေဝဒတ်သည် ပုထုဇဉ်ရဟန်းဘဝနှင့်ပင် လောကီဈာန်အဘိညာဉ်တို့ကိုရခဲ့သည်။

ဘုရားရှင် ကောသမ္ဗီပြည်၌ သီတင်းသုံးနေစဉ် ဘုရားရှင်နှင့်တကွ တပည့်သံဃာပေါင်းတို့အား လာဘ်လာဘသည် အလွန်ပေါများသည်။ ရှင်မောဂ္ဂလာန်၊ ရှင်သာရိပုတ္တရာ၊ ရှင်အာနန္ဒာ စသည်တို့မှာ မေးမည့်သူ၊ လှူမည့်သူများဖြင့် ပေါများနေသလောက် ရှင်ဒေဝဒတ်မှာမူ မေးမည့်သူမရှိ၊ လှူမည့်သူမရှိ ဖြစ်နေရသည်။

သို့အတွက် ဒေဝဒတ်သည် မိမိလာဘ်လာဘပေါများရေးအတွက် တွေးကြံဆလာသည်။ ဗိမ္ဗိသာရမင်း၏သားငယ် အဇာတသတ်ကို မိမိအလိုသို့ပါရန် ကြိုးစားခဲ့သည်။ အဇာတသတ်မင်းသား အိမ်ရာတိုက်ခန်းသို့ဝင်ပြီး သူငယ်အသွင် ဖန်ဆင်းကာ လက်နှစ်ဖက်၊ ခြေနှစ်ဖက်တို့၌ မြွေတစ်ကောင်စီ၊ လည်ပင်း၌ မြွေတစ်ကောင်၊ ထိပ်၌ မြွေတစ်ကောင်၊ လက်ဝဲပခုံး၌ မြွေတစ်ကောင်၊ မြွေခြောက်ကောင်တို့ကို အမြီးချင်း ဆက်ယှက်ထိုး၍ ခါးပတ်ကဲ့သို့ တန်ဆာဆင်ပြီးလျှင် ကောင်းကင်မှ သက်ဆင်း၍ အဇာတသတ်မင်းသားရင်ခွင်၌ ထိုင်နေသည်။

မင်းသားငယ်သည် အလွန်ကြောက်လန့်သဖြင့် အသင်ဘယ်သူနည်းဟု မေးသည်။ ငါ ဒေဝဒတ်ရဟန်းဟု ပြောဆိုသည်။

"အရှင်ဘုရားသည် ဒေဝဒတ်ဖြစ်ခဲ့ပါမူ ပကတိအသွင် ထင်ရှားပြပါ" ဟု လျှောက်ထား

သဖြင့် ဒေဝဒတ်က သူငယ်အသွင် ရုပ်သိမ်းပြီး သပိတ်သကင်္ကန်းလွယ်လျက် ရဟန်းအသွင်ကို ပြခဲ့သည်။

အဇာတသတ်မင်းသားသည် ဤတန်ခိုးဖြင့်ပင် ဒေဝဒတ်ကို ကြည်ညိုသွားပြီး ရထား ငါးရာတို့ဖြင့် နံနက်တစ်ကြိမ်၊ ညနေတစ်ကြိမ် ဒေဝဒတ်ထံသို့ သွားရေခစားဆည်းကပ်လေသည်။ နေ့စဉ်လည်း ဆွမ်းအိုးငါးရာတို့ကို ပို့လှူဒါန်းလေသည်။

ဒေဝဒတ်သည် ထိုလာဘ်လာဘတို့ကို သာယာပြီး ငါသည် ဘုရားတစ်ဆူလုပ်မည်ဟု စိတ်ကူးဆုံးဖြတ်ခဲ့သည်။ ထိုအကြံဖြစ်ပေါ်လာသည့်အချိန်မှစ၍ လောကီဈာန်အဘိညာဉ်တို့သည် ကွယ်ပျောက်ကုန်ခဲ့သည်။

ထို့နောက် ဒေဝဒတ်သည် ဘုရားရှင်ထံသို့သွားကာ ရဟန်းသံဃာများကို သူအုပ်ချုပ်မည်၊ သူ့ကိုလွှဲပေးရန် တောင်းဆိုခဲ့သည်။

"ဒေဝဒတ်၊ ငါဘုရားသည် သာရိပုတ္တရာ၊ မောဂ္ဂလာန်တို့ကိုသော်မှ ရဟန်းသံဃာကို မလွှဲအပ်ခဲ့။ တံတွေးနှင့်တူသော ပစ္စည်းများကို သုံးစားနေသော ယုတ်မာသော သင့်အား အဘယ်ကြောင့် လွှဲအပ်ရမည်နည်း" ဟု ဘုရားရှင်က မိန့်ကြားခဲ့သည်။

ထိုအခါ ဒေဝဒတ်သည် "ဘုရားရှင်သည် မင်းပရိသတ်အလယ်၌ ငါ့ကို တံတွေးစားသူဟူသောစကားဖြင့် မောင်းမဲ၏။ သာရိပုတ္တရာ၊ မောဂ္ဂလာန်တို့ကိုသာ မြှောက်စားသည်" ဟုဆိုကာ အမျက်ထွက်ပြီး ဘုရားရှင်ကို ရန်ငြိုးဖွဲ့လေသည်။

ထိုအခါ ဘုရားရှင်သည် ရဟန်းတို့ကို ဒေဝဒတ်အား ကမ္မဝါစာဖြင့် ပကာသနိယကံကို ပြုစေသည်။

"ယခုအခါ ရဟန်းဂေါတမသည် ငါ့ကို စွန့်ပယ်လိုက်ပြီဖြစ်သည်။ ငါသည် ဂေါတမ ပျက်စီးရာပျက်စီးကြောင်းကို ပြုတော့အံ့"

ဒေဝဒတ်သည် ဤသို့ ကြံစည်ပြီးလျှင် အဇာတသတ်မင်းသားထံသို့သွားကာ-

"မင်းသား၊ ရှေးခေတ်လူများသည် အသက်ရှည်ကြ၍ ယခုခေတ်လူများသည် အသက်တိုကြသည်။ သင်သည် မင်းသားဘဝနှင့် သေမည်ဆိုသော် သေနိုင်ရာ၏။ သို့အတွက် သင်သည် အဖကိုသတ်၍ မင်းပြုလော့။ ငါသည်လည်း ဘုရားကိုသတ်၍ ဘုရားပြုလုပ်မည်" ဟု ပြောလေသည်။

အဇာတသတ်မင်းသားသည် ဒေဝဒတ်သည် ဘုန်းတန်ခိုးကြီးသူ ဖြစ်သည်။ ရှင်ဒေဝဒတ်သည် အကြောင်းကိုသိ၍ ပြောသည်ဖြစ်လိမ့်မည်ဟု ယုံကြည်သွားမိသည်။

သို့အတွက် ပေါင်၌ ဓားမြှောင်ကို ဖွဲ့ချည်၍ နေ့ခင်းကြောင်တောင် ကြောက်ရွံ့တုန်လှုပ်

လျက် အဆောတလျင် နန်းတွင်းသို့ဝင်သည်။ မင်း၏သက်တော်စောင့် အမတ်တို့က မင်းသားကို ဖမ်းဆီးပြီး ရှာဖွေကြရာ မင်းသားပေါင်၌ ချည်နှောင်ထားသောဓားကို တွေ့ကြသည်။

“မင်းသား…သင် ဤဓားဖြင့် အဘယ်အရာကိုပြုမည်လို့လဲ”

“ခမည်းတော်ကို သတ်လိုသည်”

“သင့်ကို အဘယ်သူက အားပေးအကြံပေးတိုက်တွန်းခဲ့ပါလဲ”

“ရှင်ဒေဝဒတ်က အကြံပေးတိုက်တွန်းခဲ့ပါသည်”

မင်းသားက အဖြောင့်ဝန်ခံသောအခါ အမတ်တို့တွင် တချို့သော အမတ်တို့က-

“မင်းသားနှင့်ဒေဝဒတ်တို့ကိုလည်းကောင်း၊ ရဟန်းအားလုံးကိုလည်းကောင်း သတ်ထိုက်၏” ဟု အကြံပြုကြသည်။

အချို့သောအမတ်တို့က-

“ရဟန်းတို့ မသတ်ထိုက်၊ ရဟန်းတို့သည် တစ်စုံတစ်ရာ မဖြစ်မှားကြ။ မင်းသားနှင့် ဒေဝဒတ်ကိုသာ သတ်ထိုက်၏” ဟု အကြံပြုကြသည်။

အချို့သောအမတ်တို့က-

“မင်းသားနှင့်ဒေဝဒတ်ကိုလည်း မသတ်ထိုက်။ ရဟန်းတို့ကိုလည်း မသတ်ထိုက်။ မင်းကြီးအား လျှောက်ထားသင့်၏။ မင်း အမိန့်ရှိသည့်အတိုင်း ဆောင်ရွက်သင့်သည်” ဟု အကြံပြုကြသည်။

ထို့နောက် အမတ်တို့သည် မင်းသားကို ဖမ်းဆီးပြီး မင်းကြီးထံသို့ ပို့အပ်ကာ အကြောင်းစုံကို လျှောက်ထားကြသည်။

“အချင်းအမတ်တို့၊ ဤကိစ္စနှင့်ပတ်သက်၍ သင်တို့ ဘယ်လိုအဆုံးအဖြတ် ရှိကြပါသနည်း”

ဟုမေးသည်။ အမတ်တို့က မိမိတို့ဆုံးဖြတ်ချက်ချကြသော အဆုံးအဖြတ်တို့ကို အသီးသီး လျှောက်ထားကြသည်။

“အချင်းအမတ်တို့ ဘုရားသည်လည်းကောင်း၊ တရားသည်လည်းကောင်း၊ သံဃာသည်လည်းကောင်း မည်သည့်အပြစ်ကိုမျှ မပြုကြပါ။ ဘုရားရှင်သည် စောစောကပင် ရာဇဂြိုဟ်ပြည်၌ ဒေဝဒတ်၏ ရှေးအခါက အမူအကျင့်သည်တစ်မျိုး၊ ယခုအမူအကျင့်သည် တစ်မျိုးဟု ဆိုပြီး ထင်ရှားအောင်ပြုပြီး ဒေဝဒတ်ကို ပကာသနီယကံပြုထားပြီး မဟုတ်လော” ဟု မိန့်ကြားပြီး ပထမအုပ်စု အမတ်တို့ကို ရာထူးမှ လုံးဝနုတ်ပယ်ခဲ့သည်။ ဒုတိယအုပ်စုအမတ်တို့ကို ရာထူးတစ်ဆင့် နိမ့်ချသည်။ တတိယအုပ်စု အမတ်တို့ကို ရာထူးတစ်ဆင့်

တိုးပေးလေသည်။

ထို့နောက် မင်းကြီးသည် သားတော်ကို-

"မင်းသား၊ သင်သည် အဘယ်ကြောင့် ငါ့ကို သတ်လိုပါသနည်း" ဟု မေး၏။

"အကျွန်ုပ်သားတော်သည် မင်းအဖြစ်ကို အလိုရှိပါ၏"

"မင်းသား၊ သင်သည် မင်းအဖြစ်ကို အလိုရှိမူ ဤမင်းစည်းစိမ်သည် သင်ချစ်သား၏ မင်းစည်းစိမ်ပင် ဖြစ်သည်"

ဗိမ္ဗိသာရမင်းကြီးသည် ဤသို့မိန့်ကြားပြီးလျှင် သားတော်အား ထီးနန်းအရိုက်အရာကို လွှဲအပ်ပေးလေသည်။

ထိုသို့ ထီးနန်းအာဏာရသောအခါ အဇာတသတ်မင်းသားသည် ဆရာဒေဝဒတ်ထံသို့ သွားကာ-

"အရှင်၊ ကျွန်ုပ်၏စိတ်နှလုံးအလိုဆန္ဒက ပြည့်ပါပြီ။ ယခုပင် ဖခင်က ထီးနန်းအရိုက်အရာကို လွှဲပေးခဲ့ပါပြီ" ဟု အကြောင်းစုံကို လျှောက်သည်။

"မင်းသား၊ သင်သည် မြေခွေးကို အတွင်း၌ထား၍ စည်ကြက်သော ယောက်ျားကဲ့သို့ ငါ့ကိစ္စ အောင်မြင်ပြီဟု ထင်မှတ်နေသည်။ သင့်ခမည်းတော်သည် နှစ်ရက်သုံးရက်လောက်ရှိလျှင် သင်ပြုခဲ့သော မထီမဲ့မြင်မှုကို ကြံစည်စဉ်းစား၍ ကိုယ်တိုင်ပင် မင်းပြုလိမ့်မည်" ဟု ရန်တိုက်စကား ပြောကြားလေသည်။

"အရှင်ဘုရား၊ ထိုသို့ဖြစ်လျှင် တပည့်တော် ဘယ်လိုဆက်လုပ်ရမည်နည်း"

"သင့်ခမည်းတော်ကို အမြစ်ပြတ်သတ်ပါလား"

"အရှင်ဘုရား၊ တပည့်တော်၏ခမည်းတော်သည် ရာဇသွေးဖြစ်၍ လက်နက်ဖြင့် မသတ်ထိုက်သူမဟုတ်ပါလော"

"ဒါဆိုလျှင် သင့်ခမည်းတော်ကို အာဟာရဖြတ် အစာငတ်ထား၍သတ်ပါလေ" ဟု ရက်စက်ယုတ်မာသော အကြံပေးစကားကို မိန့်ကြားသည်။

အဇာတသတ်မင်းသည် ခမည်းတော် ဗိမ္ဗိသာရမင်းကို လွန်စွာပူပြင်းလျက် အခိုးခြောင်းခြောင်းထွက်သော သံလှောင်အိမ် သီးသန့်ပြုကာ ထိုလှောင်အိမ်၌ အကျဉ်းချထားသည်။

မင်းကြီးကလည်း သူ့ကို ငါဘုရင်မြှောက်ထားပေပြီပဲဟုဆိုကာ အသာတကြည်ပင် ထောင်ထဲသို့ဝင်ခဲ့သည်။

အဇာတသတ်သည် ခမည်းတော်အား အကျဉ်းချထားပြီး-

"ငါ၏မယ်တော်မှတစ်ပါး အခြားမည်သူတစ်ဦးတစ်ယောက်မျှ ဖူးခွင့်မပေးရ။ အစား

အစာ မပို့ရ''ဟု အမိန့်ထုတ်ထားသည်။

အဇာတသတ်ကို မယ်တော်ဝေဒေဟီက ဖခမည်းတော်ကို ထိုကဲ့သို့ မပြုလုပ်ရန် အတန်တန်တားသည်။ အဇာတသတ်က ဆရာဒေဝဒတ်စကားမှတစ်ပါး အခြားဆုံးမချက်ကို မနာယူချေ။

ထိုအခါ ဝေဒေဟီမိဖုရားကြီးသည် စားတော်ရွှေခွက်၌ ပွဲတော်စာထည့်ပြီးလျှင် ရင်ခွင်ဖြင့်ပိုက်၍ သံလှောင်အိမ်သို့ဝင်လေသည်။ မင်းကြီးသည် ထိုပွဲတော်စာကို စားသုံး၍ မျှတတော်မူသည်။

ဆယ့်ငါးရက်နေ၍ ဖခမည်းတော်အကြောင်းကို စုံစမ်းသည်။ မယ်တော်၏အစာအာဟာရဖြင့် မျှတအသက်ရှင်နေသည်ကို သိရ၍-

''ငါ၏မယ်တော်အား ပွဲတော်စာကို ရင်ခွင်ပိုက်ဝင်ခွင့်မပေးကြကုန်လင့်'' ဟု အမိန့်ထုတ်ပြန်လေသည်။

ထိုအခါ ဝေဒေဟီမိဖုရားသည် ပွဲတော်စာကို ဆံထုံး၌ထည့်၍ သံလှောင်အိမ်သို့ ဝင်ပြန်သည်။ မင်းကြီးသည် ထိုပွဲတော်စာဖြင့် မျှတတော်မူသည်။

ထိုသတင်းစကားကို အဇာတသတ်မင်းကြားလျှင်-

''ငါ၏မယ်တော်ကို ဆံထုံး၍ ဝင်ခွင့်မပေးကြနဲ့''

ဟု ထပ်ဆင့်အမိန့်ထုတ်ပြန်လေသည်။

ထိုအခါ ဝေဒေဟီမိဖုရားသည် ရွှေခြေနင်း၌ ပွဲတော်စာကို ထည့်ပိတ်ပြီး ခြေနင်းတို့ကို စီးလျက် ဝင်ပြန်သည်။ မင်းကြီးသည်လည်း ထိုအစာဖြင့်ပင် မျှတတော်မူ၏။

''ဘယ်လိုလဲ၊ ငါ၏ခမည်းတော် အဘယ်အရာဖြင့် မျှတနေပါသလဲ''

ဟုမေးမြန်းရာ ထိုအကြောင်းကိုသိ၍-

''ငါ၏မယ်တော်အား ခြေနင်းစီး၍ ဝင်ခွင့်မပေးကြကုန်လင့်'' ဟု အမိန့်ထုတ်ပြန်သည်။

ထိုအခါ ဝေဒေဟီမိဖုရားသည် နံ့သာရေမိုးချိုးပြီးလျှင် မိမိကိုယ်ကို စတုမဓုဖြင့် လိမ်းသုတ်၍ အပေါ်ရုံခြုံလျက် သံလှောင်အိမ်တွင်းသို့ ဝင်ပြန်သည်။ မင်းကြီးသည် မိဖုရားကိုယ်ကို လျှာဖြင့်လျက်၍ မျှတတော်မူသည်။

ထိုအကြောင်းကို အဇာတသတ်သည် သိပြန်၍-

''ဤအချိန်မှစ၍ ငါ၏မယ်တော်အား လှောင်အိမ်အတွင်းသို့ ဝင်ခွင့်မပေးကြနဲ့''

ဟု တားမြစ်အမိန့်ထုတ်လေသည်။

မိဖုရားကြီးသည် အတွင်းသို့ ဝင်ခွင့်မရသဖြင့် သံလှောင်အိမ်တံခါးအနီး၌ ရပ်တည်ပြီးလျှင်-

"အို…အရှင်ဗိမ္ဗိသာရ၊ အရှင်သည်ပင် ထိုအဇာတသတ်သားမိုက်ကို ငယ်စဉ်အခါက သတ်ခွင့်မပေးခဲ့ချေ။ မိမိရန်သူကို မိမိပင် မွေးမြူခဲ့ပါ၏။ ယခုအခါ အရှင်အား ဖူးမြော်ရခြင်းသည် နောက်ဆုံး ဖူးမြော်ရခြင်း ဖြစ်ပါသည်။ ကျွန်တော်မျိုးမသည် ယခုချိန်ကစပြီး အရှင်မင်းကြီးကို ဖူးမြော်ခွင့်မရတော့ပါ။ ကျွန်တော်မျိုးမ၌ အပြစ်တစ်စုံတစ်ရာရှိလျှင် သည်းခံတော်မူပါ"

ဟု ပြောဆိုငိုကြွေးမြည်တမ်းကာ အိမ်တော်သို့ ပြန်လေသည်။

ထိုအချိန်မှစ၍ မင်းကြီးအား အစာအာဟာရ မရှိတော့ချေ။ မင်းကြီးသည် လူးလာတုံ့ခေါက် စင်္ကြံလျှောက်လျက် မိမိရရှိသော သောတာပတ္တိဖလသမာပါတ် ချမ်းသာဖြင့်သာ မျှတနေတော်မူရှာသည်။

ထိုဖလသမာပါတ်ကို မပြတ်ဝင်စားသောကြောင့် မင်းကြီး၏ကိုယ်ခန္ဓာသည် အလွန့်အလွန် တင့်တယ်၍နေလေသည်။

"အချင်းတို့၊ ငါ၏ခမည်းတော်သည် ဘယ်လိုနည်းဖြင့် မျှတနေပါသနည်း"

အဇာတသတ်က မေးမြန်းစုံစမ်းပြန်သည်။

"အရှင်မင်းမြတ်…ခမည်းတော်မင်းတရားကြီးသည် လူးလာခေါက်ပြန် စင်္ကြံသွားခြင်းဖြင့် မျှတနေတော်မူပါသည်။ ခမည်းတော်မင်းကြီး၏ ခန္ဓာကိုယ်သည်လည်း ရှေးကထက်သာလွန်တင့်တယ်နေပါသည်ဘုရား"

ထိုအခါ အဇာတသတ်သည် ခမည်းတော်၏ စင်္ကြံသွားခြင်းကို ပယ်ရှားအံ့ဟု ကြံစည်ပြီးလျှင်-

"ငါ၏ခမည်းတော် ခြေဖဝါးတို့ကို သင်ဓုန်းဓားဖြင့် မွှန်း၍ ဆီနှင့်ဆားဖြင့် လိမ်းသုတ်နယ်ပြီးလျှင် မီးလျှံရဲရဲညီးညီးသော ရှားမီးကျီးဖြင့် ကင်ကြကုန်လော့"

ဟု ဆတ္တာသည်တို့ကို စေခိုင်းကြလေသည်။

ဗိမ္ဗိသာရမင်းကြီးသည် ဆတ္တာသည်တို့ကို မြင်ရလျှင်-

"ကေန်ပင် ငါ၏သားတော်ကို တစ်ဦးတစ်ယောက်က အမြင်မှန်ရအောင် ပြုလုပ်ပြောဆိုသည်ဖြစ်လိမ့်မည်။ သို့အတွက် ဆတ္တာသည်တို့ ငါ၏မုတ်ဆိတ်များကို ပယ်ရိတ်ပြုပြင်ရန် လာရောက်ကြကုန်သည်ဖြစ်လတ္တံ့" ဟု ကြံစည်စဉ်းစားမိလေသည်။

ဆတ္တာသည်တို့သည် မင်းကြီးအနီးသို့ သွားရောက်ကြပြီးလျှင် မင်းကြီးကို ရှိခိုးကာ

ရပ်တည်နေကြသည်။

"အဘယ်ကိစ္စအတွက် လာကြပါသနည်း"

မင်းကြီးက မေးသည်။ ဆတ္တာသည်တို့က အကြောင်းစုံအမိန့်မှာကြားသည်ကို လျှောက်ထားကြသည်။

"မောင်မင်းတို့ စိတ်အလိုရှိတိုင်းပြုကြပါလော့"

မင်းကြီးက ခွင့်ပြုစကားမိန့်ကြားသည်။

"အရှင်မင်းကြီး ထိုင်တော်မူပါဘုရား"

ဆတ္တာသည်တို့က လျှောက်ထားပြီး မင်းကြီးကို ရှိခိုးကန်တော့ကြသည်။

"အရှင်မင်းမြတ်...ကျွန်ုပ်တို့သည် အဇာတသတ်မင်း အာဏာတိုင်းပြုကြရပါကုန်၏။ အရှင်မင်းကြီး ကျွန်ုပ်တို့ကို အမျက်မထွက်ပါလင့်။ ဤအမှုသည်ကား အရှင်မင်းကြီးကဲ့သို့သော တရားမင်းတို့အား လားလားမျှ မလျောက်ပတ်ပါ"

ဤသို့လျှောက်ထားပြီး လက်ဝဲလက်ဖြင့် ဖမျက်ကို မြဲစွာကိုင်၍ လကျ်ာလက်ဖြင့် သင်စုန်းဓားကိုကိုင်ပြီးလျှင် မင်းကြီး၏ခြေဖဝါးအပြင်တို့ကို မွန်းပြီး ဆီနှင့်၊ ဆားနှင့် လိမ်းသုတ်နယ်ကြပြီး ရှားမီးကျီး၌ ကင်ကြလေသည်။

(ဗိမ္ဗိသာရမင်းကြီး၏ ဤအကုသိုလ်အကျိုးသည်ကား ရှေးဘဝတစ်ခုသောဘဝဝယ် စေတီတော်ရင်ပြင်၌ ဖိနပ်စီးလျှက်သွားခဲ့သည်။ ထိုင်နေရန် ခင်းထားအပ်သော ဖျာသင်ဖြူးကိုလည်း မဆေးကြောသော ခြေတို့ဖြင့် နင်းခဲ့ဖူးသော အကုသိုလ်ကံကြောင့် ဖြစ်သည်။)

မင်းကြီးသည် ပြင်းထန်သောဝေဒနာကို ခံစားရင်း-

"မြတ်စွာဘုရား၏ဂုဏ်တော်သည် အံ့ဩဖွယ်ရှိပါပေစွ၊ တရားတော်၏ဂုဏ်တော်သည် အံ့ဩဖွယ်ရှိပါပေစွ၊ သံဃာတော်၏ဂုဏ်တော်သည် အံ့ဩဖွယ်ရှိပါပေစွ"

ဟု ရတနာသုံးပါး၏ဂုဏ်ကို အာရုံပြု၍သာနေသည်။ နိပ်စက်သူ သားအပေါ် လုံးဝအမျက်မထားခဲ့ချေ။

မင်းကြီးသည် ထိုသည်းစွာသောဝေဒနာကို ခံစားရင်း ရတနာသုံးပါးဂုဏ်ကို အာရုံပြုရင်း စေတီရင်ပြင်ဝယ် စွန့်ပစ်အပ်သော ပန်းကဲ့သို့ ခြောက်သွေ့ညှိုးနွမ်းသော စတုမဟာရာဇ်ပြည်ဝယ် ဝေဿဝဏ်နတ်မင်းကြီး၏ အခြွေအရံ အလုပ်အကျွေး 'နေဝသဘ'မည်သော နတ်ဘီလူး စစ်မှူးကြီး ဖြစ်လေတော့သည်။

ခမည်းတော်မင်းကြီး နတ်ရွာစံသောနေ့မှာပင် အဇာတသတ်မင်း၏မိဖုရားမှ ဥဒယဘဒ္ဒအမည်ရမည့် သားတော်ငယ် မွေးဖွားလာသည်။ သားတော်မွေးဖွားကြောင်းနှင့် ခမည်းတော်

နတ်ရွာစံကြောင်း လျှောက်ကြားလွှာနှစ်စောင်တို့သည် သက်ဆိုင်ရာအိမ်တော်ဝန်၊ ထောင်ဝန်တို့ထံမှ နန်းတော်သို့ တစ်ချိန်တည်း ရောက်လာသည်။

ဘုရင့်အပါးတော်မြဲ အမတ်တို့သည်-

"သားတော် ဖွားမြင်ကြောင်း လျှောက်ကြားလွှာကို ရှေးဦးစွာဆက်သမှ သင့်လျော်မည်" ဟု တိုင်ပင်ညီညွတ်ကြပြီးလျှင် ထိုမင်္ဂလာသတင်းကို အဇာတသတ်မင်းထံ ဆက်သကြသည်။

ထိုလျှောက်ကြားလွှာကို ဖတ်ကြားရသောခဏမှာပင် အဇာတသတ်မင်းအား သား၌ချစ်ခြင်းပြင်းစွာဖြစ်ကာ တစ်ကိုယ်လုံး ချောက်ချားစေလျက် ရိုးတွင်းချဉ်ဆီကို ခိုက်၍တည်လေသည်။

ထိုခဏမှာပင်-

"ငါဖွားမြင်သောအခါကလည်း ငါ့ခမည်းတော် စိတ်သန္တာန်ဝယ် ဤနည်းအတိုင်းပင် သား၌ချစ်ခြင်းပြင်းစွာ ဖြစ်ပေလိမ့်မည်"

ဟု အောက်မေ့ကာ ခမည်းတော်ကျေးဇူးကို သတိရသိရှိလေသည်။

"အချင်းတို့ သွားကြကုန်လော့။ ငါ၏ခမည်းတော်ကို လွှတ်လိုက်ကြကုန်လော့" ဟု အရေးတကြီး အမိန့်ထုတ်ဆင့်လိုက်လေသည်။

"အရှင်မင်းကြီး အဘယ်မှာ လွှတ်နိုင်ပါတော့အံ့နည်း"

အမတ်တို့က ဤသို့လျှောက်ထားပြီး ခမည်းတော် နတ်ရွာစံကြောင်း လျှောက်လွှာကို မင်းထံသို့ ဆက်သကြသည်။

အဇာတသတ်မင်းသည် ခမည်းတော် နတ်ရွာစံကြောင်း ကြားသိရလျှင် သည်းစွာငိုကြွေးလျက် မယ်တော်ထံသို့သွားကာ-

"မယ်တော်၊ ကျွန်ုပ်ဖွားမြင်သောအခါက ခမည်းတော် စိတ်သန္တာန်ဝယ် သား၌ချစ်ခြင်းဖြစ်ရှိပါသလော" ဟု မေးသည်။

"သားမိုက်၊ ဘယ့်နှယ်ပြောပါလိမ့်၊ သင် ငယ်စဉ်က သင့်လက်ချောင်းမှာ ခူနာပေါက်ခဲ့သည်။ ထိုအခါ အထိန်းတော်တို့က မောင့်ကို အငိုတိတ်အောင် မချော့နိုင်ကြသည့်အဆုံး၌ မောင့်ကိုပွေ့ယူကာ တရားလွှတ်တော်ရုံး အဆုံးအဖြတ်ပေးရာ၌ ထိုင်နေသော မောင့်ခမည်းတော်ထံသို့ သွားရောက်အပ်နှံကြသည်။ မောင့်ခမည်းတော်သည် ခူနာပေါက်နေသော မောင့်လက်ကို မိမိခံတွင်း၌ ငုံထားပေးသည်။ အာငွေ့ရသဖြင့် ခူနာသည် မောင့်ခမည်းတော်ခံတွင်းထဲမှာပင် ပြည်ပေါက်သွားသည်။ ထိုအခါ ခမည်းတော်သည် မောင့်အပေါ်၌ အလွန်ချစ်မြတ်နိုးသဖြင့် သွေးပုပ်နှင့်ရောနေသောပြည်တို့ကို ထွေးမပစ်ဘဲ မောင် နိုးသွားမှာစိုးသည်

အတွက် မျိုချပစ်ခဲ့သည်။ မောင့်ခမည်းတော်သည် မောင့်အပေါ် ဤမျှ ချစ်ခင်ရှာပါသည်''

ဟု အကျယ်တဝင့် ပြောကြားရုံမက သန္ဓေတည်စဘဝအခြေအနေကိုပါ ပြောပြသည်။ အဇာတသတ်မင်းသည် သည်းစွာ ငိုကြွေးမြည်တမ်း၍ ခမည်းတော်ဈာပနကို ကောင်းစွာ သင်္ဂြိုဟ်ဆောင်ရွက်လေသည်။

အဇာတသတ်သည် ဖခင်ကို ကောင်းမွန်စွာ သင်္ဂြိုဟ်ပြီးနောက် ဆရာဒေဝဒတ်ကို ဆရာတင်မှုကို မစွန့်လွှတ်သေးချေ။

ဆရာဒေဝဒတ်က ဘုရားရှင်ကိုသတ်ရန် လေးသမားတို့ကို တောင်းသောအခါ လေးသမားတို့ကို ပေးခဲ့သည်။

နာဠာဂီရိဆင်နှင့်တိုက်သတ်ရန် စီမံသောအခါတွင်လည်း ဆင်သမားနှင့် နာဠာဂီရိဆင်ကို ပေးခဲ့သည်။

ထိုအခါ လူများအပေါင်းသည် ဗိမ္ဗိသာမင်းကြီးကို ဒေဝဒတ်သည် သတ်အပ်စေအပ်ပြီ။ လေးသည်လူသတ်သမား၊ ကျောက်တုံးပစ်ချမှု၊ နာဠာဂီရိဆင်လွှတ်မှုတို့ကို ဒေဝဒတ်သည်ပင် စေလွှတ်အပ်ပြီး သို့စင်ကလောက် ယုတ်မာသောပုဂ္ဂိုလ်ကို အဖော်သဟဲ ဆရာတစ်ဆူပြုလုပ်ကာ အဇာတသတ်မင်းသည် လှည့်လည်ဘိ၏။

ဤသို့ အုတ်အုတ်ကျက်ကျက် ဆူဆူညံညံ ရှုတ်ချပြစ်တင်သောအသံတို့ကို လူတို့က ပြောလာကြသည်။ ထိုအခါကျမှ အဇာတသတ်သည် ရှင်ဒေဝဒတ်အား တည်ထားသော ဆွမ်းအုပ်ငါးရာတို့ကို မပို့တော့ချေ။ ဒေဝဒတ်ထံသို့လည်း မသွားတော့ချေ။

အဇာတသတ်သည် ဘုရားရှင်၏ဆွေးငြောင့်သဖွယ်ဖြစ်သော ဒုဿီလ ရှင်ဒေဝဒတ်ကို ချီးမြှောက်အားပေးခြင်း ဒေဝဒတ်စကားကို လိုက်နာ၍ သောတာပန်အရိယာဖြစ်သော ဖခင်ကို သတ်ခြင်းကြောင့် မိမိ၏ ဤဘဝရရှိမည့် သောတာပတ္တိမဂ်၏ အထောက်အပံ့ကောင်းမှုကို ဖျက်ဆီး၍ ကြီးစွာသောပျက်စီးခြင်းသို့ ရောက်ခဲ့ရလေသည်။

ရှင်ဒေဝဒတ်သည် နောက်ဆုံးတွင် သွေးအံ၍ မြေမျိုခံရသောအခါ အဇာတသတ်မင်းသည် ထိုသတင်းကိုကြားရပြီး ငါ့ကိုလည်း မြေမျိုလိမ့်မည်လားဟု ကြောက်ရွံ့ထိတ်လန့်ကာ မင်းစည်းစိမ်ကို မြိန်ရှက်စွာ မခံစားနိုင်တော့ချေ။

အိပ်စက်ရာ၌လည်း သက်သာမှု၊ ချမ်းသာမှု မရတော့ချေ။ ထက်မြက်စူးရှသော သံတံချွန်ဖြင့် ထိုးဆွအပ်သော ဆင်ငယ်ကဲ့သို့ တဖျပ်ဖျပ် တုန်လှုပ်ချောက်ချားကာ သွားလာနေထိုင်ရသည်။

မြေကြီးကွဲလာမည်လား၊ အဝီစိငရဲမှ ငရဲမီးလျှံများထွက်လာသကဲ့သို့လည်းကောင်း၊

မြေကြီးက မိမိကို မျိုတော့မည်လားကဲ့သို့လည်းကောင်း၊ မိမိကို ငရဲထိန်းတို့က ရဲရဲတော
သော သံမြေပြင်၌ ပက်လက်အိပ်စေကာ သံတံကျင်ဖြင့် ထိုးဆွသကဲ့သို့လည်းကော
အမြဲတစေ ထင်မြင်နေလေသည်။

သို့အတွက် အဇာတသတ်မင်းအဖို့ ရိုက်နှက်ခံထားရသော ကြက်ပမာ တဖျပ်ဖျ
တုန်လှုပ်လျက် တစ်ခဏမျှ ဆောက်တည်ရာကိုမရဘဲ ရှိနေလေသည်။

မြတ်စွာဘုရားထံ ချဉ်းကပ်လိုသော်လည်း မိမိအပြစ်ကြောင့် မချဉ်းကပ်ဝံ့ချေ။

ရာဇဂြိုဟ်ပြည် တန်ဆောင်မုန်းလပြည့်နေ့ နက္ခတ်ပွဲသဘင် ဆင်ယင်ကျင်းပနေချိန်ဝယ်
ညချမ်းအချိန်ဝယ် အဇာတသတ်မင်းသည် ဆရာဇီဝကအားကိုးဖြင့် ဇီဝကဥယျာဉ်တွင် သီတင်
သုံးနေသော ဘုရားရှင်ထံသို့ ဆင်မယဉ်သာ ငါးရာခြံရံပြီး ဆရာဇီဝက,က ဦးဆောင်စေပြီ
သွားရောက်ဖူးမြော်ခွင့်ရခဲ့သည်။

ဘုရားရှင်ထံတွင် အဇာတသတ်မင်းသည် သာမညဖလသုတ်ကို ကြားနာရပြီးနောက်
ရတနာသုံးပါး၌ ကြည်ညိုသော ဆည်းကပ်သော ဥပါသကာ ဖြစ်လာခဲ့ရလေသည်။

အဇာတသတ်မင်းသည် အဖသတ်သော ကံသာမရှိလျှင် ဤသာမညဖလသုတ် ကြားနာ
ရသောအချိန်ဝယ် သောတာပတ္တိမဂ်သို့ ဆိုက်ရောက်ရာသည်။ အဖကိုသတ်မိ၍ ထိုအခွင့်အရေး
ဆုံးရှုံးခဲ့ရလေသည်။

အဇာတသတ်မင်းသည် ဘုရားရှင်ထံမှ သာမညဖလတရားကို ကြားနာရပြီးနောက်
နေ့နေ့ညဥ့်ညဥ့် ချမ်းသာစွာ အိပ်စက်ခွင့်ရလေသည်။

ရတနာသုံးပါးကိုလည်း ကြီးစွာသောပူဇော်မှုကိုပြုလေသည်။ အဇာတသတ်မင်းနှင့်
တူသော ပုထုဇဉ်သန္တာန်၌ဖြစ်သည့် သဒ္ဓါတရားနှင့်ပြည့်စုံသော အခြားလူမရှိချေ။

ဘုရားရှင်၌ သူမတူသော သဒ္ဓါတရားရှိခဲ့မှုကြောင့် အဇာတသတ်မင်းသည် သားတော်
ဥဒယဘဒ္ဒက လုပ်ကြံသတ်ဖြတ်၍ နတ်ရွာစံသောအခါဝယ် အဝီစိငရဲသို့ မကျရောက်တော့
ဘဲ လောဟကုမ္ဘိငရဲတွင် အဇာတသတ်သည် အနှစ်သုံးသောင်းကြာအောင်မြုပ်ပြီး တဖန်
အနှစ်သုံးသောင်းကြာအောင် အပေါ်၌ခံစားရကာ အနှစ်ခြောက်သောင်းပြည့်သော် ထိုငရဲမှ
လွတ်မည်။

ထို့နောက် ဝိဇိတာဝီမည်သော ပစ္စေကဗုဒ္ဓါဖြစ်၍ ပရိနိဗ္ဗာန်စံမည်။

## မြေမျိုခံရသော ဒေဝဒတ်

ရှင်ဒေဝဒတ်သည် ဒေဝဒဟပြည် သုပ္ပဗုဒ္ဓဘုရင်၏သားတော် ယသော်ဓရာမင်းသမီး၏ မောင်တော် ဖြစ်သည်။

ဘုရားရှင် ကပ္ပိလဝတ်ကြွပြီးနောက် သာကီဝင်မင်းသားခြောက်ဦးတို့ ဆတ္တာသည်ဥပါလိနှင့်အတူ ဘုရားနောက်သို့လိုက်ပြီး ရဟန်းပြုကြရာတွင် ဒေဝဒတ်ပါခဲ့သည်။ ထိုမင်းသားညီနောင်တို့တွင်-

ဘဒ္ဒိယသည် တေဝိဇ္ဇရဟန္တာ ဖြစ်သည်။

အရှင်အနုရုဒ္ဓါသည် ဒိဗ္ဗစက္ခုအဘိညာဉ်ရ ရဟန္တာဖြစ်သည်။

အရှင်အာနန္ဒာသည် သောတာပတ္တိဖိုလ်၌တည်သည်။

အရှင်ဘဂုမထေရ်နှင့် ကိမိလမထေရ်တို့သည် အရဟတ္တဖိုလ်သို့ ရောက်သည်။

အရှင်ဒေဝဒတ်သည် ပုထုဇဉ်ရဟန်းအဖြစ်ဖြင့်ပင် လောကီအဘိညာဉ်ကိုရသည်။

ထို့နောက် ဒေဝဒတ်သည် ဘုရားရှင်ကောသမ္ဘီပြည်၌ သီတင်းသုံးစဉ် အခြားရှင်သာရိပုတ္တရာ၊ ရှင်မောဂ္ဂလာန်၊ ရှင်အာနန္ဒာတို့ကို မေးသူ၊ လှူသူများရှိပြီး မိမိတွင်မူ မည်သူမျှ ခေါ်ပြောမည့်သူမရှိ၍ ဒါယိကာသစ်ရှာရန် ကြံစည်ခဲ့သည်။

ထို့နောက် မင်းသားငယ်မျှဖြစ်သော အဇာတသတ်မင်းကို ရှာ၍ အဘိညာဉ်တန်ခိုးဖြင့် မြွေယောင်ဆောင်ပြီး ပြသသည်။ နောက် အဇာတသတ်မင်းသား ကြည်ညိုမှုကို ရခဲ့သည်။ ဘုရားတစ်ဆူလုပ်ရန် ဆုံးဖြတ်ခဲ့သည်။ ထိုအချိန်မှစ၍ လောကီစျာန်တို့ ကွယ်ခဲ့သည်။

ထိုမင်းသားကို မင်းဖြစ်ရန် ဖခင်ဘုရင် ဗိမ္ဗိသာရကို သတ်ခိုင်းခဲ့သည်။ မိမိကိုယ်တိုင်လည်း ဘုရားရှင်ထံဝင်ကာ ဘုရားရှင်၏သံဃာတော်များကို မိမိအား လွှဲအပ်ရန် တောင်းသည်။ ဘုရားရှင်က သာရိပုတ္တရာ၊ မောဂ္ဂလာန်တို့ကိုသော်မှ ရဟန်းသံဃာကို မလွှဲအပ်၊ တံတွေးနှင့်တူသောပစ္စည်းများကို သုံးဆောင်ကာ ယုတ်မာသော သင့်အား အဘယ်ကြောင့် လွှဲအပ်ရအံ့နည်းဟု မိန့်ကြားရာမှ ဘုရားရှင်အပေါ်၌ ပထမအကြိမ် ရန်ငြိုးဖွဲ့ခဲ့သည်။

ဘုရားရှင်သည် ဒေဝဒတ်ကို ရာဇဂြိုဟ်ပြည်၌ ပကာသနိယကံ ပြုစေသည်။

အဇာတသတ်မင်းသားသည် ဒေဝဒတ်၏ အကြံပေးချက်ဖြင့် ဖခင်ကို သတ်ခဲ့သည်။

ရှင်ဒေဝဒတ်သည် အဇာတသတ်နှင့်ပေါင်းပြီး ဘုရားရှင်ကိုသတ်ရန် ကြိုးစားသည်။

ပထမ အဇာတသတ်၏ လေးသည်ကျော်များ စေလွှတ်ပြီး သတ်ခိုင်းသည်။

ပထမ အဇာတသတ် နာဠာဂီရိဆင်ကို အရက်တိုက်ပြီး သတ်ခိုင်းသည်။

ဒုတိယ အဇာတသတ် နာဠာဂီရိဆင်ကို အရက်တိုက်ပြီး စကြံသွားနေသော ဘုရားရှင်

ကို သတ်ဖြတ်ရန် ကြိုးစားခဲ့သည်။

ရှင်ဒေဝဒတ်သည် ဘုရားရှင်ကို လုပ်ကြံ၍မရသောအခါ ဘုရားရှင်ထံဝင်ပြီး ရ
နှင့်ပတ်သက်သော ဝတ္ထုငါးပါးကို တောင်းသည်။ ဘုရားရှင်ကပယ်သဖြင့် သံ
သင်းခွဲခဲ့သည်။

ထိုသင်းခွဲသော သံဃာတော်များကို ရှင်သာရိပုတ္တရာနှင့် ရှင်မောဂ္ဂလာန်တို့က
ဟောပြောပြီး ပြန်ခေါ်ခဲ့ရာ ဒေဝဒတ်၏တပည့် ကောကာလိကရဟန်းက စိတ်ဆိုးပြီး
သော ဒေဝဒတ်၏ရင်ဝ (အရိုက်) ကို ဒူးနှင့်တိုက်ပြီးနှိုးရာ ဒေဝဒတ် သွေးအံရ

ဒေဝဒတ်သည် ကိုးလကြာ မကျန်းမမာဖြစ်ကာ နောက်ဆုံးအချိန်ဝယ် ဘုရ
ဖူးမြော်လိုသည်ဖြစ်၍ ဘုရားရှင်ထံပို့ပေးရန် မိမိ၏တပည့်များကို တောင်းပန်သ

တပည့်များက ပထမ မပို့ပေးကြပေ။ အတန်တန်တောင်းပန်မှ တပည
ညောင်စောင်းငယ်ဖြင့် ထမ်းယူပြီး ရာဇဂြိုဟ်မှ သာဝတ္ထိ ဇေတဝန်ကျောင်းသို့လာခဲ့

ရှင်ဒေဝဒတ်လာကြောင်း သတင်းစကားကြားရ၍ ရဟန်းတို့က ဘုရားရှင်ကို
ထားကြသည်။

"ဒေဝဒတ်သည် ယခုဘဝ၌ ထိုကိုယ်ဖြင့် ငါဘုရားကို ဖူးမြော်ခွင့် လုံးဝ မရ
ဟု မိန့်ကြားသည်။

ဒေဝဒတ် ခရီးစဉ် နီးလာတိုင်း၊ နီးလာတိုင်း ရဟန်းတို့က ဘုရားရှင်ကို ရှင်
ဆယ်ယူဇနာခရီး ရောက်နေပါပြီဟု လျှောက်ကြသည်။ ဘုရားရှင်က-

"ဒေဝဒတ်ကား ငါဘုရားကို ဘယ်နည်းနှင့်မျှ ဖူးမြော်ခွင့်ရလိမ့်မည်မဟု
ဟူ၍သာ မိန့်ကြားခဲ့သည်။

ဒေဝဒတ်ကို သယ်ဆောင်လာသော ရဟန်းတို့သည် ဇေတဝန်ကျောင်းအနီး ရေ
ရေချိုးလိုသော ဆန္ဒဖြစ်ပေါ်၍ ခေတ္တချပေးရန် ပြောသည်။ တပည့်များက ချ

ဒေဝဒတ် ခြေထောက် မြေသို့ချကာမျှပင် သူ၏ခြေများသည် မြေကြီးအ
ဆွဲငင်၍မရလောက်အောင် ဝင်သွားကြလေသည်။

ဤသို့ မြေမျို၍ မေးရိုးမြေသို့ဝင်မည့်ဆဲဆဲတွင် ဘုရားရှင်ကို အောက်ပါအတိ
ရှိခိုးသည်-

"သေချိန်နီးကပ် ကျွန်ုပ် ဒေဝဒတ်သည် ဤအရိုးတို့ဖြင့်လည်းကောင်း၊ ဤ
သေးသော အသက်ဖြင့်လည်းကောင်း လောကဝယ် အမြတ်ဆုံးပုဂ္ဂိုလ်ဖြစ်တော်မူသေ
နတ်၊ ဥပပတ္တိနတ်တို့ထက် မြင့်မြတ်ထွန်းပြောင် အခေါင်ဥက္ကဋ္ဌ ဝိသုဒ္ဓိနတ်ဖြစ်တော်

ဆုံးမသင့်သူ၊ နတ်လူဗြဟ္မာသတ္တဝါတို့ကို ဓမ္မရေအေး အမြိုက်ဆေးဖြင့် တိုက်ကျွေးပြီး ယဉ်ကျေးအောင် ဆုံးမတော်မူတတ်သော သဗ္ဗညုတဉာဏ်တော်နှင့်လည်း ကောင်းစွာ ပြည့်စုံထသော အရာမကများလှဘိတောင်း၊ ကုသိုလ်ပေါင်းကြောင့် မငြောင်းရှုဖွယ် လွန်တင့်တယ်သည့် ကြီးငယ်နှစ်ဖြာ မဟာပုရိသလက္ခဏာတို့နှင့် ပြည့်စုံတော်မူထသော ထိုသဗ္ဗညုမည်ရ သုံးလောကထွဋ်ထား မြတ်ဘုရားကို ကိုးကွယ်ဆည်းကပ်ရာဟူ၍ တပည့်တော်သည် မြတ်သော စိတ်ဖြင့် ဖိတ်ဖိတ်ကြည်ရွှင် သက်ဝင်ဆည်းကပ် သိမှတ်ပါ၏ဘုရား''

ဤဂါထာကို ရွတ်ဆိုရှိခိုးပြီးနောက် မြေသို့ဝင်ကာ မဟာအဝီစိငရဲ၌ ဖြစ်ရလေတော့သည်။

ဒေဝဒတ်သည် မတုန်မလှုပ်သော ဘုရားရှင်၌ ပြစ်မှားမိခဲ့သောကြောင့် မတုန်မလှုပ်ငရဲ၌ဖြစ်ရသည်မှာ-

''ယူဇနာတစ်ရာ ကျယ်ပြန့်သော မဟာအဝီစိငရဲကြီး၌ ရှင်ဒေဝဒတ်၏ကိုယ်သည် ယူဇနာတစ်ရာအမြင့် ရှိသည်။ ဦးခေါင်းသည် နားနှစ်ဖက်တိုင်အောင် အထက်သံအိုးကင်းထဲ၌ ဝင်၍နေသည်။ ခြေနှစ်ဖက်တို့သည် ဖမျက်တိုင်အောင် အောက်ရဲရဲငြိုးသော မြေအတွင်းသို့ဝင်၍ နေသည်။ မျက်နှာအရှေ့သို့မူပြီး ရပ်ခံနေရသည်။

ထန်းလုံးခန့်ပမာဏတုတ်သော သံတံကျင်ကြီးတစ်ချောင်းသည် အနောက်မျက်နှာ ငရဲအိုးနံရံမှထွက်၍ ဒေဝဒတ်၏နောက်ကျောအလယ်တည့်တည့်ကို ဖောက်ထွင်ပြီးလျှင် ရှေ့ရင်ဝမှထွက်၍ အရှေ့ဘက်မျက်နှာ ငရဲအိုးနံရံအိုးသို့ဝင်သည်။ အခြားသံတံကျင်ကြီးတစ်ချောင်းသည် တောင်မျက်နှာငရဲအိုးနံရံမှထွက်၍ ဒေဝဒတ်၏လက်ျာနံပါးကို ဖောက်ထွင်းပြီးလျှင် လက်ဝဲနံပါးမှထွက်၍ မြောက်မျက်နှာ ငရဲအိုး၏နံရံသို့ဝင်သည်။

အခြားသံတံကျင်ကြီးတစ်ချောင်းသည် ငရဲအိုး၏ အထက်သံမိုး (သံအိုးကင်း)မှထွက်၍ ဒေဝဒတ်၏ဦးထိပ်တည့်တည့်သို့ ဖောက်ထွက်ပြီး အောက်ဒွါရမှထွက်၍ ငရဲအိုး အောက်သံမြေပြင်သို့ ဝင်သည်။

ဒေဝဒတ်သည် ဤသို့လျှင် အဝီစိငရဲ၌ မလှုပ်မယှက် ဒုက္ခဝေဒနာကို ခံစားနေရသည်။''

* * *

## မြေမျိုခံရစိဥ္စမာန ဝိကပရဗိုဇ်မ

ဘုရားရှင်သည် ဝါတော် (၂၀)တွင် တပည့်သားသာဝကများ တစ်နေ့တခြား တိုးပွားလာသကဲ့သို့ ဘုရားရှင်နှင့်တကွ သံဃာတော်များအား ကြီးစွာသော လာဘ်လာဘတို့သည် ဖြစ်ပေါ်လာခဲ့သည်။ တိတ္ထိတို့အား လာဘ်လာဘသည် ဆုတ်ယုတ်လာခဲ့သည်။ နေဝန်းပေါ်လာသောအခါ ပိုးစုန်းကြူးတို့ အရှိန်အဝါ ကွယ်ပျောက်သကဲ့သို့ ဖြစ်သည်။

ထိုတိတ္ထိတို့သည် လာဘ်ပူဇော်သက္ကာရ ဖြစ်ပွားပေါ်ပေါက်စေရန် ရည်သန်ပြီး လမ်းခရီးကြား၌ ရပ်ပြီးလျှင် လူအပေါင်းတို့ကို-

"ဒါယကာတို့၊ ရဟန်းဂေါတမသာ ဘုရားစစ်စစ်ဖြစ်သလော၊ ငါတို့သည်လည်း ဘုရားစစ်စစ် ဖြစ်ကုန်၏။ ရဟန်းဂေါတမကို လှူသောအလှူသာ အကျိုးကြီးသည်မဟုတ်။ ငါတို့အား လှူသောအလှူသည်လည်း အကျိုးကြီးပါသည်။ သို့အတွက် ငါတို့အားလည်း လှူကြပါ၊ ကုသိုလ်ပြုကြပါဟု တောင်းပန်စကား ပြောကြားပါသည်။

သို့သော်လည်း တိတ္ထိတို့အား လာဘ်လာဘသည် ဆုတ်ယုတ်သည်ထက် ဆုတ်ယုတ်လာသည်။ သို့အတွက် တိတ္ထိတို့သည် တိတ်တဆိတ် ဆွေးနွေးကြသည်။

ထိုအချိန်ဝယ် တိတ္ထိတို့၏တပည့်မ စိဥ္စမာနဝိကအမည်ရှိသော ပရဗိုဇ်မတစ်ယောက်ရှိသည်။ သူမသည် မန်ကျည်းပင်၌ သံသေဒဇပဋိသန္ဓေတည်ခဲ့သူဖြစ်၍ မန်ကျည်းပင်သန္ဓေသူမျိုး (စိဥ္စမာဏဝိကဟု ခေါ်ခဲ့သည်) သူမသည် နတ်သမီးတမျှဖြစ်သော တင့်တယ်သောအဆင်းရှိသည်။ သူမ၏ကိုယ်မှအရောင်များ တဖျပ်ဖျပ် ထွက်ပေါ်ကွန့်မြူးလျက် ရှိသည်။

တိတ္ထိတို့ ဆွေးနွေးတိုင်ပင်ကြသောအခါ ထိုပရပိုဇ်မကို အသုံးပြုပြီး ရဟန်းဂေါတမမကောင်းသတင်းလွှင့်ထုတ်ပြီး လာဘ်လာဘဆုတ်ယုတ်စေရန် စီမံချက်ချကြသည်။

တစ်နေ့ စိဥ္စမာဏဝိကသည် မိမိ၏ဆရာဖြစ်သော တိတ္ထိတို့၏ကျောင်းသို့သွားပြီး ဆရာတို့ကို ရှိခိုးဝပ်ချသည်။ တိတ္ထိဆရာတို့က စကားမပြောဘဲနေကြသည်။

စိဥ္စမာဏဝိကသည် ငါ့မှာ ဘာများအပြစ်ရှိလို့ပါလိမ့်လဲဟုကြံကာ-

"အရှင်တို့၊ အရှင်တို့အား ရိုသေမြတ်နိုးရှိခိုးပါ၏"

ဟု သုံးကြိမ်ပြောသည်။

"အရှင်တို့၊ ကျွန်ုပ်မှာ မည်သို့သောအပြစ်ရှိပါသနည်း။ အဘယ်အကြောင်းကြောင့် တပည့်တော်ကို စကားမပြောဘဲ နေပါသနည်း" ဟုမေးသည်။

"နှမ စိဥ္စမာဏဝိက...ငါတို့ကို ရဟန်းဂေါတမက နှိပ်စက်ညှဥ်းပန်းကာ လာဘ်လာဘ ခေါင်းပါးအောင် ပြုလုပ်နေသည်ကို သင် မသိသလော"

"အရှင်တို့၊ ထိုအကြောင်းကို တပည့်တော်မ မသိရပါ။ ဤကိစ္စ၌ တပည့်တော်မည်သို့ ဆောင်ရွက်ပေးရပါမည်နည်းဘုရား"

"နှမ စိဉ္စမာဏဝိက...သင်သည် ငါတို့ချမ်းသာရေးကို အလိုရှိလျှင် မိမိကိုယ်ကို အစွဲပြု၍ ရဟန်းဂေါတမ၏မကောင်းသတင်းကို ဖြစ်စေပြီးလျှင် သူ၏လာဘ်လာဘကို ပျက်ပြားစေပါလော့"

"ကောင်းပါပြီ၊ အရှင်တို့ ဤသို့ပြုလုပ်ရန် တပည့်တော်တာဝန်ထားပါ။ အရှင်တို့ထွေရာလေးပါး ကြံမနေကြပါနဲ့။ တပည့်တော် ဆက်လုပ်ပါမည်"

စိဉ္စမာဏဝိကသည် ဤသို့လျှင် ရဲရဲတောက် အာမခံပြီး တိတ္ထိတို့ အရာမ်မှ ထွက်ခွာခဲ့သည်။

စိဉ္စမာဏဝိကသည် မိန်းမမာယာ ကျွမ်းကျင်လိမ္မာသူ ဖြစ်သည်။ ထိုအချိန်မှစ၍ သာဝတ္ထိပြည်သူပြည်သားတို့ တရားနာပြီး ဇေတဝန်ကျောင်းမှထွက်သောအချိန်ဝယ် ပိုးပရံသွေး နီထွေးသောအဆင်းရှိသောအဝတ်ကို ဝတ်ရုံကာ နံ့သာပန်း စသည်လက်ဆွဲလျက် ဇေတဝန်ကျောင်းတိုက်သို့ ရှေ့ရှုသွားလေသည်။

လမ်း၌တွေ့သူတို့က-

"စိဉ္စမာဏဝိက ယခု မိုးကြီးချုပ်မှ ဘယ်ကိုသွားမည်နည်း" ဟု မေးကြသည်။

"ကျွန်မ သွားမည့်အရပ်ကိုသိသဖြင့် သင်တို့မှာ အဘယ်အကျိုးရှိပါလဲ" ဟု ထင်ရှားဖွယ်ရာစကားကို ပြောကြား၍ ဇေတဝန်ကျောင်းအနီး တိတ္ထိတို့ကျောင်း၌ ညအိပ်သည်။

နံနက်စောစောထပြီးလျှင် သာဝတ္ထိပြည်သူပြည်သားတို့သည် ဘုရားရှင်ကို စောစောလာဖူးရန် ထွက်လာသူတို့နှင့်ဆုံမိရန်နှင့် ထိုသူတို့က မိမိကို ဇေတဝန်ကျောင်း၌အိပ်သည်ဟု ထင်စေရန် စီမံပြီး ပြန်လာလေ့ရှိသည်။ လမ်းတွင် တွေ့သူတို့က-

"သင်...ညက ဘယ်မှာအိပ်ပါသလဲ" ဟုမေးကာ-

"ကျွန်မ အိပ်သည့်နေရာကို သိသဖြင့် ဘာအကျိုးရှိပါလဲ၊ ဘာမှအကျိုးမရှိပါဘူး။ မသိချင်ပါနဲ့" ဟု ပြန်ဖြေတတ်သည်။

ဤနည်းနှင့် နေ့စဉ် သွားလာလှုပ်ရှားခဲ့ရာ လခွဲ၊ တစ်လခန့် လွန်လာသည်။ လူအများက ရှေးနည်းတူ မေးလာသောအခါ-

"ကျွန်မက ဇေတဝန်ကျောင်း ဂန္ဓကုဋီတိုက်ထဲမှာ ရဟန်းဂေါတမနှင့် ညဉ့်အိပ်နေခဲ့ရပါသည်" ဟု စွပ်စွဲစကားပြောကြားစပြုလာသည်။ လူသာမန်တို့စိတ်ဝယ် ဤအကြောင်း

သည် မှန်များမှန်လေသလော၊ မမှန်ဘဲများရှိလေသလောဟု ယုံမှားသံသယဝင်လာကြသည်။

သုံးလေးလလွန်သောအခါ ပုဆိုးကြမ်းတို့ဖြင့် ရင်ကိုပတ်ကာ မိမိကိုယ်ကို ကိုယ်ဝန်ဆောင်မိန်းမအသွင်ပြ၍ ထိုအပေါ်က နီမြန်းသောအဝတ်ကို ဝတ်ရုံကာ-

"ရဟန်းဂေါတမကို အစွဲပြု၍ ကျွန်တော်မသည် ကိုယ်ဝန်ကို ရခဲ့အပ်ပြီ" ဟု ဉာဏ်ပညာမဲ့သူ လူအပေါင်းကို စွပ်စွဲပြောကြားအယူမှားစေသည်။

ဤနည်းဖြင့် ရှစ်လလွန်သောအခါ၌ စိဉ္စမာဏဝိကာသည် တကယ်ကိုယ်ဝန်အရင့်အမာပုံဟန် ဘဲဥထက်ခြမ်းပုံ သစ်သားဝန်းကို ရင်၌ဖွဲ့ချည်ပြီးလျှင် ကိုယ်၏အထက်၌ နီမြန်းသောအဝတ်ကို ဝတ်ရုံကာ လက်ဖမိုး၊ ခြေဖမိုးတို့ကို နွားမေးရိုးဖြင့် ထုနှက်၍ ခြေလက်များအမ်းနေသည့်ဟန်ဖြင့် တူစွာ ဖန်တီးသည်။ မျက်စိ၊ နား၊ နှာ ဣန္ဒြေများ ပင်ပန်းနွမ်းနယ်နေသည့်ဟန် ပြုလုပ်ထားသည်။

ထိုသို့ ဟန်ဆောင်ပြီး ညနေချမ်းအခါဝယ် ဘုရားရှင်တရားဟောရာ ပလ္လင်ဆီသို့သွားပြီး ဘုရားရှင်ရှေ့တွင် တည့်တည့်ရပ်ကာ-

"ရဟန်းကြီး...သင်ကား လူအပေါင်းအား တရားဟောနေသည်။ သင်၏နှုတ်ခမ်းများကား စေ့စပ်လှဘိသည်။ ကျွန်မမှာတော့ သင်ရဟန်းကြီးကို စွဲ၍ ကိုယ်ဝန်ရရှိပြီး ယခုကိုယ်ဝန်သည် ရင့်မာနေလေပြီ။ သင်ရဟန်းကြီးသည် ကျွန်မအတွက် သားဖွားရန် အိမ်ကိုလည်း မစဉ်းစား၊ ထောပတ်ဆီ စသည်ကိုလည်း မစဉ်းစား၊ နေနိုင်အားဘိသည်။ ကိုယ်တိုင်မပြုနိုင်ရင်လည်း မိမိရဲ့အလုပ်ကျွေး၊ ဒါယိကာ၊ ဒါယိကာမများအနက် ကောသလမင်းကိုဖြစ်စေ၊ အနာထပိဏ်သူဌေးကိုဖြစ်စေ၊ ဝိသာခါကျောင်းအမဖြစ်စေ တစ်ဦးဦးကို ဤစိဉ္စမာဏအတွက် ပြုလုပ်သင့်သည်ကို ပြုလုပ်စောင့်ရှောက်လိုက်ပါဟု အပ်နှင်းပြောဆိုသင့်၏။ ထိုသို့လည်း မပြောကြားခဲ့။ သင်ရဟန်းကြီးကား မွေ့လျော်ပျော်ပါးဖို့ရန်ကိုသာ စဉ်းစား၍ ကိုယ်ဝန်သားကို စောင့်ရှောက်ရန်ကိုကား မစဉ်းစားသူဖြစ်၏"

ဟူ၍ မစင်တုံးကို စွဲကိုင်ကာ လဝန်းဗိမာန်ကို ဖျက်ဆီးရန် အားထုတ်သော မိန်းမကဲ့သို့ ဘုရားရှင်ကို ပရိသတ်လေးပါး၌ အကြီးအကျယ် စွပ်စွဲလေသည်။

ဘုရားရှင်သည် ဟောနေရင်းစွဲတရားကို ခေတ္တရပ်နား၍ ခြင်္သေ့မင်းကဲ့သို့ ရဲတင်းသောအသံဖြင့်-

"နှမ စိဉ္စမာန်...သင် ယခုပြောကြားအပ်သောစကား၏ မှန်သောအဖြစ်၊ မမှန်သောအဖြစ်ကို သင်နှင့်ငါတို့သာ သိကြကုန်၏" ဟု မိန့်တော်မူသည်။

"ဟုတ်ပေသည် ရဟန်းကြီး၊ သင်နှင့်ငါတို့နှစ်ဦးသာ သိကြသောကြောင့်ပင် ယခုလိုပင်

ကိုယ်ဝန်ရင့်မာမှုဖြစ်ရသည်'' ဟု ထပ်မံစွပ်စွဲပြန်သည်။

ထိုခဏမှာပင် သိကြားမင်း၏ ပဏ္ဍုကမ္ဗလာကျောက်ဖျာသည် ပူသောအခြင်းအရာကို ပြသည်။ သိကြားမင်းသည် အကြောင်းစုံကို စုံစမ်းသည်။ စိဉ္စမာန် မိန်းမယုတ်သည် ဘုရားရှင်ကို မဟုတ်မမှန်သောစကားဖြင့် စွပ်စွဲဆဲရေးသည်ကို သိရှိသည်။

ဤအကြောင်းဝတ္ထုကို လူဗိုလ်ထု ပရိသတ်အလယ်၌ စင်ကြယ်အောင် ငါဖြေရှင်းရမည်ဟု ကြံစည်ဆင်ခြင်ကာ နတ်သားလေးယောက်တို့နှင့် အတူတကွ ဘုရားရှင်တရားဟောရာဌာနသို့ ရောက်လာသည်။

နတ်သားလေးယောက်တို့သည် ကြွက်ငယ်အယောင်ဆောင်ကြ၍ စိဉ္စမာန်ဖွဲ့ချည်ထားသော သစ်သားဝန်း၏ကြိုးများကို တစ်ပြိုင်နက် ကိုက်ဖြတ်ကြသည်။ စိဉ္စမာဏဝိက ဝတ်ဆင်ထားသော အဝတ်ကိုလည်း လေသည် အထက်သို့ တိုက်လွှင့်လိုက်သည်။ သစ်သားဝန်းဖွဲ့ချည်ထားသောကြိုးများ ပြုတ်ကျသောအခါ စိဉ္စမာန်၏ခြေဖမိုးထက်၌ ကျသဖြင့် ခြေဖျားနှစ်ဖက်သွင်သွင်ကျိုးလေသည်။

''ထွီ…ဟယ်အယုတ်မ၊ နင် ဘုရားရှင်ကို စွပ်စွဲဆဲရေးဘိ၏'' ဟု ပရိသတ်တို့က ဝိုင်း၍ ဦးခေါင်း၌ တံတွေးထွေးကြပြီးလျှင် ခဲ၊ တုတ်တို့ဖြင့် ပစ်ခတ်ပြီး လက်ဆွဲလျက် စိဉ္စမာန်ကို ဇေတဝန်ကျောင်းဝင်းအတွင်းမှ ဆွဲထုတ်ကြသည်။

စိဉ္စမာန်သည် ဘုရားရှင် မျက်စိမြင်ဆုံးသောအရပ်သို့ရောက်လျှင် မဟာပထဝီမြေကြီးသည် ကွဲ၍ အပေါက်ဖြစ်လာသည်။ ထိုအပေါက်မှ မီးလျှံများတက်လာသည်။ ထိုမီးလျှံသည် စိဉ္စမာန်ကို ကမ္ဗလာနီခြုံသကဲ့သို့ ရစ်ပတ်ခြုံယူပြီး အဝီစိငရဲသို့ သယ်ဆောင်သွားလေသည်။

* * *

## မြေမျိုခံရသူ့ပ္ပဗုဒ္ဓ သကျမင်း

မြတ်စွာဘုရားရှင်သည် သက္ကတိုင်း၊ ကပိလဝတ်ပြည် နိဂြောဓာရုံကျောင်း၌ သီတင်းသုံးနေချိန် ဖြစ်သည်။

ထိုအချိန်တွင် ဦးရီးတော် သုပ္ပဗုဒ္ဓသာကီဝင်မင်းသည်-

''ဤငါ၏တူ သိဒ္ဓတ္ထမင်းသား ဂေါတမမြတ်စွာဘုရားသည် ငါ၏သမီးတော် ယသော်ဓရာကို စွန့်ပစ်ထားခဲ့၍ တောလည်းထွက်ခဲ့ပြီ၊ ငါ၏သား ဒေဝဒတ်ကို ရဟန်းပြုပေးပြီးနောက် ငါ၏သားကိုလည်း ရန်သူအရာ၌ထားခဲ့လေသည်။''

ဟုဆိုပြီး ဘုရားရှင်အပေါ်၌ ရန်ငြိုးဖွဲ့ခဲ့လေသည်။

"ယခုအခါ သိဒ္ဓတ္ထမင်းသား ငါ့တူဘုရားအား ဆွမ်းစားပင့်ဖိတ်ကာ အရပ်သို့ သွားရောက်၍ စားသောက်ခြင်းငှာ အခွင့်အလမ်းကို ငါ မပေးတော့ပြီ"

သုပ္ပဗုဒ္ဓသည် ဤသို့ကြံစည်ပြီးလျှင် ဘုရားရှင်ကြွလာမည့်လမ်းကို တမင်ပိတ်ဆို့၍ လမ်းခရီးကြား၌ သေအရက်ကို သောက်စား၍ နေနှင့်လေသည်။

ထိုအချိန်တွင် ဘုရားရှင်သည် ရဟန်းအပေါင်း ခြံရံလျက် ထိုအရပ်သို့ ကြွတော်မူလေသည်။

ဘုရားရှင် ကြွလာသည်ကို သုပ္ပဗုဒ္ဓ၏မင်းချင်းတို့က မြင်၍-

"အရှင်မင်းမြတ်၊ ဘုရားရှင် ကြွလာတော်မူပါပြီ" ဟု လျှောက်ထားအကြောင်းကြားကြလေသည်။

"အချင်းတို့၊ ထိုသိဒ္ဓတ္ထမင်းသား ငါ့တူ ဘုရားကို အခြားလမ်းကသွားဟု ပြောလိုက်ကြ၊ ဤသိဒ္ဓတ္ထမင်းသားသည် ငါ့ထက် အသက်ကြီးသူမဟုတ်ချေ။ သို့အတွက် ငါ့တူသိဒ္ဓတ္ထမင်းသား သွားရန်လမ်းကို ငါ မဖယ်ပေးနိုင်ချေ" ဟု ရင့်ရင့်သီးသီး ပြောဆိုလိုက်လေသည်။

မင်းချင်းတို့က ထပ်ကာတလဲလဲ လျှောက်ထားသော်လည်း နားမထောင်၊ ဆန့်ကျင်ဘက်စကားသာပြောပြီး အရက်သာ သောက်နေလေသည်။

ဘုရားရှင်သည် ဦးရီးတော်ထံမှ ကြွသွားရန် လမ်းမရရှိသဖြင့် ထိုအရပ်မှပင် ပြန်လှည့်ကြွသွားတော်မူသည်။

သုပ္ပဗုဒ္ဓမင်းသည် သူလျှိုယောကျ်ားတစ်ယောက်ကို ခေါ်ယူပြီး-

"အမောင်၊ ငါ့တူ ဘုရားနောက်သို့လိုက်သွားပြီး သူပြောသည့်စကားကို နားထောင်ပြီး ပြန်လာခဲ့ပါလော့"

ဟု မှာထားကာ စေလွှတ်လိုက်လေသည်။

မြတ်စွာဘုရားရှင်သည် ပြန်ဆုတ်နစ်ကြွလာပြီးလျှင် ပြုံးတော်မူသည်။

"မြတ်စွာဘုရား ပြုံးတော်မူသည့်အကြောင်းကို ထင်ရှားစွာ မိန့်တော်မူပါဘုရား" ရှင်အာနန္ဒာက လျှောက်ထားသည်။

"ချစ်သားအာနန္ဒာ၊ ဦးရီးတော် သုပ္ပဗုဒ္ဓကို မြင်ခဲ့ပါသလော"

"မြင်ခဲ့ပါသည် အရှင်ဘုရား"

"ချစ်သားအာနန္ဒာ...ငါဘုရားရှင် ကြွရာလမ်းကိုမပေးသော ဦးရီးတော် သုပ္ပဗုဒ္ဓမင်းသည် အလွန်အပြစ် ကြီးလေးသော အကုသိုလ်အမှုကို ပြုမှားခဲ့ပေပြီ။ ဤနေ့မှ နောက်ခုနစ်ရက်မြောက်၌ ပြာသာဒ်၏ အောက်စောင်းတန်း (လှေကား) ခြေရင်း၌ မြေသို့ ဝင်ပေလိမ့်

မည်"

ဘုရားရှင်က ဗျာဒိတ်စကား မိန့်ကြားလေသည်။

သုပ္ပဗုဒ္ဓ၏ သူလျှိုယောကျ်ားသည် ထိုစကားကိုကြားပြီးသော် မင်းထံသို့ ပြန်သွားကာ ဘုရားရှင် မိန့်ကြားသော စကားအလုံးစုံကို လျှောက်ထားလေသည်။

"ယခုအခါ ငါ့တူပြောလိုက်သော စကား၏အပြစ်ကား မရှိချေ။ ကေန်မချွတ်ပင် သူပြောလျှင် ပြောလိုက်တိုင်းဖြစ်တတ်သည်။ ဤသို့ဖြစ်သော် ငါ့တူကို ယခုအခါ လိမ်ညာပြောဆိုမှုဖြင့် နှိပ်စက်လေတော့အံ့။ ယခု ငါ့တူ သိဒ္ဓတ္ထသည် ငါ့ကို ခုနစ်ရက်မြောက်သော နေ့၌ မြေသို့ဝင်လိမ့်မည်ဟု နေရာဌာနကို မသတ်မှတ် မပြောကြားဘဲ သာမန်ပြာသာဒ်၏ အောက်စောင်းတန်းလှေကားရင်း၌ မြေသို့ ဝင်လိမ့်မည်ဟု ဆိုသည်။ ယခုအခါ ငါသည် ထိုအချိန်မှစ၍ ထိုစောင်းတန်းခြေရင်းသို့ မသွားတော့အံ့။ ထိုသို့မသွားလျှင် ထိုနေရာ၌ မြေမျိုခံရလိမ့်မည်မဟုတ်။ ခုနစ်ရက်စေ့၍ မြေမျိုမခံရမှ ငါသည် ငါ့တူ သိဒ္ဓတ္ထကို လိမ်ညာပြောဆိုမှုဖြင့် နှိပ်စက်ရပေတော့မည်"

ဟု ကြံစည်စိတ်ကူးထားလေသည်။

ထို့နောက် မိမိ၏အသုံးအဆောင်မှန်သမျှကို ဘုံခုနစ်ဆင့်ရှိသော ပြာသာဒ်၏အထက်ဆုံး အထပ်သို့ တင်စေပြီးလျှင် စောင်းတန်းလှေကားကို ဖယ်ရှားထားသည်။ တံခါးများအားလုံးကို ပိတ်ထားစေသည်။ တံခါးတစ်ပေါက်တစ်ပေါက်၌ လက်ပန်းသည် (လက်ဖွေ့သမား) နှစ်ယောက်စီထားပြီး အကယ်၍များ ငါသည် မေ့လျော့၍ အောက်သို့ဆင်းလိုလျှင် အမောင်တို့က ငါ့ကိုရအောင် တားမြစ်ဖမ်းထားကြလော့"

ဟု မှာထားပြီး ပြာသာဒ်အပြင် ကျက်သရေတိုက်ခန်း၌နေလေသည်။

ဘုရားရှင်သည် ထိုအကြောင်းကြားသိ၍-

"ရဟန်းတို့...ငါဘုရား၏ဦးရီးတော် သုပ္ပဗုဒ္ဓသည် ပြာသာဒ်အပြင်မှာသာမဟုတ်ဘဲ ကောင်းကင်သို့ပျံတက်ကာ အထက်ကောင်းကင်၌နေသည်ဖြစ်စေ၊ တောင်အတွင်းသို့ ဝင်၍ နေသည်ဖြစ်စေ ဘုရားရှင်တို့ မိန့်ကြားအပ်သော စကားနှစ်တန် မှန်-မမှန်၊ ဟုတ်-မဟုတ် နှစ်တန်ပြားသည် မရှိ၊ တစ်မျိုးသာ ရှိသည်။

ဦးရီးတော်သည် ငါဘုရားရှင် မိန့်ကြားခဲ့သော စောင်းတန်းလှေကားရင်း၌ပင် မြေမျိုခံရလိမ့်မည်။

ခုနစ်ရက်မြောက်သောနေ့တွင် ဘုရားရှင် ဆွမ်းဘုဉ်းပေးရာလမ်းကို ပိတ်ဆို့သော အချိန်၊ နန်းပြာသာဒ်၏ အောက်အရပ်တွင်ထားသော သုပ္ပဗုဒ္ဓမင်း၏ မင်္ဂလာစီးတော်မြင်းသည်

ချည်တိုင်မှ ကြိုးလွတ်ကာ ပြင်းစွာမြည်ဟီးလျက် ထိုထိုနံရံများကို ကန်ကျောက်၍နေလေသည်။

မည်သူတစ်ဦးတစ်ယောက်မျှ ခြောက်လှန့်ဖမ်း၍မရ။ သုပ္ပဗုဒ္ဓမင်းသည် ပြာသာဒ်ထက် ဝယ်နေရင်းကပင် မိမိ မင်္ဂလာစီးတော်မြင်း ဟီသံကိုကြား၍-

"ဤဖြစ်ရပ်ကား အဘယ်သို့ဖြစ်တာနည်း" ဟု မေး၏။

"အရှင်မင်းမြတ်...မင်္ဂလာစီးတော်မြင်းသည် ချည်တိုင်မှ ကြိုးလွတ်လာပါသည်ဘုရား။ မင်္ဂလာစီးတော်မြင်းသည် သုပ္ပဗုဒ္ဓမင်းကို မြင်လျှင်မြင်ချင်းပင် ငြိမ်သက်စွာ ရပ်နေလေသည်။

ထိုအခါ သုပ္ပဗုဒ္ဓသည် မင်္ဂလာမြင်းကို ဖမ်းလိုသောစိတ်ဆန္ဒများ တားမရ၊ ဆီးမနိုင် ဖြစ်ပြီးလျှင် ထိုင်ရာမှထ၍ တံခါးဆီသို့သွားသည်။ တံခါးများသည် အလိုလိုပွင့်လာသည်။ မူလက ဖယ်ထားသော လှေကားသည်လည်း အလိုလို မူလအတိုင်းပင် တပ်ဆင်ထားလေသည်။

တံခါး၌ အစောင့်ချထားကြသော လက်ဖွေ့သမားတို့သည် သုပ္ပဗုဒ္ဓမင်းကို ဖမ်းဆီးပြီး ပြာသာဒ်အတွင်းသို့ မသွင်းမိကြဘဲ အောက်သို့သာ ပစ်ချလိုက်မိကြသည်။

ထိုနည်းဖြင့် ဘုံခုနစ်ဆင့်ဘုံရှိ တံခါးတို့သည် အလိုလိုပွင့်ကုန်ကြသည်။ တံခါးလှေကားတို့သည် အဆင့်တိုင်း၊ မူလအတိုင်း ဖြစ်နေကြသည်။ ဘုံအဆောင်အဆင့်ဆင့်ရှိ လက်ဖွေ့သည်တို့ကလည်း မင်း၏လည်မျိုကိုကိုင်ကာ အောက်သို့သာ အဆင့်ဆင့် ပစ်ချကြလေသည်။

ထို့နောက် နန်းပြာသာဒ်အောက်၊ အောက်လှေကားသို့ရောက်သော် မဟာပထဝီမြေကြီးသည် ပြင်းစွာမြည်ဟီးလျက် ကွဲအက်ပွင့်လာကာ သုပ္ပဗုဒ္ဓမင်းကို မဟာအဝီစိငရဲသို့ သယ်ဆောင်သွားလေတော့သည်။

သုပ္ပဗုဒ္ဓသကျမင်းဝတ္ထု၊ ဓမ္မပဒ အဋ္ဌကထာ၊

* * *

## သဘင်သည်တို့ကျရာ ငရဲဘုံ

ဘုရားရှင်သည် ရာဇဂြိုဟ်ပြည် ဝေဠုဝန်ကျောင်း၌ သီတင်းသုံးနေစဉ် ဖြစ်သည်။

ထိုအခါ တစ်ထောင်သော ကချေသည်တို့၏အကြီးအမှူးဖြစ်သော ဂါမဏိအမည်ရှိ သဘင်သည်ကြီးတစ်ယောက် ရှိသည်။ သူ့ကို ထန်းပင်မှကြွေကျသော ထန်းသီးမှည့်ကဲ့သို့ ကြည်လင်စေသောမျက်ရှိသောကြောင့် 'တာလပုဋ' ဟုခေါ်သည်။

တာလပုဋခေါ် ဂါမဏိသည် ရင့်ကျက်သောဉာဏ်ရှိသူ ဖြစ်သည်။ တစ်နေ့ ဘုရားရှင်ထံသို့ ကချေသည်အခြံအရံများနှင့် ချဉ်းကပ်ပြီး-

"ဘုန်းတော်ကြီးလှသော မြတ်စွာဘုရား၊ ကချေသည်တို့သည် ပွဲသဘင်အလယ်၌ မှန်သောအမှု ချွတ်ယွင်းသောအမှုဖြင့် ပွဲလာကြည့်သူလူအပေါင်းကို ရွှင်ပျဝမ်းမြောက်လျက် နှစ်သက်ပျော်ပါးစေ၏။ ထိုကချေသည်တို့သည် သေသည်မှ နောက်၌ ပဟာသအမည်ရှိသော နတ်တို့၏အပေါင်းအဖော်အဖြစ်သို့ ရောက်ရသည်ဟု ရှေးရှေးအစဉ်အဆက် ကချေသည် ဆရာကြီးတို့ထံမှ ကြားဖူးပါသည်။ ဤအရာဝယ် ဘုန်းတော်ကြီးသော ဘုရားရှင်အနေဖြင့် မည်သို့အယူရှိပါသနည်းဘုရား" ဟု လျှောက်ထားသည်။

"ဂါမဏိ၊ ဤစကားကို ငါဘုရားအား သင်မမေးလင့်"

ဘုရားရှင်က သုံးကြိမ်တိုင်တိုင် တားမြစ်လေသည်။ ဂါမဏိက ထပ်မံ၍ လျှောက်ထား ပြန်သည်။

"ဂါမဏိ...ထိုအကြောင်းကို ငါ့ကို သင် မမေးလင့်"

ဂါမဏိ ထပ်မံလျှောက်ထားပြန်သည်။

ဟု ထပ်မံပယ်ပြန်သည်။ ဂါမဏိ ထပ်မံလျှောက်ထားပြန်သည်။

ဟု ထပ်မံပယ်ပြန်သည်။ ဂါမဏိ...ရှေးအခါက သတ္တဝါတို့သည် "ဤသို့ဆိုက သင့်ကို ငါ ပြောကြားအံ့။ ဂါမဏိ...ရှေးအခါက သတ္တဝါတို့သည် မကောင်းသော ရာဂ၊ ဒေါသ၊ မောဟ ရှိကုန်၏။ ထိုတရားတို့ဖြင့် နှောင်ဖွဲ့ကုန်၏။ ကချေသည်သည် ထိုသတ္တဝါတို့၏အလယ်သို့ဝင်၍ ထိုသတ္တဝါတို့အား လွန်စွာ တပ်နှစ်သက် ခြင်း၊ အမျက်ထွက်ခြင်း၊ မိုက်မဲတွေဝေခြင်းငှာ တပ်နှစ်သက်စေတတ်သော အာရုံ၊ အမျက် ထွက်စေတတ်သောအာရုံ၊ မိုက်မဲတွေဝေစေတတ်သောအာရုံတို့ကို အနီးသို့ဆောင်၏။ ထိုကချေ သည်သည် မိမိလည်း မေ့လျော့၊ လွန်စွာ မေ့လျော့စေသောကြောင့် သေသည်မှ နောက်၌ ပဟာသအမည်ရှိသော ငရဲ၌ဖြစ်ရသည်။

(ပဟာသငရဲဟူသည် အသီးအခြားမရှိ။ စင်စစ်အားဖြင့် အဝီစိငရဲသည်သာလျှင် တစ်ခု သောအရပ်တို့၌ ကခုန်သီကုန်သကဲ့သို့ ကချေသည်အသွင်ကိုယူလျက် ခံရကုန်သည်။ ထိုခံရာ အရပ်ကို ရည်၍ ပဟာသငရဲဟူ၍ ဟောတော်မူသည်။)

“ဂါမဏိ…အကြင်သူအား ကချေသည်သည် သဘင်အလယ်သို့ဝင်၍ မှန်သောအမူ ချွတ်ယွင်းသောအမူဖြင့် သဘင်ရှုသူ လူအပေါင်းတို့ ရွှင်ပျဝမ်းမြောက်လျက် နှစ်သက် မွေ့လျော် ပျော်ပါးစေ၏။ ထိုကချေသည်သည် သေသည်မှ နောက်၌ ယူဆသောသူသည် မှားသောအယူရှိသောသူ ဖြစ်သည်။ မှားသောအယူရှိသောသူအား ငရဲ၊ တိရစ္ဆာန်အားဖြင့် နှစ်ပါးသော ဂတိတို့တွင် တစ်ပါးပါးသော ဂတိသို့ ရောက်ရသည်ဟု ငါဘုရား ဟောတော် မူ၏”

ဘုရားရှင်၏မိန့်ကြားချက်စကားကို ကြားသောအခါ ဂါမဏိသည် ငိုကြွေးလေသည်။

“ဂါမဏိ…အဘယ်ကြောင့် ငိုကြွေးဘိသနည်း။ ထို့ကြောင့် သင် ငါ့ကို မမေးလင့်ဟု ငါ သုံးကြိမ်တိုင်တိုင်အောင် ပယ်သည်မဟုတ်လော”

“ဘုန်းတော်ကြီးသော မြတ်စွာဘုရား၊ တပည့်တော်သည် ဘုရားရှင်မိန့်ကြားသည်ကို မငိုကြွေးပါ။ ရှေးဆရာတို့ လှည့်စားသည့်အတွက် ဝမ်းနည်း၍ ငိုခြင်းဖြစ်ပါသည်” ဟု လျှောက်သည်။

ထို့နောက် ဂါမဏိသည် ဘုရားရှင်ထံ ရဟန်းပြုခွင့်တောင်းရာ ဘုရားရှင်က ရဟန်းပြုခွင့် ပေးတော်မူသည်။ ထို့နောက် တရားအားထုတ်၍ ရဟန္တာအဖြစ်သို့ ရောက်လေသည်။



## ငါးပါးသီလပျက်သူတို့ ငရဲခံစားရပုံ

**သူတစ်ပါးကို ညှဉ်းဆဲသတ်ဖြတ်သူ**

လူ့ဘဝရှိစဉ်က ဥစ္စာအင်အား၊ အမျိုးအင်အား၊ လက်နက်အင်အား၊ အာဏာအင်အား၊ ခွန်အားဗလအင်အားရှိသူတို့သည် မိမိတို့လောက် အင်အားမကောင်းသူတို့ကို ညှဉ်းဆဲကြ၊ ဆဲဆိုကြိမ်းမောင်းကြ၊ သတ်ဖြတ်ကြကုန်၏။

ထိုသူများ သေသောအခါ 'ဝေတရဏီ'မည်သည့် ငရဲ၌ ခံစားကြရသည်။

**ငရဲ၌တည်နေပုံ**

'ဝေတရဏီငရဲ' ဟူသည် မြစ်ရေကဲ့သို့ စီးဆင်းနေသည့်ငရဲ ဖြစ်သည်။ ထိုငရဲမြစ်၌ မီးအလျှံတောက်၍ သင်စုန်းဓားအသွားကဲ့သို့ ထက်သောဆူးရှိသည့် ကြာဖက်တို့ရှိသည်။

ထိုကြာဖက်၏အောက်၌ကား မီးအလျှံတောက်နေသည့် ဆားငန်ရေသည် တက်ရေ၊ ကျရေကဲ့သို့ အထက်စီးလိုက်၊ အောက်စီးလိုက် ဖြစ်နေရ၏။

ထိုငရဲ၏အထက်အမိုး၌မူ ခက်ရင်း (ခရင်း) ပမာဏ အဆူးထသောကြိမ်နွယ်တို့နှင့် ဖုံးအုပ်လျက်ရှိသည်။

## ငရဲခံရပုံ

ထိုငရဲအနီးသို့ ရောက်လာသူတို့အား မီးအလျှံတောက်၍နေသော သန်လျက်၊ ခက်ရင်း၊ တင်းပုတ် ကိုင်ထားသည့် ငရဲထိန်းတို့က ပထမဆုံး သတ်ပုတ်ညှဉ်းဆဲကြကုန်၏။

ထိုအခါ ယင်းအညှဉ်းအဆဲအား မခံနိုင်သဖြင့် ပြေးကြသူတို့သည် ဝေတရဏီငရဲ၏ အမိုးဖြစ်သော မီးအလျှံတောက်နေသော ခက်ရင်းအခွကဲ့သို့ ချူးထနေသည့် ကြိမ်နွယ်တို့အပေါ်သို့ ကျရောက်ကြကုန်၏။

ထိုအမိုးပေါ်မှ တဖြည်းဖြည်း အောက်ခံရေသို့ ကျရောက်ကြလေသည်။ အောက်ခံရေသို့ မရောက်မီ မီးအလျှံ၏ပူလောင်ခြင်း၊ ချူးတွေ၏ ထိုးဆွခြင်းကိုခံရ၍ အသားတွေ အပိုင်းပိုင်း ပြတ်ပြီးမှ မီးအလျှံထနေသော အောက်ခံဆားငန်ရေတွင် စုန်ချည်ဆန်ချည်မျောလျက် ပါဏာတိပါတကံ၏ အစွမ်းမကုန်မချင်း ခံရလေသည်။

## သူတစ်ပါးပစ္စည်းကို မတရားယူသူ

တစ်စုံတစ်ဦးက ကျေကျေနပ်နပ်မပေးဘဲ သူတစ်ပါး၏ သက်ရှိသက်မဲ့ပစ္စည်းကို ခိုး၍ယူခြင်း၊ ဓားပြတိုက်၍ယူခြင်း၊ အာဏာဖြင့်ယူခြင်း၊ အလေး၊ တင်းတောင်း၊ ချိန်ခွင်တို့ဖြင့် လိမ်လည်လှည့်စား၍ယူခြင်း၊ ကုန်များအား ရေဖြန်းမှု၊ ရေထိုးမှု၊ ဖွဲနု စသည်ရောမှု၊ စသည့် အမှုများပြုခြင်း၊ ဖျင်းအ,သူတို့၏ဥစ္စာအား ညာ၍ယူခြင်း၊ ခြောက်လှန့်၍ယူခြင်း၊ နှိုက်၍ယူခြင်း စသည့်သဘောဖြင့် မတရားယူမှုအားလုံးကို အဒိန္နာဒါနဟု ခေါ်၏။ ထိုအဒိန္နာဒါနအမှုအား လွန်ကျူးပြုသူသည် သေသောအခါ ငရဲ၌ ဖြစ်ရ၏။

## ငရဲခံရပုံ

ကြောက်မက်ဖွယ်ပုံသဏ္ဌာန်ရှိသော ငရဲထိန်းတို့သည် ရောက်၍လာသည့် ငရဲသားတို့ကို လှံ စသောလက်နက်အမျိုးမျိုးဖြင့် မုဆိုးက သားသမင်ကိုနိုင်၍ ထိုးကြသကဲ့သို့ ဟိုဘက်သည်က ဝိုင်း၍ထိုင်းကြကုန်၏။

ငရဲသား၏တစ်ကိုယ်လုံးမှာ ဖက်ရွက်အပေါက်ကဲ့သို့ အပေါက်ဖြစ်နေ၏။ ဤသို့ တစ်ကိုယ်လုံး ပေါက်နေသော်လည်း အဒိန္နာဒါန အကုသိုလ်ကံအစွမ်း မကုန်သေးသရွေ့ ငရဲမှမလွတ်ဘဲနေရသည်။

## ကာမေသုမိစ္ဆာစာရ

ကာမဂုဏ်ခံစားရာ၌ မိမိပိုင်မယား၊ မိမိပိုင်လင်နှင့် ခံစားခြင်းမျိုးမဟုတ်ဘဲ သူများမယားနှင့်လည်းကောင်း၊ မိမိလင်မှ အခြားယောကျ်ားကို ခံစားခြင်းကို မိစ္ဆာစာရယုတ်မာသောအကျင့်ဟု ခေါ်သည်။

ထိုသို့ပြုကျင့်သည့် ယောကျ်ား၊ မိန်းမသည် သေသည့်အခါ ငရဲ၌ ဖြစ်တတ်သည်။

## ယောကျ်ားခံစားရပုံ

ငရဲ၌ မီးကျည်တို့ဖြင့်ပြည့်နေသော ငရဲတွင်းကြီးရှိ၍ ရောက်လာသည်။ ငရဲသားကို ငရဲထိန်းသည် လက်နက်မျိုးစုံဖြင့် ထိုးကြခုတ်ကြလေရာ ငရဲသားသည်လည်း ပြေးလွှားရင်း ထိုငရဲတွင်းအနီးသို့ ရောက်သွား၏။

ထိုအခါ ငရဲထိန်းတို့သည် ဦးခေါင်းဖောက်ထိုးထား၍ ငရဲတွင်းတွင်းသို့ ပစ်ချလေသည်။

## မိန်းမငရဲခံရပုံ

ငရဲသူမသည် တစ်ကိုယ်လုံး အသားတွေ ကွဲအက်နေ၏။ ကွဲအက်နေသည့်အသားမှ စီးကျနေသည့်အသွေးတို့ တစ်ကိုယ်လုံး ဖုံးနေ၏။ အလျှံတောက်နေသည့် သံမြေတွင်း၀ယ် ခါးလောက်အထိ မြုပ်၍ထား၏။

အရှေ့အရပ်မှ အလျှံတောက်သော သံတောင်ကြီးတစ်လုံး လိမ့်လာကာ ထိုငရဲသူမကို ကြိတ်၍ အနောက်သို့သွားလျှင် တောင်အရပ်မှ သံတောင်ကြီးက ကြိတ်သွားပြန်၏။

ငရဲသူမက လက်နှစ်ဖက်ကိုမြှောက်ကာ ဟစ်အော်၍ ခံစားနေရ၏။

## မုသားပြောသူ

နှုတ်ဖြင့်ပြောသည်ဖြစ်စေ၊ စာရေး၍ဖြစ်စေ၊ သူတစ်ပါး အထင်အမြင်လွဲအောင် ပြောဆိုရေးသားခြင်းကို မုသားပြောခြင်းဟု ခေါ်သည်။

ထိုသို့ မုသားပြောဆိုရေးသားသူသည် တစ်စုံတစ်ခုသောအကျိုးကိုလည်း မျှော်တတ်သေးရာ သူတစ်ပါးအကျိုးပျက်စီးသလောက် အပြစ်ကြီး၏။

ထို့ကြောင့် သေသောအခါ တချို့ မုသားအတွက် ငရဲ၌ဖြစ်ရ၏။

**ငရဲခံရပုံ**

ရောက်လာသည့်ငရဲသားအား ငရဲထိန်းတို့သည် ထန်းပင်လုံးပမာဏရှိသော မီးလျှံတောက်နေသော ငါးမျှားချိန်ဖြင့် လျှာကိုဖောက်၍ ဆွဲငင်ကြကုန်၏။

ငရဲသားတို့သည် မီးလျှံတောက်နေသော သံမြေပြင်သို့ ဆွဲငင်ကြကုန်၏။ ငရဲသားတို့သည် မီးလျှံတောက်နေသော သံမြေပြင်ပေါ်မှ လှဲကြကုန်၏။

ထိုအခါ အသားရေကျက်၍ နေပူလှန်းသည့်အခါ အသားအရေကို ပတ်ပတ်လည်မှ တံစိုးကျင်များစွာရိုက်သကဲ့သို့ ထိုငရဲသားတို့ ဦးတံကျင်များစွာ ရိုက်ကြကုန်၏။

ငရဲသားသည် အော်ကာဟစ်ကာခံရင်း ပါးစပ်မှလည်း တံတွေးကို တပျစ်ပျစ် ထွေးရလေသည်။



## တိရစ္ဆာန်

တိရစ္ဆာန်ဟူသည့်စကားသည် 'တိရစ္ဆာန' ဟူသည့်ပါဠိမှ ဆင်းသက်လာသောစကားပင်။ ပါဠိသက်စကားဖြစ်သကဲ့သို့ ပါဠိပျက်စကားလည်း ဖြစ်၏။

တိရစ္ဆာန်ဘုံဟု ခေါ်ဆိုသော်လည်း ဘုံတစ်ခု မရှိပါ။ လူတို့မျက်မြင်ပင် ဖြစ်သည်။ တစ်ခုရှိသည်က တိရစ္ဆာန်ဆိုသည်မှာ မင်္ဂဖိုလ်နိဗ္ဗာန်နှင့် လူ့ဘုံ၊ နတ်ဘုံနှင့် ဆန့်ကျင်နေသော ဖီလာဆန့်ကျင်ပြုနေသောနေရာတစ်ခုပင်။

တိရစ္ဆာန်တို့၏ ဆင်းရဲဒုက္ခသည် လူတို့ မျက်မြင်ပင်။

တိရစ္ဆာန်လောက၌ အချင်းချင်း သတ်ဖြတ်စားသောက်ခြင်းသည်ပင် လွတ်မြောက်ရေး ဖြစ်သည်။ ကိုယ်က သူ့သတ်၊ သူက ကိုယ့်သတ်နှင့် သံသရာလည်နေ၏။

နစ်ပြီးရင်းနစ်နေသော ဘုံဘဝပင်။

စာပေကျမ်းဂန်များ၌ တိရစ္ဆာန်များနှင့်ပတ်သက်၍ ပြဆိုထားသည်ကို တွေ့ရသည်။ ကိန္နရာများ၊ ခြင်္သေ့မား၊ နဂါးဂဠုန်များ ဖြစ်၏။ နဂါးနှင့်ပတ်သက်၍ နတ်နဂါးဟု တွဲသုံးထားသည်ကို တွေ့ရ၏။

နဂါးသည် မြွေမျိုးဖြစ်ပြီး ပရိတ်ကြီး (၁၁) သုတ်၊ ခန္ဓသုတ်တော်၌ မြွေနိုင်ဂါထာ၊ မြွေမေတ္တာပို့များအား တွေ့ရ၏။

* ဝိရူပက္ခ နဂါးမင်းနှင့် အတူတကွ ကျွန်ုပ်၏ချစ်ခြင်းမေတ္တာဖြစ်ပါစေ၊
* ဝိရာပထ နဂါးမင်းတို့နှင့်အတူတကွ ကျွန်ုပ်၏ချစ်ခြင်းမေတ္တာဖြစ်ပါစေ၊
* ဆဗျာပတ္တ နဂါးမင်းနှင့်အတူတကွ ကျွန်ုပ်၏ချစ်ခြင်းမေတ္တာဖြစ်ပါစေ၊
* ကဏှာဂေါတမ နဂါးမင်းနှင့်အတူတကွ ကျွန်ုပ်၏ချစ်ခြင်းမေတ္တာဖြစ်ပါစေ၊

ယင်းကဲ့သို့ပင် ဇာတ်ကြီးဆယ်ဘွဲ့ ဘူရိဒတ်ဇာတ်တော်၌လည်း နဂါးနှင့်သက်ဆိုင်သော ဗဟုသုတအား တွေ့နိုင်၏။

ပထမအာလိန်ငါးဆင့်အပြင် ယုဂန္ဓာတစ်ထောင်မှ နဂါးတို့နေကြကုန်၏၊ ကမ္ဘာဦး (၃၁) ဟု နဂါးတို့နေထိုင်ရာအား ညွှန်ပြ၏။

နဂါးတို့သည် တန်ခိုးရှိကြစေကာမူ မစွန့်နိုင်သောအကြောင်းငါးမျိုးရှိသည်ဟု ပြဆို၏။

ယင်း (၅)မျိုးကား-

၁။ ပဋိသန္ဓေနေသည့်အခါ

၂။ အရေလဲသောအခါ

၃။ အိပ်ပျော်နေသည့်အခါ

၄။ နဂါးဖို၊ နဂါးမ အချင်းချင်း မေထုန်မှီဝဲသောအခါ၊

၅။ သေသောအခါ

(ဓမ္မပဒ ဒု-၁၅၂-၃)

## နဂါးနှင့်ပတ်သက်သောကောက်နုတ်ချက်

**(နဂါးတို့ မွေးဖွားလာပုံ)**

နဂါးတို့သည် ဟိမဝန္တာတောအုပ်သို့ လာရောက်ကာ ဂဠုန်ရန်နှင့်ဝေးသည့် ရွှေလိုဏ်၊ ငွေလိုဏ်၊ ပတ္တမြားလိုဏ် တောင်စောင်းများ၌ ဥအောင်းကာ မွေးဖွား၏။

သားသမီးငယ် နဂါးလေးများ ပြေးလွှားနိုင်သောအရွယ်သို့ရောက်လျှင် ရေမြေမပျက် ခန့်သာ အနက်ရှိသော မြစ်ကမ်းစပ်၌ ယင်းနဂါးလေးများအား ရေကူးသင်ပေး၏။

မြစ်၏ဟိုဘက်သည်ဘက် ပြေးလွှားနိုင်ရန် ရေနှင့်စပ်လျဉ်း၍ စိတ်ချရပြီဖြစ်သည်။ နဂါးလေးများသည် လှိုင်းတံပိုးဘေး၊ ရေလှိုင်းဘေး၊ ဂဠုန်ဘေးတို့ကို ကာကွယ်နိုင်ပြီဟု ဆုံးဖြတ်၏။

နဂါးများသည် တောင်စဉ် (၇)ထပ်ကြား သိခါမြစ်၊ မြင်းမိုရ်တောင်၏ ပထမအာလိန် တွံ ရတနာဖြင့် စီခြယ်မွမ်းမံသော မြို့တံတိုင်းတို့ဖြင့် ဝန်းရံကာလျက် ဗိမာန်နှင့်နေထိုင်သည်။

(နဂါးမျက်စောင်း)

ဒိဋ္ဌဝိသနဂါးသည် သတ္တဝါတို့ မျက်စောင်းထိုးလျှင်ပင် ဖွဲပြာကဲ့သို့ ကြေပျက်သွားရသည်။

နဂါးတို့၏သားသမီးမွေးဖွားလေ့ရှိပုံ၊ နေထိုင်ရာဗိမာန်၊ မျက်စောင်းထိုး၍ ပြာဖြစ်ခြင်းတို့ကို သာရတ္ထသင်္ဂဟာကျမ်း၌ ပြဆိုထားသည်ကို တွေ့ရ၏။

## နတ်နဂါးများ

နတ်နဂါးတို့မှာ ဝိရူပက္ခနတ်မင်းကြီး၏လက်အောက်ခံများဖြစ်သည့် ဝိရူပက္ခနတ်မင်းကြီးသည် မြင်းမိုရ်တောင်၏အနောက်ဘက် အာလိန္ဒ၌တည်နေသော နတ်မြို့တွင် နဂါးအပေါင်းတို့အား အုပ်ချုပ်၍ မင်းလုပ်သည်။

တောင်၏အတွင်း၌သော်လည်းကောင်း၊ မြေ၏အတွင်း၌သော်လည်းကောင်း၊ ဖြစ်ကုန်သော ဝသုန္ဓရနတ်မျိုး၊ ဘုမ္မဒေဝနတ်မျိုးတို့ကို နတ်နဂါးဟု ခေါ်သည်။

နတ်နဂါးတို့ကိုပင် မဟာပရိနိဗ္ဗာနသုတ်တော်၌ ပထဝီဒေဝဟု ဟောထား၏။ ထိုနဂါးမျိုးတို့ကစားမြူးတူးခြင်း အားကြီးသောကြောင့် တစ်ခါတစ်ရံ မြေကြီးတုန်လှုပ်၏။

နတ်နဂါးတို့၏မန္တန်များကို ဗြဟ္မဘာလသုတ်၌ ဝတ္ထုဝိဇ္ဇာဟုလည်းကောင်း၊ ဘူမိဝိဇ္ဇာဟုလည်းကောင်း ခေါ်၏။

ထိုနတ်နဂါးတို့သည် အပျော်မြူးလို၊ အစားအသောက်ကြူးလိုကြသဖြင့် ငရဲဘုံ၊ ပြိတ္တာပုံများသို့ လှည့်လည်သွားလာလေ့ရှိသည်။

သူတို့သည် တစ်ခါတစ်ရံ မိမိတို့ ပကတိအသွင်အပြင်အတိုင်းသွားသကဲ့သို့ တစ်ခါတစ်ရံ ခွေး၊ လင်းတ၊ ကျား၊ ခြင်္သေ့ ယောင်ဆောင်၍ သွားတတ်ကြသည်။

ငရဲသူ၊ ငရဲသား ပြိတ္တာများအား အမျိုးမျိုးသောနည်းနှင့် ညှဥ်းဆဲတတ်၏။ တစ်ခါတစ်ရံ ငရဲ၊ ပြိတ္တာသတ္တဝါတို့အား စားတတ်၏။

ထိုနတ်နဂါးတို့သည် စတုမဟာရာဇ်နတ်မျိုး၌ ပါဝင်သည်ဟု သုတ္တန်အဋ္ဌကထာတို့က လာသည်ဟု လယ်တီဆရာတော်ကြီး မိန့်၏။

**ဂန္ဓုန်**

ဂန္ဓုန်ဟူသောစကားသည် 'ဂရုဍ'ဟူသော ပါဠိကို အခြေခံ၍ ဖြစ်ပေါ်လာသည့် ဂရုဍသည် ဝန်လေးကြီးကို သယ်ဆောင်လာသည်။ သယ်ဆောင်နိုင်သည်။

ထို့ကြောင့် ဂန္ဓုန်ဟု ခေါ်သည်။

ဂန္ဓုန်သည် နဂါး၏ရန်သူ ဖြစ်၏။

စွယ်စုံကျော်ထင်ကျမ်း၌မူ-

"အကြင်ငှက်သည် လေးစွာသောဝန်ကို ယူတတ်၏။ ထို့ကြောင့် ဂန္ဓုန်မည်၏ဟု ဆို၏။

## ဂန္ဓုန်မင်းကြီး၏အနေအထား

ဂန္ဓုန်မင်းကြီး၏ကိုယ်ကောင်သည် ယူဇနာ (၁၅၀) အထိ ကြီးမား၏။ လက်ယာအတောင်ပံက ယူဇနာ (၅၀)၊ လက်ဝဲအတောင်ပံက ယူဇနာ (၅၀)၊ အမြီးဆံက ယူဇနာ (၆၀)၊ လည်တံက ယူဇနာ (၃၀)၊ ခံတွင်းက (၉)ယူဇနာ၊ ခြေထောက်က ယူဇနာ (၁၂၀) ရှိကြောင်း ကျမ်းစာပေက ပြဆိုသည်။

(သံယုတ်အဋ္ဌကထာ)

## သစ်ပင်ကြီး (၇)ပင်နှင့် ဂန္ဓုန်ပြည်

ဗုဒ္ဓစာပေ ပိဋကတ်တော်၌ သစ်ပင်ကြီး (၇)ပင်ပြဆိုချက် ရှိသည်။ ထိုသစ်ပင်ကြီး (၇)ပင်တို့သည် ကမ္ဘာဦးကာလ (အခြားသစ်ပင်များ မပေါ်သေးမီ) ရှေးဦးပထမ ပေါ်ပေါက်သောသစ်ပင်ကြီးများ ဖြစ်သည်။

ထိုသစ်ပင်ကြီး (၇)ပင်သည် ကမ္ဘာပျက်မှ ပျက်စီးကြမည့်သစ်ပင်ကြီးများ ဖြစ်သည်။

ထိုသစ်ပင်ကြီး (၇)ပင်တွင် လက်ပံပင်ကြီးလည်း ပါဝင်သည်။ ထိုလက်ပံပင်ကြီးသည် ဂန္ဓုန်ပြည်၌တည်ရှိကြောင်း ပိဋကတ်စာပေမှ ပြဆိုချက်ရှိသည်။

## သစ်ပင်ကြီး ၇ ပင်

၁။ အသူရာပြည်၌ ရှေးဦးစွာပေါက်သော သခွပ်ပင်

၂။ ဂန္ဓုန်ပြည်၌ ရှေးဦးစွာပေါက်သော လက်ပံပင်

၃။ တောင်ကျွန်း၌ ရှေးဦးစွာပေါက်သည့် သံပြေပင်

၄။ အနောက်ကျွန်း၌ ရှေးဦးစွာပေါက်သည့် ထိန်ပင်

၅။ တာဝတိံသာ၌ ရှေးဦးစွာပေါက်သည့် ကသစ်ပင်

၆။ အရှေ့ကျွန်း၌ ရှေးဦးစွာပေါက်သော ကုက္ကိုပင်

၇။ မြောက်ကျွန်း၌ ရှေးဦးစွာပေါက်သော ပဒေသာပင်

ဤသစ်ပင် (၇)ပင်သည် ပင်လုံးပတ်၊ အကျယ်အပြန့်၊ အနိမ့်အမြင့် အလုံးစုံ တူသည်။

အရှင်တိလောက

ပဏ္ဍိတဝေဒနိယဒီပနီကျမ်း

## ဂဠုန်နှင့်နဂါး ပတ်သက်၍

နဂါးနှင့်ဂဠုန်သည် တန်ခိုးရှိကြ၏။ သို့သော် သူတို့သည် တိရစ္ဆာန်မျိုး၌သာ ပါဝင်ကြ၏။

အရှင်ဇနကာဘိဝံသ

သင်္ဂြိုလ်ဘာသာဋီကာ၊ (စာ ၂၉၅)

## ကိန္နရာ၊ ကိန္နရီ

ကိန္နရပါဠိမှ ဆင်းသက်လာသည်။ ကိန္နရာဟု ဖြစ်လာသည်။ အဖိုအား ကိန္နရာဟုခေါ်ပြီး အမအား ကန္နရီဟု ခေါ်သည်။ 'ကိန္နရ'ဟူသောပါဠိသည် နှစ်ပုဒ်ပေါင်းစပ်ထားခြင်းဖြစ်၏။

ကိံ - တစ်ပုဒ်

နရ - တစ်ပုဒ် ဖြစ်သည်။

ကိံ - အဘယ်နည်း။

နရ - လူလော နလော။

ကိံနရ (ကိန္နရ) ကိန္နရာ၊ ကိန္နရီ၊ လူလော၊ နတ်လော တွေးတောယုံမှားဖွယ်သတ္တဝါဟု အဓိပ္ပာယ်ရ၏။

## ကိန္နရီ၊ ကိန္နရာတို့ပုံသဏ္ဍာန်

ကိန္နရီ၊ ကိန္နရာ၏ပုံသဏ္ဍာန်နှင့်ပတ်သက်၍-
အချို့က ငှက်ကိုယ်နှင့်လူခေါင်း၊
အချို့က လူကိုယ်နှင့်မြင်းမျက်နှာ၊
အချို့က မြင်းကိုယ်နှင့်လူခေါင်းရှိကြောင်း...

အဘိဓာန်ဋီကာ
အမရကောသဋီကာ
ဒဂုန်ဦးထွန်းမြင့်၊ ပါဠိသက်ဝေါဟာရအဘိဓာန်

## ကိန္နရီ၊ ကိန္နရာအမျိုးမျိုး

၁။ ဒေဝကိန္နရာ - စတုမဟာရာဇ်နတ်မျိုး၌ပါသော ကိန္နရာမျိုး
၂။ ဝန္ဒကိန္နရာ - စန္ဒတောင်၌ နေလေ့ရှိသော ကိန္နရာမျိုး
၃။ ဒုမကိန္နရာ - သစ်ပင်များ၌ လှည့်လည်ကျက်စားကာ သစ်သီး၊ သစ်ပွင့် စားလေ့ရှိသည့် ကိန္နရာမျိုး
၄။ ဒဏ္ဍမာကာဗိကာကိန္နရာ- တုတ်၊ လှံတံတို့ကို ကိုင်စွဲကာ လှည့်လည်သွားလာနေ လေ့ရှိသော လူ၏မျက်နှာပုံသဏ္ဍာန်မျိုးရှိသည့် ကိန္နရာမျိုး
၅။ ကောန္တသကုဘာကိန္နရာ - ကရဝိတ်ငှက်၊ ကြိုးကြာငှက်တို့ကဲ့သို့ အသံသာစွာ မြည်တွန်သည့် ကိန္နရာမျိုး
၆။ ကဏ္ဍပါဝုရဏကိန္နရာ - နားရွက်ကြီးသည် ကိန္နရာမျိုး၊ ယင်းကိန္နရာမျိုးကား နားရွက်၏တစ်ဖက်အောက်မှာ ခင်းလျက်၊ အခြား နားရွက်တစ်ဖက်ကို ခြုံထည်ကဲ့သို့ ခြုံနိုင်လောက်အောင် နားရွက် ကြီးသည်ဟု အဆိုရှိသည်။
၇။ အဿမုခိကိန္နရာ - မြင်းမျက်နှာပုံသဏ္ဍာန်ရှိသည့် ကိန္နရာမျိုး

(အရှင်ဩဘာသာ ဘိဝံသမထေရ်မြတ် သုတေသန၊ သရုပ်ပြအဘိဓာန်)

အနုစ်တစ်ထောင်ရှိကြောင်း ပြဆိုသည်။

ကိန္နရာ၊ ကိန္နရီတို့သည် သက်တမ်းအနေနှင့် ... ကိန္နရီ၊ ကိန္နရာတို့သည် အသက်မွေးစင်ကြယ်သူများ ဖြစ်ကြသည်။ ... ဖြစ်သည်။

တစ်လင် တစ်မယားစနစ်အား မြတ်နိုးကြ၏။

ကိန္နရာ၊ ကိန္နရီတို့သည် နံ့သာလိမ်းခြင်း၊ ပန်းပုဆိုးဝတ်ခြင်း၊ နွယ်ဒါန်းစီးခြင်းကို ပြုလုပ်လေ့ရှိသည်ဆို၏။

(ဘလ္လာတိယဇာတ်
စန္ဒကိန္နရီဇာတ်)

## မျက်မြင်လောက တိရစ္ဆာန်အချို့

အလွန်ကြောင့်ကြတတ်သော သတ္တဝါ (၄) မျိုး-

၁။ ကြိုးကြာငှက်

၂။ မျောက်

၃။ တီ

၄။ တီတီတွက် (တစ်တီတူး)ငှက်။

ထိုသတ္တဝါ (၄) မျိုးက ကြောင့်ကြတတ်သည့်သတ္တဝါများဖြစ်သကဲ့သို့ အမိုက်သတ္တဝါ (၄) မျိုးဟုလည်း ခေါ်၏။ မဖြစ်နိုင်သည်ကို ဖြစ်လာမည်ဟု အထင်ရှိကာ စိုးရိမ်ပူပန်ကြသူများတည်း။

## ၁။ ကြိုးကြာငှက်

ကြိုးကြာငှက်သည် မြေကို ခြေနှင့်ဖော့ကာဖော့ကာ နင်း၏။ အဘယ်ကြောင့်ဆိုသော် လေးလေးပင်ပင် နင်းလိုက်လျှင် မြေတွင်ခါသွားမည်စိုးသောကြောင့်ပင်။

## ၂။ မျောက်

မျောက်က တစ်ညလျှင် သုံးကြိမ် မြေကြီးကို လက်နှင့် စမ်းကြည့်လေ့ရှိသည်။ မြေကြီးပျောက်သွားမည်ကိုစိုးသောကြောင့် ဖြစ်သည်။

## ၃။ တီကောင်

တီကောင်တို့သည် မြေကြီးဟူသည် အစာကုန်သွားမည်စိုးသဖြင့် မြေကို ထွေးအန်ပစ်၏။

## ၄။ တီတီတွက်ငှက် (တစ်တီတူးငှက်)

ထိုငှက်သည် ပက်လက်အိပ်၏။ ခြေကို မိုးပေါ်ထောင်၍ အိပ်၏။ မိုးပြိုမည်ကိုကြောက်သဖြင့် ယင်းသို့အိပ်ခြင်း ဖြစ်သည်။

(လုံတော်ဆရာတော် ပုစ္ဆာပဘိဏ္ဍက ဝိပဒ္ဒနာကျမ်း)

## ဗျိုင်းအောက် အဖိုမရှိ။

ဗျိုင်းတို့၌ကား အဖိုမည်သည် မရှိ။

ထိုဗျိုင်းမတို့သည် မိုးဥတု စသောအခါ၌ မိုးခြိမ်းသံကို ကြား၍ ကိုယ်ဝန်ကိုယူကုန်၏။

ဤသို့ အသံကြားသည်နှင့် သန္ဓေယူနိုင်ကြောင်းကို ပါရာဇိကတ်အဋ္ဌကထာမှ လာသည်။ ထိုအသံအား ရာဂအားဖြင့် အပ်သည်ဟူ၍မလာ။ ထို့ကြောင့် ရာဂစိတ်မစွန်းငြိဘဲ မြေရေသစ်ပင်များကဲ့သို့ ဥတုသမုဋ္ဌာန်နှင့်သာ ဗျိုင်းသတ္တဝါတို့ သန္ဓေယူနိုင်၏ဟူ၍ မှတ်ရာ၏။

(စွယ်စုံကျော်ထင်ကျမ်း စာ - ၇၀၅)



## ပြိတ္တာ

ပြိတ္တာဟူသောစကားသည် ပေတဟူသည့်ပါဠိမှ ဆင်းသက်လာသည့်စကား ဖြစ်သည်။

ယင်း ပေတ = ပြိတ္တာဆိုသည်မှာ ချမ်းသာသုခမှကင်းသောကြောင့် ပေတ ပြိတ္တာဟု ခေါ်ကြောင်း ကျမ်းစာက ပြဆိုသည်။

လူခန္ဓာအတ္တဘော၏ ကင်းကွာပျောက်ဆုံးခြင်း၊ ကွယ်လွန်သေဆုံးသွားခြင်းကိုလည်း 'ပေတ' ဟုခေါ်သေး၏။ မြန်မာမှု၌ ပေတအလှူတော် စသည်ဖြင့် သုံးနှုန်းသည်ရှိ၏။ ကွယ်လွန်သူအား ရည်စူးပြုလုပ်သောအလှူကို ပေတအလှူဟု ခေါ်သည်။

(ပေတဝတ္ထု၊ အဋ္ဌကထာ)

### ပြိတ္တာဟူသည် (ပြိတ္တာဘဝ)

ပြိတ္တာဟူသည် ဘုံသီးခြားမရှိ။ တောတောင်မြစ်ချောင်း စသည်တို့၌နေသည်။ သုသာန် သင်္ချိုင်းများ၌နေသည်။

အစားအသောက် အနေအထိုင် ဆင်းရဲစွာ နေထိုင်ကြရ၏။ အချို့ပြိတ္တာများမှာ လူတို့ အနီးအပါး၌ နေထိုင်ကာ လူတို့၏ စားကြွင်းစားကျန်များ၊ ဆာလောင်မွတ်သိပ်လွန်းသဖြင့် လူတို့၏ သလိပ်၊ ချွဲ၊ တံတွေးပေါက်ကိုပင် စားသောက်ကြရ၏။

ထို့ကြောင့် မိမိနှင့်ပတ်သက်သူများ ကွယ်လွန်၍ ထိုဘဝမျိုးများရောက်ခဲ့သော် ကျွတ်ထိုက်က ကျွတ်ပါစေဟူသော ရည်ရွယ်ချက်များဖြင့် ကျန်ရစ်သူများက ထိုကွယ်လွန်သူများအတွက် ရည်စူးကုသိုလ်ပြုသမျှ ပေးဝေကြခြင်းမှ လုပ်သင့်လုပ်ထိုက်သည့်အလုပ်တစ်ခု ဖြစ်သည်။

**ဝိဋကတ်စာပေ၌** ပြိတ္တာများနှင့်ပတ်သက်၍ အရေအတွက်အမျိုးမျိုး ပြဆိုချက်ရှိသည်။ **သို့သော်** တစ်ခုနားလည်ထားရမည်က အမျိုးမျိုးဟုဆိုသော်လည်း ကွဲလွဲချက်များဟု မယူဆ **သင့်ပါ။**

သဘောတူရာတူရာစုပေါင်း၍ ယူနိုင်သည်။ ကံမကောင်းအကြောင်းမလှပါက ထိုပြိတ္တာဘဝသို့ ရောက်သွားနိုင်ကြသည်ချည်းသာဖြစ်ကြောင်း ကြိုတင် (သံဝေဂစွမ္မ) ထိတ်လန့်တုန်လှုပ်စရာ တရားပွားများရမည် ဖြစ်သတည်း။

**ပေတဝတ္ထုတော်လာ ပြိတ္တာလေးမျိုး**

၁။ ပရဒတ္တုပဇီဝိတပြိတ္တာ
(ပရဒတ်တပဇီဝိတပြိတ်တာ)
သူတစ်ပါးကိုမှီ၍ အသက်မွေးဝမ်းကြောင်းပြုရသည့် ပြိတ္တာ၊ သူတစ်ပါးတို့ပေးကမ်းမှစားရသည့်ပြိတ္တာ။

၂။ ဥပ္ပိပါသိကပြိတ္တာ
(ဥပ်ပိပါသိကပြိတ်တာ)
မစားမသောက်ရဘဲ အမြဲတမ်း ဆာလောင်မွတ်သိပ်ကာ ငတ်ပြတ်နှိပ်စက်မှုဒဏ် ခံနေရသောပြိတ္တာ။

၃။ နိဇ္ဈာမတဏှိကပြိတ္တာ
(နိတ်ဈာမတန်နိကပြိတ်တာ)
ခန္ဓာကိုယ်တစ်ခုလုံး အမြဲမပြတ် ပူလောင်ဒဏ်ခံနေရသော ပြိတ္တာ။

၄။ ကာလကဉ္စိက ပြိတ္တာ။
(ကာလကင်ဇိကပြိတ်တာ)
အသူရကာယ်၌ ပြခဲ့သည့်ပြိတ္တာ ဖြစ်သည်။

## ဂတိ (၅) မျိုး
## (လားရာ ရောက်ရာဘုံဘဝ ၅ မျိုး)

ကွယ်လွန်ပြီးသည့်နောက် ပုထုဇဉ်တို့ လားရောက်ရာဂတိ (၅) မျိုး ဘုံဘဝ (၅) မျိုး ရှိသည်။

ထိုဘုံဘဝ (၄၅) မျိုးက အောက်ပါအတိုင်း ဖြစ်သည်။

၁။ ဒေဝဂတိ (နတ်ဘုံ၊ ဗြဟ္မာဘုံ)

၂။ မနုဿဂတိ (လူ့ဘုံ)

၃။ ပေတဂတိ (ပြိတ္တာဘုံ၊ အသူရကာယ်ဘုံ)

၄။ တိရစ္ဆာန်ဂတိ (တိရစ္ဆာန်ဘုံ)

၅။ နိရယဂတိ (ငရဲဘုံ)

(ဥဒါနအဋ္ဌကထာ-၁၂၇၊ ဣတိဝုတ်အဋ္ဌကထာ-၁၂၁)

## အမျှဝေသူရှိက သာဓုခေါ်နိုင်ရမည်

ထိုဂတိ (၅) မျိုးအနက် ပေတဂတိ-ပြိတ္တာဘဝ လားရောက်ရသူများအတွက် ရည်ညွှန်းပြီးသကာလ ကျန်ရစ်သူများက ကုသိုလ်ပြုအမျှအတန်းပေးဝေကြခြင်း ဖြစ်သည်။

ကျန်ရစ်သူတိုင်းက ကုသိုလ်ပြုအမျှဝေလိုက်တိုင်းလည်း ပြိတ္တာဘဝသို့ရောက်နေသူတိုင်းသည် အမျှရချင်မှရမည်။

အထက်တွင် ပြဆိုထားသည့်အတိုင်း ပြိတ္တာ (၄) မျိုးအနက် လူတို့နှင့် အနီးစပ်ဆုံးဖြစ်သည့် ပြိတ္တာမျိုးသည်သာ လူတို့ပြုသည့် ကုသိုလ်အမျှအား သာဓုခေါ်ဆိုနိုင်ပြီး အလွယ်တကူ အကျွတ်ရမည်ဖြစ်သည်။

ပြဆိုခဲ့သော ပြိတ္တာ (၄)မျိုးတွင် အမှတ် (၁)ဖြစ်သည့် 'ပရဒတ္တူပဇီဝိတ' ပြိတ္တာမျိုးသည်သာ လူတို့၏ ကုသိုလ်အမျှကို လွယ်ကူစွာ သာဓုခေါ်နိုင်သည့်အနေအထား ဖြစ်သည်။

အဘယ်ကြောင့်ဆိုသော် ယင်း 'ပရဒတ္တူပဇီဝိတ'ပြိတ္တာမျိုးက လူတို့၏အနီးအပါးတွင် ကျင်လည်ကျက်စားနေသောပြိတ္တာမျိုးဖြစ်သောကြောင့်တည်း။

ထိုပြိတ္တာမျိုးက လူတို့၏ ပေးစာကမ်းစာအား မျှော်လင့်စောင့်စားနေကြ၏။ လူတို့အနားခြံကပ်ရှိနေသည်။ ထို့ကြောင့် ယင်းပြိတ္တာမျိုးသည် လူတို့ ကုသိုလ်ပြုအမျှဝေသည်ကို လွယ်လင့်တကူ ရရှိနိုင်၏။

ထိုကဲ့သို့ပင် အချို့ပြိတ္တာတို့သည် ပင်လယ်ရပ်ခြား မြစ်ချောင်းအင်းအိုင်တွင်းသို့ ရောက်နေ

သောပြိတ္တာတို့သည် လူတို့နှင့် ဝေးကွာနေသောကြောင့် လူတို့အမျှဝေသည်ကို မကြားနိုင်သလို ကုသိုလ်လည်းမရ၊ အမျှလည်းဝေနိုင်မည်မဟုတ်ချေ။

မည်သို့ဆိုစေ မည်သို့ပြိတ္တာအမျိုးအစားပင်ဖြစ်စေ ကျန်ရစ်သူတို့၏တာဝန်သည် ထိုကွယ်လွန်သူအတွက် သာစုခေါ်ကုသိုလ်ပြုရမည် ဖြစ်သည်။ အမျှဝေရမည် ဖြစ်သည်။

ဤသို့ပြသည်မှာ မလွဲနိုင်သောနည်းပင်ဖြစ်၍ အသိဉာဏ်ဦးစီးကာ ပြုလုပ်သင့်သည်။

**(မိလာဒ္ဓပဥ္စာ)**

## ဝိနည်းပါဠိတော်နှင့် လက္ခဏာသံယုတ်ပါဠိတော်လာ ပြိတ္တာ (၂၁) မျိုး

### ၁။ အဋ္ဌိသင်္ခလိကပြိတ္တာ (အရိုးစု၊ အရိုးဆက်ပြိတ္တာ)

အရှင်မဟာမောဂ္ဂလာန်နှင့် အရှင်လက္ခဏမထေရ်တို့ ဂိဇ္ဈကုဋ်တောင်မှ ဆင်းသွားကြစဉ် ဤပြိတ္တာအား ကောင်းကင်မှ တွေ့ရခြင်းဖြစ်သည်။ လင်းတဘီလူး၊ ကျီးဘီလူး၊ စွန်ရဲဘီလူးတို့က ပြိတ္တာအား နောက်မှလိုက်၍ နံရိုးကြား ထိုးဆိတ်ကြ၏။

နာကျင်လွန်းသဖြင့် ပြင်းထန်စွာ အော်ဟစ်နေ၏။

ထိုပြိတ္တာတို့သည် လူ့ဘဝ၌ လူဖြစ်စဉ်က ရာဇဂြိုလ်ပြည်တွင် နွားသတ်ရောင်းသူများဖြစ်၏။ ထိုမကောင်းမှုကြောင့်ပင် ထိုသူသည် ငရဲ၌ နှစ်ပေါင်းသိန်းနှင့်ချီ၍ ခံရ၏။ ထိုမကောင်းမှု အကျိုးဆက်အကြွင်းအကျန်အဖြစ် ယခုကဲ့သို့ ပြိတ္တာဘဝတွင် ခံစားနေရခြင်းဖြစ်သည်။

### ၂။ မံသပေသိကပြိတ္တာ (အသားတစ်ပြိတ္တာ)

ထိုပြိတ္တာမျိုးသည် ဂိဇ္ဈကုဋ်တောင်၌ တွေ့ရသောပြိတ္တာမျိုး ဖြစ်သည်။ လေဟာပြင်၌ သွားနေစဉ် သူ၏ခန္ဓာကိုယ် (အသားတစ်)တို့ကို လင်းတဘီလူး၊ ကျီးဘီလူး၊ စွန်ရဲဘီလူးတို့က လိုက်လံထိုးဆိတ်နေကြ၏။

ထိုအသားတစ်ပြိတ္တာသည် လူဖြစ်စဉ်က ရာဇဂြိုလ်၌ နွားသတ်ရောင်းသူ ဖြစ်သည်။ အမဲသားတို့အား ရောင်းချရာ၌ အသားတုံး၊ အသားတစ်တို့ကိုသာ ရွေးထုတ်လျက် အမဲခြောက်လုပ်ကာ လုပ်ရောင်းပေးခြင်း ဖြစ်၏။

ထိုအကြောင်းနှင့်တူသည့် အကျိုးဆက်အနေနှင့် ပြိတ္တာဘဝတွင် အသားတစ်ပြိတ္တာ ငရဲမှလွတ်ကာမှ ပြိတ္တာဖြစ်သည်။

... ငရဲခံစားရသေး၏။

**၃။ မံသပံဏ္ဏပြိတ္တာ (အသားစိုင်ပြိတ္တာ)**

ထိုပြိတ္တာမျိုးက လူဖြစ်စဉ်က ငှက်များအား ဖမ်း၍ ရောင်းချသူများ ဖြစ်သည်။ ထိုသူများသည် ငှက်များအား အတောင်အမွေး အရေခွံတို့အားဖယ်ကာ အသားစိုင်ချဉ်းပြုလုပ်ရောင်းချခဲ့၏။ ထိုကုသိုလ်ကံအကြွင်းအကျန် အကျိုးဆက်အနေနှင့် အသားစိုင်ပြိတ္တာ ဖြစ်ရသည်။

**၄။ နိစ္ဆဝိပုရိသပြိတ္တာ (ယောကျ်ားနိမိတ် (ယောကျ်ားအင်္ဂါ)မှုသာထင်ရသည့်ပြိတ္တာ)**

ထိုပြိတ္တာသည် လူ့ဘဝ၌ရှိစဉ်က ဆိတ်သတ်ရောင်းသူ ဖြစ်၏။ ဆိတ်၏အရေခွံအား ဆုတ်ပစ်၊ အရေခွံမရှိအောင် ပြုလုပ်ရောင်းချသူ ဖြစ်၏။

ဤအကုသိုလ်ကြောင့် ငရဲရောက်ခဲ့ရ၏။ ထိုအကုသိုလ်ကံ၏ အကြွင်းအကျန်ကြောင့် ယခုကဲ့သို့ ပြိတ္တာအဖြစ် ခံစားရခြင်းဖြစ်သည်။

**၅။ အသိလောမပြိတ္တာ (သံလျက်အမွေးလက်နက်၊ ကျရောက်စူးနစ်ခံရသော ပြိတ္တာ)**

ထိုပြိတ္တာသည် လူဖြစ်ရန်အခါတုန်းက ဝက်သတ်ရောင်းသူ ဖြစ်ခဲ့၏။ ဝက်တို့အား အစားကျွေးကာ မွေးမြူထား၏။ မွေးထားသည့်ဝက်များအား လိုအပ်သည့်အခါ၌ သံလျက်နှင့် ထိုးသတ်ကာ ဟင်းလျာအဖြစ် ရောင်းချခဲ့၏။

ထိုအကုသိုလ်ကံကြောင့် ငရဲကျခဲ့ရ၏။ ငရဲမှလွတ်ပြီး အကုသိုလ်ကံကြွေးအဖြစ် ယခုကဲ့သို့ ပြိတ္တာဖြစ်ရ၏။

**၆။ သတ္တိလောမပြိတ္တာ (လှံအမွေးလက်နက် ကျရောက်ကာ စူးရောက်ခံရသောပြိတ္တာ)**

ထိုပြိတ္တာမျိုးက လူ့ဘဝ လူဖြစ်စဉ် သမင်များကို ရောင်းသတ်ခဲ့သောသူများ ဖြစ်သည်။ သမင်များအား သတ်နိုင်ရန်အတွက် သမင်အရှင်တစ်ကောင်နှင့် မျှားခေါ်ရ၏။ သမင်များရောက်လာလျှင် လှံနှင့်ထိုးသတ်၏။

ဤအကုသိုလ်ကံကြောင့် ငရဲကျရသည်။ ငရဲမှလွတ်လျှင် အကုသိုလ်အကြွင်းအကျန်ကြောင့် ပြိတ္တာဖြစ်ရသည်။

**၇။ ဥသုလောမပြိတ္တာ (မြားအမွေးလက်နက် ကျရောက်စူးနစ်ခံရသောပြိတ္တာ)**

ထိုပြိတ္တာများသည် လူဖြစ်စဉ်အခါက လူအများအပေါ်၌ နိုင်လျှင်နိုင်သလို နှိပ်စက်တတ်၏။ နောက်ဆုံး၌ မြားချွန်နှင့်ထိုးသတ်၏။

ထိုအကုသိုလ်မကောင်းမှုကြောင့် ထိုသူ ငရဲသို့ရောက်ခဲ့ရ၏။ ငရဲမှ ကျွတ်လွတ်ပြီး နောက် အကုသိုလ်ကံအကြွင်းအနေနှင့် ယခုကဲ့သို့ ပြိတ္တာဘဝ ရောက်ရှိရခြင်းဖြစ်သည်။

**၈။ သူစိလောမပြိတ္တာ (အပ်အမွေးလက်နက် စူးဝင်ကျရောက်ခံရသော ပြိတ္တာ)**

ထိုပြိတ္တာသည် လူဘဝဖြစ်စဉ်က နွား၊ မြင်းများအား ချွန်ထက်သည့်အရာများနှင့် ထိုးဆုံးမတတ်ကြ၏။ ထိုအကုသိုလ်အပြစ်ကြောင့် ငရဲ၌ ခံစားရပြီး ငရဲမှလွတ်သည့်အခါ အကုသိုလ်ကံအကြွင်းအဖြစ် ယခုကဲ့သို့ ပြိတ္တာဖြစ်ရခြင်း ဖြစ်သည်။

**၉။ ဒုတိယ သူစိလောမပြိတ္တာ (အပ်တိုသည် ခေါင်းမှဝင်၊ ပါးစပ်မှထွက် စသည်ဖြင့် အပ်အမွေးလက်နက် စူးနစ်ကျရောက်ခံစားရသည့်ပြိတ္တာ)**

ထိုပြိတ္တာသည် လူဖြစ်စဉ်အခါက ကုန်းတိုက်လေ့ရှိ၏။ လူအချင်းချင်းအား ကုန်းတိုက် ဖျက်ဆီးတတ်၏။ လူတို့အား ဘဝပျက်အောင် ဖျက်ဆီးတတ်၏။

ထိုသူသည် သေပြီးနောက် ငရဲသို့ကျရောက်ရ၏။ ထိုမှလွတ်လျှင် အကုသိုလ်ကံကြွင်း အဖြစ် ဤသို့ ပြိတ္တာဖြစ်ရ၏။

**၁၀။ ကုမ္ဘဏ္ဍပြိတ္တာ (အိုးကြီးမျှရှိသော ဝှေးစေ့အား ပိုင်ဆိုင်ရသည့်ပြိတ္တာ)**

ထိုပြိတ္တာဘဝ ကျရောက်ရသူမှာ လူဘဝ လူဖြစ်စဉ်က လူတို့၏အမှုကိစ္စများအား ဆောင်ရွက်ဆုံးဖြတ်ရာတွင် တံစိုးလက်ဆောင်ယူ၊ အဂတိလိုက်စားခဲ့၏။ ကောက်ကျစ်စဉ်းလဲ ကာ အမှန်အားအမှား၊ အမှားကို အမှန် ဆုံးဖြတ်ခဲ့၏။

ထို့အပြင် လူတို့အား ဒဏ်ပေးဒဏ်တပ်ရာ၌ မတန်မဆလုပ်၏။ မခံသာအောင်လုပ်၏။

ဤအကုသိုလ်အကျိုးကြောင့် ဝှေးစေ့ကြီးခြင်းအကျိုးအား ခံစားရ၏။ ဒဏ်တပ်ရာ၌ ရက်စက်ကြမ်းကြုတ်မှုများဖြင့် သူတစ်ပါး မခံသာအောင်ပြုသဖြင့် ဝှေးစေ့ကြီးခြင်းအကျိုး ဆက်အား ခံစားရ၏။

ဤပြိတ္တာသည် လမ်းသွားသည့်အခါ မိမိ၏ဝှေးစေ့အား အိုးကြီးထမ်းသလို ထမ်း၍ သွားရ၏။ ထိုင်သောအခါ ထိုဝှေးစေ့အား ဖိ၍ထိုင်ရ၏။ လင်းတဘီလူး၊ စွန်ရဲဘီလူးတို့က လည်း ထိုဝှေးစေ့ကြီးအား လိုက်လံထိုးဆိတ်ကြ၏။

၁၁။ ဝုတကူ ပနိမုဂ္ဂပြိတ္တာ (မစင်တွင်းကြီးတွင် နစ်နေသောပြိတ္တာ)

ဤပြိတ္တာသည် ရှေ့ဘဝလူဖြစ်စဉ်အခါက လင်ရှိမယားအား ကျူးလွန်ပြစ်မှားခဲ့၏။ မိဠှသုခ (မိန်သုခ) မစင်နှင့်တူသော ကာမချမ်းသာကို ခံစားခဲ့၏။

ထို့ကြောင့် မစင်တွင်း၌ နစ်မြုပ်သည့်ဘဝ၌ နေခဲ့ရ၏။

၁၂။ ဝူထဒါဒကပြိတ္တာ (မစင်စားရသည့်ပြိတ္တာ)

ထိုပြိတ္တာသည် ကဿပဘုရားရှင် သာသနာတော်၌ ပုဏ္ဏားတစ်ဦး ဖြစ်ခဲ့၏။ ထိုပုဏ္ဏားသည် ရဟန်းသံဃာများအား ဆွမ်းစားကြွရန် ပင့်ဖိတ်၏။ ရဟန်းသံဃာများ ရောက်လာသည့်အခါ ကျင်းထဲတွင် အပြည့်ထည့်ထားသည့် မစင်ကိုပြကာ "ကိုယ်တော်တို့...အဲဒါကို စားကြ၊ အလိုရှိသလောက်ထည့်ကြ" ဟု ယုတ်မာသည့်စိတ်နှင့် ပြောဆိုခဲ့၏။ ထိုသူသည် ယင်းအကြောင်းဆက်ကြောင့် ယခုကဲ့သို့ မစင်စားရသည့်ပြိတ္တာ ဖြစ်ခဲ့သည်။ ယုတ်မာသည့်စိတ်ကြောင့် ဆိုးရွားနိမ့်ကျသည့် ဆိုးကျိုးအား ခံစားရခြင်း ဖြစ်သည်။

၁၃။ နိစ္ဆဝိတ္ထိပြိတ္တာ (အရေမရှိသောပြိတ္တာမ)

အရေမရှိ ခြောက်ကပ်သောကိုယ်နေထားနှင့် ရှိနေသည့် ထိုပြိတ္တာသည် လူ့ဘဝ၌ရှိစဉ်အခါက မိမိလင်ယောကျ်ားအပြင် အခြားယောကျ်ားဖြင့် မှောက်မှားဖောက်ပြားခဲ့၏။

ထိုအကြောင်းကြောင့် ဤပြိတ္တာဘဝရောက်ရှိရခြင်း ဖြစ်သည်။ သူ၏အပြစ်အကုသိုလ်ကံကြောင့် ကျီးဘီလူး၊ ကျီးစွန်၊ ကျီးလင်းတတို့၏ ထိုးဆိတ်ခြင်းကိုလည်း ခံစားရ၏။

၁၄။ ဒုဂ္ဂန္ဓပြိတ္တာ (မကောင်းသောအနံ့ရှိသည့် ပြိတ္တာမ)

ထိုပြိတ္တာသည် လူ့ဘဝ လူဖြစ်စဉ်က လူများကိုးကွယ်မှု၊ ပူဇော်ပသမှုအရာ၌ လူတို့အား အယူမှားဖြစ်အောင် ပြော၏။ အယူအဆ အပြုအမူမှားအောင် ဆောင်ရွက်၏။

ထိုအကြောင်းများကြောင့်ပင် ပြိတ္တာမဘဝ ခံစားရ၏။ ထိုပြိတ္တာမ၌ မကောင်းသောအနံ့ရှိ၏။ မကောင်းသောရုပ်ရည်ခန္ဓာကိုယ်အဆင်း ရှိ၏။

၁၅။ ဩကိလိနီပြိတ္တာမ (မီးကျီးပေါ်အိပ်ရ၊ မီးကျီးနှင့်ရောပြွန်းနေရသည့်ဒုက္ခ ခံစားရသောပြိတ္တာ)

ထိုပြိတ္တာမ၏အောက်၌ ပေါက်ပွင့်အဆင်းရှိသော ရဲရဲညီသည့် မီးကျီးများခုခံလျက်



အပျော်ကျူးသော သူဌေးသားများ သေလွန်ပြီးနောက် ပြိတ္တာဘဝရောက်ရပုံ။

ရှိ၏။ နံပါးနှစ်ဖက်၊ အထက်အောက်တို့၌လည်း မီးကျီးများရောက်ရှိလျက် အပူဒုက္ခ၊ ဆင်းရဲဒုက္ခ ခံစားနေရ၏။

ထိုအမျိုးသမီးသည် ရှေးအခါက ကာလိင်္ဂမင်းကြီး၏ မိဖုရားကြီး ဖြစ်ခဲ့ဖူး၏။ ထိုအမျိုးသမီးသည် အခြားအမျိုးသမီးတစ်ဦးအား ဒေါသအမျက်ခြောင်းခြောင်းထွက်၍ ပြုံးစိတ်ဖြင့် မီးအိုးင်း (မီးကျီး)တို့ဖြင့် အမျိုးသမီး၏ခေါင်းပေါ်သို့ လောင်းချ၏။

ထိုအကြောင်းကြောင့် ငရဲကျခဲ့ရ၏။ ငရဲမှလွတ်ပြီးနောက် အကုသိုလ်ကံအကြွင်းအကျန်အနေနှင့် ယခုကဲ့သို့ မီးကျီးဖြင့် ဒုက္ခခံနေရသောပြိတ္တာ ဖြစ်နေသည်။

**၁၆။ အသိမကပြိတ္တာ (ဦးခေါင်းမပါ၊ ရင်၌သာ ခံတွင်း၊ မျက်စိရှိသောပြိတ္တာ)**

ထိုပြိတ္တာသည် လူဘဝ လူဖြစ်စဉ်က သူတစ်ပါးအား ခေါင်းပြတ်အောင်လုပ်ခဲ့သူဖြစ်သဖြင့် ယခုကဲ့သို့ ခေါင်းပြတ်ပြိတ္တာ ဖြစ်နေရခြင်းဖြစ်သည်။

**၁၇။ ဘိက္ခုပြိတ္တာ**

ထိုရဟန်းပြိတ္တာ၏ သပိတ်၊ သင်္ကန်း၊ ခါးပန်းကြိုး၊ ကိုယ်ခန္ဓာတို့သည် အလျှံတပြောင်ပြောင်၊ အပူရောင်တို့ တောက်ထွန်းပလျက် ရှိ၏။

ထိုပြိတ္တာသည် ပူလောင်နာကျင်မှုကြောင့် ကြီးကျယ်စွာ အော်ဟစ်ခံစားနေရ၏။

ယင်းပြိတ္တာသည် ကဿပဘုရားရှင် သာသနာတော်၌ ရဟန်းဖြစ်ခဲ့၏။ ကိုယ်နှုတ်စောင့်စည်းမှုမရှိ။ ထိုကိုယ်နှုတ်မသမာမှုဖြင့်ပင် အသက်မွေးဝမ်းကြောင်းပြု၏။

ယင်းသို့ အသက်မွေးဝမ်းကြောင်းပြုပြီး မြူးတူးပျော်ပါးစွာ နေထိုင်၍ ကွယ်လွန်သည့်အခါ ငရဲကျ၏။ ငရဲမှလွတ်သော်အခါ အကုသိုလ်ကံအကြွင်းကြောင့် ရဟန်းပြိတ္တာ ဖြစ်ရ၏။

**၁၈။ ဘိက္ခုနီပြိတ္တာမ (ရဟန်းမပြိတ္တာ)**

ဖြစ်စဉ်နှင့်အကျိုးဆက်မှာ ဘိက္ခုပြိတ္တာ၊ ရဟန်းပြိတ္တာအတိုင်းပင် ဖြစ်သည်။

**၁၉။ သိက္ခမာန်ပြိတ္တာ**

ဘိက္ခု၊ ဘိက္ခုနီပြိတ္တာတို့၏ ဖြစ်စဉ်အကြောင်းအတိုင်းပင် ဖြစ်သည်။

သိက္ခမာန်ဟူသည့်စကားအဓိပ္ပါယ်ကိုကား သိသင့်၏။ သိသင့်သူသိထားသော်လည်း မသိသူသိထားသင့်သည်။ မသိသူတို့အတွက် လိုရင်းအနှစ်ချုပ်အား ဖော်ပြရမည်။

'သိက္ခမာန်'သည် 'သိက္ခမာန' ပါဠိမှ ဆင်းသက်လာသည်။ ယင်းသိက္ခမာနသည် အနှစ်ချုပ်အားဖြင့် သင်ယူဆဲတပည့်ဟု အဓိပ္ပါယ်ရ၏။

ဒဂုန်ဦးထွန်းမြင့်၏ 'ပါဠိသက်အဘိဓာန်' တွင်-

ဘိက္ခုနီမ မလုပ်မီ သိက္ခာပုဒ် (၆) ပါးအား ကျင့်သုံးဆောက်တည်နေရသော ဘိက္ခုနီမလောင်းဟု ဖွင့်ဆိုထား၏။

စင်စစ် သိက္ခာပုဒ် (၆) ပါးဆိုသည်မှာ ငါးပါးသီလတွင် ဝိကာလဘောဇနာကို ပေါင်းထည့်လိုက်လျှင် သိက္ခာပုဒ် (၆) ပါးမည်၏။

ယင်းသိက္ခာပုဒ် (၆) ပါးအား ဆောက်တည်ထိန်းသိမ်းကာ ဝတ်ဖြူစည်း၍နေသူကို သိက္ခမာန်ဟု ခေါ်ဆိုခြင်းဖြစ်သည်။ ဘိက္ခုနီ (ရဟန်းမ) ဖြစ်ရန် အကျင့်သိက္ခာသင်ယူနေသော သင်ယူဆဲဖြစ်သောပုဂ္ဂိုလ် ဖြစ်သည်။

## ၂၀။ သာမဏေပြိတ္တာ (ကိုရင်ပြိတ္တာ)

ထိုကိုရင်၏ ကြောင်းကျိုးဖြစ်စဉ်မှာ ဘိက္ခု၊ ဘိက္ခုနီတို့၏သဘောအတိုင်း ဖြစ်သည်။

## ၂၁။ သာမဏေရီပြိတ္တာ (အမျိုးသမီးသာမဏေပြိတ္တာ)

ယခုအခါ ဘိက္ခု = ရဟန်း (အမျိုးသားရဟန်းသာရှိတော့ပြီး ဘိက္ခုနီ မရှိတော့။ ဘိက္ခုနီဖြစ်ရန် ကျင့်နေသော သိက္ခာမာန်သည် မရှိတော့ပေ။ သာမဏေရီလည်း မရှိတော့ပေ။ သာမဏေကိုရင်က ရှိနေသေး၏။

သိက္ခာမာန်နှင့် သာမဏေရီမှာလည်း တစ်မျိုးစီမဟုတ်ပေ။ တစ်မျိုးတည်းသာ ဖြစ်၏။

ရှင်သစ်အမှန်၊ သိက္ခမာန်နှင့်
တစ်တန်မည်ရ၊ သာမဏေရီ
ကျင့်ဝတ်ညီကား။

ရှင်ကုမာရကဿပ
(ဓမ္မရာသီပျို့)



## ပြိတ္တာ = တစ္ဆေနှင့်စပ်သိမှတ်ဖွယ်ရာဝတ္ထုများ

**အပျော်အပါးမက်၍ ပြိတ္တာဘဝရောက်ရသူများ** ရှိသည်။ သူတို့သည် ကောသလ

ရှေးအခါက သာဝတ္ထိပြည်တွင် မင်းသားလေးနှစ်ပါး

မင်း၏သားတော်များ ဖြစ်ကြသည်။

သူတို့နှစ်ဦးလုံး အပျော်အပါးမက်ကြ၏။ အပျော်အပါးဟူသောစကားရပ်၏အောက်၌ အရက်သေစာသောက်စားခြင်း၊ လောင်းကစား

ခေါင်းစဉ်ငယ်များစွာ ပေါ်ထွက်လာနိုင်၏။ အရက်သေစာသောက်စားခြင်း၊ လောင်းကစား ခြင်း၊ ငွေကြေးချမ်းသာသူများဖြစ်လျှင် ထိုငွေကြေးကို အခြေခံကာ မိန်းမလိုက်စားခြင်း

စသောခေါင်းစဉ်ငယ်များ၊ အကြောင်းအရာများ များစွာထွက်ပေါ်လာနိုင်ပေသည်။

ယခုခေတ် အနေအထားဖြင့်ကြည့်လျှင်ကား ပျော်စရာ၊ ပါးစရာတွေ ပို၍များပြားနေ၏။

ဘယ်လိုပျော်နည်းဖြင့်ပျော်ပျော်၊ အပျော်လွန်လျှင်ကား မကောင်းတော့ပေ။ မဖြစ်သင့်တာ တွေ ဖြစ်လာလျှင် ကိုယ်ကျင့်တရားပျက်သောအဖြစ် ရောက်လာတော့မည်ဖြစ်၏။ တရားခံမွေ

ပေတံဖြင့် တိုင်းတာသောအခါ ကောင်းသောဘက်၌မရှိ။ မကောင်းသောအတိုင်းအတာဘက်

များသွားနိုင်ကြော၏။

အပျော်အပါးကလေးမှသည် အပျော်အပါးကြီးများဘက် ရောက်သွားလျှင် သံသရာနောင်ရေး စိတ်မအေးဖွယ်ပင် ဖြစ်တော့၏။

ရှေးအခါက သာဝတ္ထိပြည်သား မင်းသားကလေးနှစ်ဦးတို့လည်း အပျော်အပါး မက်ခဲ့ကြ၏။ အပျော်ကြူးကြ၏။ သူတို့၏အပျော်ကြူးမှုတွင် မိန်းမကိစ္စလည်း ပါလာ၏။ သူတို့၏အပျော်ကြူးမှုတွင် ဤကိစ္စသည် အဆိုးဆုံးကိစ္စပင် ဖြစ်တော့၏။

သူတို့နှစ်ဦးသည် ငွေကြေးပြည့်စုံမှု၊ ဘဝ၏ပြည့်စုံမှုကို အခြေခံကာ မိန်းမကိစ္စအရာ၌ သာမန်အနေအထားကိုပင် ကျော်လွန်ခဲ့ကြ၏။ မိန်းမပျိုများသာမက လင်ရှိမယားများကိုပါ ကျူးလွန်ပြစ်မှားခဲ့ကြ၏။

ကောသလမင်းကြီး၏သားများဖြစ်ကြသော ထိုမင်းသားလေးနှစ်ဦးတို့ သေချိန်တန်သောအခါ သေခဲ့ကြရ၏။ လူ့ဘဝတွင်ရှိစဉ်က အပျော်အပါးများဖြင့် အချိန်ကုန်ခဲ့ခြင်း၊ သူတစ်ပါးမယား ပြစ်မှားကျူးလွန်ခြင်း စသောအကြောင်းကံများက သူတို့အား မကောင်းသောဘုံဘဝရောက်ဖို့သာ အခွင့်အလမ်းပေးခဲ့ကြ၏။ သူတို့နှစ်ယောက် ပြိတ္တာဘုံဘဝ ရောက်ခဲ့ရတော့၏။

လူ့ဘဝတုန်းက အပျော်ဟူသမျှသည် ယခုဘဝတွင်မူ ရင်နာစရာများချည်းသာ ဖြစ်လာရတော့၏။ ယခုဘဝတွင် စားချင်ရာလည်းမစားရ၊ သောက်ချင်တာလည်း မသောက်ရ၊ နေရတော့လည်း သူတို့နှစ်ယောက် ကျုံးတစ်ခု၏ဘေးမှာသာ နေရသည်။ လူ့ဘဝတုန်းက နေရသည်နှင့်ကား ကွာခြားလွန်းလှတော့၏။

ပြိတ္တာဘဝဖြစ်၍ ဆင်းရဲမှုဒဏ်အမျိုးမျိုးနှင့် တွေ့ကြုံရင်ဆိုင်ကြရမည် ဖြစ်၏။ လူ့ဘဝတုန်းက မင်း(ရှင်ဘုရင်)၏သားတော်များဖြစ်သည်အားလျော်စွာ လိုလေသေးမရှိ ပြည့်စုံခဲ့ကြ၏။ ချမ်းချမ်းသာသာ ပြည့်ပြည့်စုံစုံ ပျော်ပျော်ပါးပါးနေခဲ့ရသောဘဝကနေ ရုတ်တရက်အလွန့်အလွန် ဆင်းရဲသောဘဝ ရောက်သွားကြရသောအခါ သူတို့အနေဖြင့် ထိုဆင်းရဲမှုလောကခံကို မခံနိုင်ကြတော့ပေ။

ထို့ကြောင့် ထိုမင်းသားဘဝမှ တစ်ဖြစ်လဲလာသည့် ပြိတ္တာနှစ်ဦးတို့သည် ညညအခါ၌ အော်ဟစ်ငိုကြွေးကြတော့၏။ သူတို့၏အော်ဟစ်ငိုကြွေးသံကြီးများကို လူအများကြားကြသဖြင့် ထိတ်လန့်ကြောက်ရွံ့မှုများ ဖြစ်ကြ၏။

သူတို့နှစ်ဦး အော်ဟစ်ငိုကြွေးကြသည့် အသံကြီးများကို လူအများ မကြာခဏ ကြားနေရသဖြင့် အ-မင်္ဂလာအသံကြီးများ မကြားစေရန် ပပျောက်စေရန်အတွက် အလှူဒါနပွဲကြီးကျင်းပကြ၏။

ဗုဒ္ဓဘုရားရှင်က တရားဓမ္မ ဟောကြားတော်မူရာတွင် ထိုပြိတ္တာတို့၏ အော်ဟစ်ငိုကြွေး

သံနှင့်စပ်လျဉ်း၍ ဟောကြားတော်မူပါ၏။ မြတ်စွာဘုရားက ထိုအသံများသည် လူတို့အား အန္တရာယ်မရှိကြောင်း ဟောကြားတော်မူပါ၏။ ထိုပြိတ္တာတို့အကြောင်း ဟောကြားတော်မူပါ၏။

(ကုမာရပေတဝတ္ထု)

ပြိတ္တာတို့၏ ဘဝသက်တမ်းကား အမြဲမရှိပေ။ ကြာချင်လျှင်လည်း ဘုရားတစ်ဆူနှင့် တစ်ဆူကြားအထိပင် သက်တမ်း (နှစ်ပေါင်း) က ရှည်ကြာ၏။ ဘဝပြောင်းသင့်ကလည်း ရက်ပိုင်း၊ လပိုင်း၊ နှစ်ပိုင်းမှာပင် ပြောင်းသွားနိုင်၏။

ယခုပြဆိုခဲ့သည့် ဘုရင့်သားတော်နှစ်ပါး (ပြိတ္တာနှစ်ဦး)တို့သည် ထိုပြိတ္တာဘဝဖြင့် နှစ်ပေါင်း အဘယ်မျှကြာအောင် နေရဦးမည်မသိပေ။ ပရဒါရကံခေါ် လင်ရှိမယား ပြစ်မှား မှုကံကား အလွန်ကြောက်စရာကောင်းလှ၏။ လင်ရှိမယားသာ မဟုတ်သေး၊ မယားရှိသော လင်ကိုမှ ရယူချင်သော အမျိုးသမီးများအတွက်လည်း ကြောက်စရာကောင်းကြောင်း စဉ်းစား ဆင်ခြင်ကြရမည် ဖြစ်၏။



## ဗိမ္ဗိသာရမင်း၏ ဆွေမျိုးပြိတ္တာများ

ယခုရောက်နေဆဲ ဘဒ္ဒကမ္ဘာမှ ပြန်၍ရေတွက်သော် လွန်ခဲ့သော (၉၂) ကမ္ဘာထက်၌ ကာသိကရာဇ်ပြည်တွင် ဇယသေနမင်း မင်းပြုသည်။ ဇယသေနမင်းကြီး၏မိဖုရားမှာ သိရိမာ ဖြစ်သည်။

ထိုသိရိမာမိဖုရားမှ ဖုဿဘုရားအလောင်းတော်ကို မွေးဖွားသည်။ အစဉ်သဖြင့် နေထိုင် ကျင့်သုံးခဲ့ပြီးနောက် ဘုရားဖြစ်တော်မူသည်။ ဖုဿဘုရားရှင်ဟု ထင်ရှားတော်မူပါ၏။

ထိုဖုဿဘုရားရှင်လက်ထက်တော်တွင် သူကြွယ်မိသားစုတစ်စုတို့သည် အလှူကြီးတစ်ခု ပြုလုပ်၏။ ထိုအလှူကြီး၌ စေတနာသဒ္ဒါတရားအပြည့်ဖြင့် ဝိုင်းဝန်းကူညီကြသူများရှိသလို အလှူကို မလိုလားသူ၊ အန္တရာယ်ပြု ဖျက်ဆီးလိုသူ ဇနပုဒ်သားအချို့လည်း ရှိနေကြ၏။

ဇနပုဒ်သားအချို့တို့သည် အလှူကြီးကို အနှောင့်အယှက် ပေးကြ၏။ အန္တရာယ်ပြုကြ ၏။ ဖျက်ဆီးမှုပြုကြ၏။ လှူရန် အမွန်အမြတ်ထားရှိသော စားသောက်ဖွယ်ရာများကိုလည်း ဇနပုဒ်သားတို့က ယူငင်စားသောက်ပစ်ကြ၏။ နည်းမျိုးစုံ နှောင့်ယှက်ဖျက်ဆီးကြ၏။ နောက်ဆုံး တွင် ဆွမ်းစားဇရပ်ကိုပါ မီးရှို့ဖျက်ဆီးပစ်လိုက်ကြတော့၏။

သဒ္ဓါတရားရှိ၍ ကောင်းရာကောင်းကြောင်းလုပ်ခဲ့သူများ ကွယ်လွန်ပြီးနောက် နတ်ပြည်သို့ ရောက်ကြရ၏။ အလှူကြီးကို ဖျက်ဆီးခဲ့သူများကား ကွယ်လွန်ပြီးနောက် ငရဲသို့ ရောက်ခဲ့ကြရ၏။ ကောင်းမှုရှင်များက နတ်ပြည်တစ်ခုမှ နတ်ပြည်တစ်ခုပြောင်းလျက် ကုသိုလ်ကောင်းမှုအကျိုး ခံစားစံစားခဲ့ကြရ၏။ အလှူဖျက်ဆီးခဲ့ကြသူများကား ငရဲတစ်ခုမှ ငရဲတစ်ခု ကူးပြောင်းကျင်လည်ခဲ့ကြရ၏။

ဇနပုဒ်သားတစ်ဖြစ်လဲ ငရဲသားများသည် ငရဲ၌ ကျင်လည်ရင်း (၉၂) ကမ္ဘာလည်း ကုန်လွန်ခဲ့ရပေသည်။ ဘဒ္ဒကမ္ဘာသို့ ရောက်လာခဲ့၏။ ဤရောက်ရှိဆဲကမ္ဘာပင် ဖြစ်၏။ ကဿပဘုရားရှင် ပွင့်တော်မူနေ၏။

ဖုဿဘုရားရှင်လက်ထက်က အလှူဖျက်ဆီး၍ ငရဲကျခဲ့ရသူ ဇနပုဒ်သားများမှာလည်း ငရဲမှ လွတ်လာခဲ့ကြ၏။ သို့သော် ကောင်းရာမွန်ရာဘဝ ရောက်လာခဲ့ကြသည်တော့ မဟုတ်။ ပြိတ္တာဘဝရောက်လာခဲ့ကြရခြင်း ဖြစ်၏။ ငရဲဘဝမှ ပြိတ္တာဘဝရောက်ခဲ့ရခြင်း ဖြစ်၏။

ထိုပြိတ္တာဘဝရောက်သောအခါ၌ကား သူတို့ ကံကောင်းသွားကြလေ၏။ လူ့ပြည်မှ သူတို့၏ဆွေမျိုးများက ကုသိုလ်ပြုကာ အမျှအတန်း ပေးဝေမှုကို ခံယူကြရ၏။ အလှူ၏အဖို့ကို သူတို့ သာဓုခေါ်နိုင်ခဲ့ကြ၏။ ထို့ကြောင့်ပင် သူတို့သည် ပြိတ္တာဘဝက ကျွတ်လွတ်ကာ နတ်တို့၏စည်းစိမ်များ ရရှိသွားကြရ၏။

## ကဿပဘုရားရှင်ထံ ပြိတ္တာများလျှောက်ထား

ဇနပုဒ်သားပြိတ္တာများ အမျှကုသိုလ်ရ၍ အကျွတ်ဝင်သွားကြပုံကို အခြားပြိတ္တာများက သိမြင်သွားကြ၏။ ထိုအခြားပြိတ္တာများဆိုသည်မှာ ဗိမ္ဗိသာရမင်းကြီး၏ ဆွေမျိုးပြိတ္တာများပင် ဖြစ်ကြ၏။

ဗိမ္ဗိသာရမင်းကြီး၏ ဆွေမျိုးပြိတ္တာများသည် ဇနပုဒ်သားပြိတ္တာများ အကျွတ်ရသွားကြသည်ကို အကြောင်းပြု၍ သူတို့ဘဝလည်း ထိုဇနပုဒ်သား ပြိတ္တာတို့နည်းတူ ဖြစ်နိုင်မဖြစ်နိုင် ကဿပဘုရားရှင်ထံ ဝင်ရောက်လျှောက်ထားကြလေ၏။

ထိုအခါ ကဿပဘုရားရှင်က ဤသို့ မိန့်ကြားတော်မူ၏-

"ငါဘုရားလက်ထက် ငါဘုရားသာသနာတော်၌ သင်တို့ အကျွတ်မရနိုင်၊ နောင်တွင် ဂေါတမဗုဒ္ဓဘုရားရှင် ပွင့်တော်မူလာလိမ့်မည်။ ထိုဂေါတမဗုဒ္ဓဘုရားရှင်လက်ထက်ကျမှ သင်တို့ ကျွတ်ကြလိမ့်မည်။ ထိုကာလရောက်လျှင် သင်တို့အား ဗိမ္ဗိသာရမင်းကြီးက ကုသိုလ်အမှျ

ပေးဝေလိမ့်မည်။ ထိုအခါ သင်တို့ ကုသိုလ်အမျှရ၍ ပြိတ္တာဘဝမှ
ကျွတ်ကာ နတ်စည်းစိမ် ခံစားကြရလိမ့်မည်"

ကဿပဘုရားရှင်ထံမှ ဤအမိန့်စကားကြားရသော ပြိတ္တာတို့မှာ အလွန်ပင် ဝမ်းသာအားရ ဖြစ်သွားကြရှာ၏။ တက်ကြွစိတ်များလည်း ဖြစ်သွားကြရှာ၏။ နောက်ဘုရားတစ်ဆူ၏ သာသနာကိုပင် မနက်ဖြန်ရောက်တော့မည်ကဲ့သို့ ထင်မှတ်ခံစားနေကြရတော့၏။

ဗိမ္ဗိသာရမင်းကြီး၏ဆွေမျိုးဖြစ်သည့် ဤပြိတ္တာများ နေထိုင်ခဲ့ကြရသော အချိန်ကာလအခြေအနေကိုကြည့်လျက် ပြိတ္တာတို့ ဘဝသက်တမ်းကို ခန့်မှန်းကြည့်နိုင်သည်။ အလွန်အသက်ရှည်သည်ကို တွေ့နိုင်၏။

ဤသို့ ကာလရှည်ကြီးကို ဖြတ်သန်းနေထိုင်ရင်း ဗိမ္ဗိသာရမင်းကြီး၏ ဆွေမျိုးပြိတ္တာများသည် ဂေါတမဗုဒ္ဓ ပွင့်တော်မူသောကာလသို့ ရောက်ရှိခဲ့ကြရ၏။

တစ်ခုသောအချိန်ကာလတွင် ဗိမ္ဗိသာရမင်းကြီးသည် ဗုဒ္ဓဘုရားရှင် အမှူးပြုလျက် ရဟန်းသံဃာတော်များအား အလှူကြီးပေးသည်။ ဗိမ္ဗိသာရမင်းကြီး အလှူလုပ်သောနေရာသို့ သွားရောက်ကာ ဆွေမျိုးပြိတ္တာများ စောင့်ဆိုင်းနေကြ၏။ မင်းကြီး ပေးဝေသော ကုသိုလ်အမျှကို သာဓုအနုမောဒနာ ခေါ်ဆိုကြရတော့မည်ဟု ယုံကြည်ထားကြ၏။

တကယ်တမ်း၌မူ ပြိတ္တာများသည် မင်းကြီး၏ကုသိုလ်အမျှကို သာဓုခေါ်ခွင့်မရလိုက်ကြပေ။ ဗိမ္ဗိသာရမင်းကြီးသည် အခြားဗာဟိရကိစ္စများကြောင့် သူ့ဆွေမျိုးပြိတ္တာများအား အမျှအတမ်းပေးဝေရန် မေ့သွားပေ၏။

ပြိတ္တာများသည် စိတ်ပျက်သွားကြရှာ၏။ ထို့ကြောင့် ဗိမ္ဗိသာရမင်းကြီးအား အသိပေးနည်းတစ်မျိုးကို ပြုလုပ်ဆောင်ရွက်ကြရပေတော့၏။

ပြိတ္တာများသည် ဗိမ္ဗိသာရမင်းကြီး၏ နန်းတော်တွင်း၌ ညအချိန်တွင် ကြောက်မက်ဖွယ်ရာကောင်းလောက်သော အသံကြီးများဖြင့် အသံစုံ ဟစ်အော်ကြ၏။

ပြိတ္တာများ၏ ဟစ်အော်သံကို ဗိမ္ဗိသာရမင်းကြီး ကြားရ၏။ မင်းကြီး ကြောက်ရွံ့ထိတ်လန့်သွားသည်။ မနက်လင်းသောအခါ ဘုရင်ဗိမ္ဗိသာရမင်းကြီးသည် ညက အသံစုံဟစ်အော်ပုံကြီးအကြောင်းကို ဗုဒ္ဓဘုရားရှင်အား လျှောက်ထားသည်။ ထိုအခါ ဗိမ္ဗိသာရမင်းကြီးအား ဗုဒ္ဓဘုရားရှင်က ဤသို့ မိန့်ကြားတော်မူ၏-

"ဒကာတော်မင်းကြီး...မစိုးရိမ်လင့်၊ မကြောက်လင့်၊ မင်းကြီး ညက
ကြားရသော ဟစ်အော်သံများသည် ပြိတ္တာဖြစ်နေကြသော သင့်ဆွေမျိုး
တို့၏အသံများ ဖြစ်သည်။ ဘုရားနှစ်ဆူတို့၏အကြားကာလပတ်လုံး

သင့်အလှူ၏အဖို့အစု အမျှပေးဝေမှုကို စောင့်စားနေခဲ့ကြရ၏။ ယခု သင့်အလှူတွင် သင့်အမျှပေးဝေမှုကို မရကြ၍ သင့်အား အသိပေး သည့်အနေဖြင့် ယခုကဲ့သို့ ဟစ်အော် အသံပေးကြခြင်းဖြစ်သည် မင်းကြီး''

မြတ်စွာဘုရားထံမှ ဤမိန့်ကြားချက်ကို ကြားနာသိမှတ်ရသောအခါ ဗိမ္ဗိသာရမင်းကြီး သည် သူ၏ဆွေမျိုးပြိတ္တာများအား ရည်ညွှန်းလျက် အလှူပွဲကြီး ထပ်မံပြုလုပ်ကျင်းပသည်။ သူ၏ဆွေမျိုးပြိတ္တာများမှာ နံရံတစ်ဖက်ခြား၌ စောင့်နေကြ၏။ မင်းကြီး၏ ကုသိုလ်အမျှဝေမှု ကို သာဓုခေါ်ရန် ဖြစ်၏။

ထိုသို့ ပြိတ္တာများ နံရံတစ်ဖက်ခြား၌ စောင့်နေသည်ကို အစွဲပြု၍ တိရောကုဋ္ဋ (တိရော ကုတ်တ) ဟုခေါ်တွင်သည်။ တိရောကုဋ္ဋ၏အဓိပ္ပာယ်မှာ နံရံတစ်ဖက်ခြားဟူ၍ပင် ဖြစ်၏။ နံရံတစ်ဖက်ခြား၌ ကုသိုလ်အမျှ ရယူလို၍ စောင့်စားနေကြသော ပြိတ္တာများကို အကြောင်းပြု ဟောကြားသောသုတ်ကိုလည်း တိရောကုဋ္ဋသုတ်ဟု ခေါ်ဆိုပေသည်။

နံရံတစ်ဖက်ခြား၌ စောင့်နေကြသော ပြိတ္တာများအား ဗိမ္ဗိသာရမင်းကြီး မြင်နိုင်ရန် ဗုဒ္ဓမြတ်စွာဘုရားက တန်ခိုးတော်ဖြင့် ပြ၏။ ဗိမ္ဗိသာရမင်းကြီးသည် သူ့ဆွေမျိုးပြိတ္တာများအား ကုသိုလ်၏အဖို့ကို အမျှပေးဝေလိုက်တော့၏။ သူ့ဆွေမျိုးပြိတ္တာများသည် သာဓုအနုမောဒနာ ခေါ်ဆိုနိုင်ကာ ပြိတ္တာဘဝမှ ကျွတ်လွတ်သွားကြလေတော့၏။

ယနေ့မျက်မှောက်ခေတ် လူတို့အနေဖြင့် မသိမမြင်နိုင်သော ရှေးဘဝ၊ ခုဘဝ ဆွေမျိုး ပြိတ္တာများ ရှိနေနိုင်သည်သာ ဖြစ်၏။ အလှူဒါနပေးတိုင်း ဘဝအဆက်ဆက်က တော်စပ်ဖူး သည့် ဆွေမျိုးပြိတ္တာများကို ရည်စူးကာ အမျှပေးဝေသင့်ပါသည်။ အလှူဒါနပေးသူတစ်ဦးအဖို့ ဆွေမျိုးပြိတ္တာ မတော်စပ်ဖူးသူဟူ၍ မရှိနိုင်ကြောင်း ကျမ်းလာစကားလည်း ရှိပါသည်။ မိမိ၏ဆွေမျိုးပြိတ္တာများ ရှိနေနိုင်သည်ကို ဆင်ခြင်ရမည် ဖြစ်ပါ၏။

**(ပေတဝတ္ထုတော်ကြီး၊ ဥရဂဝဂ်၊ တိရောကုဋ္ဋပေတဝတ္ထုကို မှီး၍ရေးပါသည်။)**



## မိဿကကံ (ကုသိုလ်၊ အကုသိုလ် ရောနှောသောကံ)၏အကျိုး

**နေ့စံ ညခံရသော မိမာန်ရှင်**

ဗုဒ္ဓမြတ်စွာဘုရားသည် သာဝတ္ထိပြည်၌ သီတင်းသုံးနေစဉ် ကဏ္ဏမုဏ္ဍ (ကန်ဏမုန်ဒ) အမည်ရှိသော ပြိတ္တာမဝတ္ထုကို ဟောကြားတော်မူခဲ့ပါသည်။ ဝတ္ထုကြောင်းအကျဉ်းမှာ ဤသို့ ဖြစ်၏-

ကဿပဘုရားရှင်လက်ထက်တော်အခါက ကိမိလအမည်ရှိသောမြို့၌ ရတနာသုံးပါးကို ဆည်းကပ်ကိုးကွယ်သော ဥပါသကာတစ်ယောက် (အမျိုးကောင်းသားတစ်ယောက်) ရှိပေသည်။ ထိုအမျိုးသားသည် သာမန်ပုထုဇဉ်တစ်ယောက် မဟုတ်။ သောတာပန်တည်ပြီးသူ တစ်ယောက် ဖြစ်၏။

ထိုအမျိုးသားသည် သူနှင့် ဆန္ဒတူ၊ သဘောတူ အခြားဥပါသကာ မိတ်ဆွေကောင်း၄ါးရာ တို့နှင့်အတူ အခံ့အရံအဖြစ် ပန်းခြံများ စိုက်ပျိုးပေးခြင်း၊ တံတားဆောက်လုပ်လှူဒါန်းခြင်း၊ ကျောင်းဆောက်လှူဒါန်းခြင်း စသည့်ကောင်းမှုများ ပြုလုပ်ကြ၏။ ဘုရားသွားကျောင်းတက် ကုသိုလ်ပြုလျက်ရှိသူများ ဖြစ်ကြ၏။

ထိုသူတို့၏ အိမ်ရှင်မ (မိန်းမ) များမှာလည်း ဗုဒ္ဓဘာသာဝင်များဖြစ်ကြ၍ အကျင့်သီလ ကောင်းရှိသူများ ဖြစ်ကြ၏။ ကျောင်းတော်သို့သွားရောက်ကာ လှူဒါန်းဖွယ်ရာများ လှူဒါန်းလေ့ရှိကြ၏။ ထိုအမျိုးသမီးများသည် အိမ်နှင့်ကျောင်းတော်အကြား လမ်းခုလတ်ရှိ အဆောက်အအုံတွင် အပန်းဖြေနားနေလေ့လည်း ရှိကြ၏။

တစ်နေ့သ၌ ထိုအမျိုးသမီးငါးရာတို့ ကျောင်းတော်နှင့်အိမ် လမ်းခုလတ်အကြားရှိ အဆောက်အအုံတွင် အပန်းဖြေနားနေကြလေ၏။ ထိုအမျိုးသမီးများကို အရက်သမားများ တွေ့မြင်နေကြ၏။ ဤတွင် အရက်သမားတစ်ယောက်က-

“အကျင့်သီလကောင်းရှိတဲ့ မိန်းမတွေ၊ အဲဒီမိန်းမတွေကို ရအောင်ပိုးပန်းနိုင်တဲ့လူ ငွေတစ်ထောင်ပေးမယ်ကွ” ဟု ကြေညာချက်ထုတ်လိုက်၏။

ထိုအခါ ထိုအမူးသမားများထဲမှပင် တစ်ယောက်က ထ၍ရအောင် လုပ်ပြမည်ဖြစ်ကြောင်း တုန့်ပြန်ပြောကြားလိုက်၏။ ဤသို့ဖြင့် ရ-မရ အလောင်းအစားတစ်ခု ဖြစ်သွားတော့၏။

ရအောင်လုပ်ပြမည်ဆိုသော လောင်းကစားသမား၊ အမူးသမားသည် စောင်းတီးကာ အချစ်သီချင်းတွေ ဆိုပြတော့၏။ သူ၏ နှစ်သက်ဖွယ်ရာ စောင်းသံ၊ သီချင်းသံကြောင့် ထိုအမျိုးသမီးများထဲမှ အမျိုးသမီးတစ်ယောက်သည် စောင်းသမား တေးသံရှင်အား နှစ်သက်တွယ်တာမှု ဖြစ်လာ၏။

နောက်ဆုံး၌ ထိုတေးသံရှင် စောင်းသမား (အမူးသမား)နှင့် ထိုအမျိုးသမီး ငြိသွားကြတော့၏။ သာမန်ငြိရုံမကဘဲ ကာမအရာ၌ ဖောက်ပြားကျူးလွန်သည်အထိ ဖြစ်သွားကြတော့၏။

ဤသို့ဖြင့် ထိုအမျိုးသမီးကို ပိုးပန်းကာ အောင်နိုင်သူဖြစ်ခဲ့သည့် တေးသံရှင်စောင်းသမား (အမူးသမား)အား အခြားအလောင်းအစားလုပ်သူတို့က ရှုံးနိမ့်သဖြင့် ငွေတစ်ထောင်ကျပ် ပေးလျော်ကြရ၏။ ထိုသို့ ငွေတစ်ထောင်ကျပ်ပေးရသည်ကို မကျေနပ်ကြသဖြင့် ထိုအရှုံးသမားများသည် အလောင်းအစားနိုင်ခဲ့သူ အမျိုးသားနှင့်ထိုအမျိုးသမီးတို့ ဖောက်ပြားမှောက်မှားခဲ့ကြပုံကို ၎င်းအမျိုးသမီး၏ လင်ယောကျ်ားကို သွားရောက်တိုင်ကြားကြ၏။

သူ့ယောကျ်ားက စစ်ဆေးမေးမြန်းသောအခါ ဟုတ်မှန်လျက်နှင့် မဟုတ်ကြောင်း ငြင်းဆို၏။ ငြင်းဆိုသည်မှာ ရိုးရိုးငြင်းဆိုရုံမျှမဟုတ်ဘဲ သူ့အနားတွင်ရှိသော နားရွက်ပြတ်ခွေးနက်ကြီးကိုကြည့်ကာ-

“ကျွန်မ အခြားယောကျ်ားတစ်ယောက်နှင့် ကျူးလွန်ဖောက်ပြားခဲ့သည်ဆိုသည်မှာ

မဟုတ်မှန်ကြောင်း၊ ဟုတ်မှန်လျက်နဲ့ မဟုတ်ဟု လိမ်ညာပြောဆိုခဲ့ပါက ကျွန်မဟာ ဖြစ်လေရာဘဝ၌ ခွေးနက်ကြီးရဲ့ကိုက်စားခြင်းကို ခံရပါစေသား'' ဟု ကျိန်ဆိုလိုက်၏။

ထိုအမျိုးသမီး ကွယ်လွန်သောအခါ ဟိမဝန္တာတောင် အိုင်ကြီး (၇)အိုင်တွင် အပါအဝင်ဖြစ်သော ကဏ္ဍမုဏ္ဍအိုင်အနီးအပါးတွင် ဗိမာန်ရှင် ပြိတ္တာမတစ်ဦး ဖြစ်သွားရ၏။ ကဏ္ဍမုဏ္ဍပြိတ္တာမဟု အမည်တွင်၏။ သူ့ဗိမာန်အနီး၌ ရေကန်တစ်ကန်သည်လည်း တည်ရှိနေသေး၏။

လူ့ဘဝတုန်းက ထိုမိန်းမ၏ အပေါင်းအပါအမျိုးသမီးငါးရာတို့သည်လည်း ကွယ်လွန်ပြီးသောအခါ ထိုမိန်းမ၏ကျွန်မများ သွားဖြစ်ကြရ၏။ ထိုသို့ ကျွန်မများဖြစ်ကြရသည်မှာ သူတို့၏ကျိန်စာအရပင် ဖြစ်၏။ ထိုကဏ္ဍမုဏ္ဍပြိတ္တာမ၏ လူ့ဘဝက ခင်ပွန်းလင်သည် သူ့မိန်းမ အခြားသောယောကျ်ားတစ်ယောက်နှင့် ဖောက်ပြားခဲ့သည်မှာ ဟုတ်ပါသလားဟု မေးမြန်းရာ ထိုအမျိုးသမီးအားလုံးက မဟုတ်ပါ၊ မသိပါဟု ဟုတ်လျက်- သိလျက် မဟုတ်၊ မသိဟု လိမ်ညာပြောဆိုခဲ့၏။ သာမန်လိမ်ညာပြောဆိုရုံမျှမကဘဲ ''ဟုတ်လျက်မဟုတ်၊ သိလျက်မသိဟု ပြောဆိုခဲ့ပါက ကျွန်မတို့သည် ဖြစ်လေရာဘဝ၌ သင့်မိန်းမ၏ကျွန်မများ ဖြစ်ရပါစေ'' ဟု ကျိန်ဆိုခဲ့ကြ၏။ ထိုသို့ လိမ်ညာကျိန်ဆိုခဲ့ကြသည့်အတိုင်း သူတို့လည်း ထိုကဏ္ဍမုဏ္ဍပြိတ္တာမထံတွင် ကျွန်မများ လာဖြစ်ကြရ၏။

## နေ့စံ၍ ညခံရပုံ

ကဏ္ဍမုဏ္ဍပြိတ္တာမသည် ရှေးလူဖြစ်စဉ်ကာလက ကုသိုလ်ကောင်းမှုပြုခဲ့သည်များ၏ အကျိုးကြောင့် နေ့အခါတွင် ဘုံဗိမာန်ကြီးဖြင့် နတ်စည်းစိမ်ကို ခံစားရ၏။ ညအခါ၌ကား ကြီးစွာသော ဆင်းရဲဒုက္ခ ခံစားရပေ၏။ သူ ခံစားရသောဒုက္ခမှာ ဤသို့ ဖြစ်၏-

ကဏ္ဍမုဏ္ဍပြိတ္တာမသည် ညဉ့်နက်ပိုင်းသို့ရောက်သောအခါ သူ၏ဘုံဗိမာန်ကြီးမှဆင်းကာ သူ့ဗိမာန်အနီးရှိ ရေကန်ဘက်သို့ ဆင်းလာ၏။ ရေကန်ကမ်းအနီးရောက်သောအခါ ထိုရေကန်ထဲမှ ခွေးကြီးတစ်ကောင် ထွက်ပေါ်လာကာ ကဏ္ဍမုဏ္ဍကို ကိုက်ခဲစာမျိုတော့၏။

ခွေးကြီးမှာ ဆင်ငယ်လောက် ကိုယ်လုံးကိုယ်ထည်ကြီး၏။ နားရွက်ပြတ်နေ၏။ ထက်ချွန်ရှည်လျားသောအစွယ်များ ရှိ၏။ ရဲရဲတောက်သော မျက်လုံးအစုံရှိ၏။ လျှပ်စစ်ရောင်ကဲ့သို့ အရောင်များထွက်နေသော လျှာရှိ၏။ ခိုင်မာကြမ်းကြုတ်သော လက်သည်းများ ရှိ၏။ ခက်ထန်ကြမ်းကြုတ်၍ မည်းညစ်နေသောအမွေးများ ရှိ၏။

ထိုခွေးကြီးသည် ကဏ္ဍမုဏ္ဍပြိတ္တာမ သူ့အနားရောက်လာသည်နှင့် အငမ်းမရ ကိုက်ခဲစားသောက်တော့၏။ အရိုးမျှသာကျန်အောင် စားသုံးပစ်၏။ စားပြီးသောအခါ အရိုးများကို



နေ့အခါ နတ်သမီးကဲ့သို့ ခံစားရ၍ ညဥ့်အခါခွေးစားခံရသော နေစံ၊ ညခံပြိတ္တာ

ကိုက်ချီကာ ရေကန်အတွင်းပစ်ချလျက် ခွေးကြီး ပျောက်ကွယ်သွားတော့၏။

ထိုမိန်းမ၏အရိုးများသည် ရေကန်ထဲရောက်သွားသည်နှင့်တစ်ပြိုင်နက် ထိုအရိုးများက တစ်ဖန် ပကတိအတိုင်း ရုပ်ခန္ဓာကြီး ပြန်ဖြစ်လာရပြန်၏။ ထိုအခါ ကဏ္ဏမုဏ္ဏသည် သူ၏ဘုံဗိမာန်ကြီးသို့ ပြန်၍ဝင်ရောက်တက်ရောက်နေထိုင်ပြန်တော့၏။ မိန်းမငါးရာတို့မှာမူ ထိုမိန်းမ၏ကျွန်များအဖြစ်ဖြင့်သာ ဆင်းရဲဒုက္ခ ခံစားကြရ၏။ (ပေတဝတ္ထုတော်၊ ကဏ္ဏမုဏ္ဏ ပေတိဝတ္ထု။)

ဤဖော်ပြပါ ဇာတ်ဝတ္ထုကိုကြည့်လျှင် နေ့စံ၍ ညပိုင်းတွင် ဒုက္ခခံစားရသော ပြိတ္တာမျိုး ရှိကြောင်းလည်း သိနိုင်၏။ ကောင်းမှု-မကောင်းမှု (ကုသိုလ်-အကုသိုလ်) ရောနှောသော မိဿကကံသဘောကိုလည်း လေ့လာသိရှိနိုင်၏။ ထို့ပြင် ဤဇာတ်ဝတ္ထုအရ မမှန်မုသား ကျိန်တွယ်စကား ပြောဆိုခြင်းများမှာလည်း မိမိတို့ ကျိန်တွယ်လိုက်သည့်အတိုင်း ဖြစ်လာတတ်ကြောင်း သိထားကြရန် ဖြစ်၏။



## အသူရကာယ်

အပါယ် (၄)ဘုံတွင် 'အသူရကာယ်ဘုံ' သည်လည်း တစ်ပါးအပါအဝင် ဖြစ်သည်။ အမှန်စင်စစ် အသူရကာယ်ဘုံဟုဆိုကြသော်လည်း ထိုအသူရကာယ်တို့၌ ဘုံသီးခြားမရှိချေ။

### အသူရကာယ်စကား၏အဓိပ္ပါယ်

'အသူရကာယ်' ဟူသည့်စကားမှာ 'အသုရကာယ' ဟူသောပါဠိမှ ဆင်းသက်လာသည်။ ပါဠိသက်စကား၊ ပါဠိဖျက်စကား ဖြစ်သည်။

အသုရကာယ၊ အသူရကာယ်ပါဠိနှင့်ပတ်သက်၍ အရှင်ဇနကာဘိဝံသ၏ သဂြိုလ်ဘာသာ ဋီကာ၌-

"အစိုးရမှု၊ မြူးတူးပျော်ပါးမှု စသည်တို့ဖြင့် နတ်များကဲ့သို့ မတောက်ပ နိုင်သောကြောင့် အသူရာမည်ကြောင်း၊ အသူရာအပေါင်းသည် အသူရကာယ်မည်ကြောင်း"

ဆရာတော်က ဖွင့်ဆိုခဲ့၏။ ထို့အတူ 'သဂြိုလ်ဘာသာဋီကာ' တွင်-

"အသူရကာယ်ဘုံဟူ၍ သီးခြားမရှိ။ အသုရာအပေါင်း၏နေရာအရပ်ကို ပင် အသုရကာယ်ဘုံဟု ခေါ်ဝေါ်အပ်၏။

ဤအသုရာဟူသည် 'ပြိတ္တာ'မျိုးပင် ဖြစ်သည်။

ထို့ကြောင့် အချို့ပါဠိတော်၌ အပါယ်လေးဘုံမပြဘဲ သုံးဘုံသာ ပြထားသည်လည်း ရှိ၏။ ဤပြိတ္တာအသုရာတို့ကို ကာလကဉ္စိက အသုရာဟု ခန္ဓဝိဘင်္ဂဋ္ဌကထာ၌ ဆိုထား၏။

ထိုအသုရာတို့သည် သမုဒ္ဒရာ ဂင်္ဂါမြစ် စသည်၌နေတတ်၏။ အင်မတန် မွတ်သိပ်ဆာလောင်ကြသည်။ တချို့အသုရာတို့မှာ ဘုရားနှစ်ဆူ၊ သုံးဆူပွင့်သော်လည်း တစ်ကြိမ်မျှ မစားမသောက်ကြရလေကုန်"

ဟုပင် ခွဲခြား၍ အမျိုးမျိုးပြထားသည်ကို တွေ့ရ၏။ ထိုအသုရာလေးမျိုးတွင် အပါယ်လေးပါး၌ပါသည့် 'အသုရကာယ (အသူရကာယ်)နှင့် မဆိုင်ပေ။

အပါယ်လေးပါး၌ပါသော အသုရကာယ (အသူရကာယ်)ကား ကာလကဉ္စိက အသူရာ ပြိတ္တာတို့နှင့်သာ ဆိုင်၏။

"ကာလကဉ္စိက အသုရာတစ်ယောက်သည် ရေငတ်သဖြင့် ဂင်္ဂါမြစ်သို့ ဆင်းသက်လေရာ ရောက်တိုင်းရောက်တိုင်းသောနေရာတွင် ရေခန်းခြောက်၍ မီးခိုးများသာ ထနေသတဲ့။

တစ်ညဥ့်လုံး ဂင်္ဂါမြစ်တွင်း၌ ပြေးလွှားရင်း နံနက်လင်းသောအခါ ဆွမ်းခံကြွလာသော ရဟန်းသုံးကျိပ်အား တွေ့ရသဖြင့် အကျိုးအကြောင်းမေးကြ၍ ရေမရကြောင်း သိရသောအခါ သဲသောင်ပြင်၌ ပက်လက်အိပ်စေပြီးလျှင် ရဟန်းသုံးကျိပ်တို့ သပိတ်ကိုယ်စီနှင့် ရေခပ်၍ အထပ်ထပ် လောင်းထည့်ကြသော်လည်း ရေတစ်စက်မျှ လည်ချောင်းတွင်းသို့ မဆင်းသက်ဘဲ ရှိရပေသတဲ့။"

(ခန္ဓဝိဘင်္ဂဋ္ဌကထာ)

မှတ်ချက်-

အသုရာကာယမှ အသုရကာယ် ဖြစ်လာ၏။ မြန်မာ့မှုအရ သုကို သူဟု အသံထွက်ကာ အသူရကာယ်ဟု ခေါ်ဆိုကြခြင်း ဖြစ်သည်။

အသူရာစကားရပ်မှာလည်း အ-သူရမှ ဆင်းသက်လာကြောင်း မှတ်သားအပ်သည်။

* * *

**အသူရာ (၃) မျိုး**

အသူရာ (၃) မျိုး ရှိသည်။ ယင်းတို့ကား-

**၁။ ဝေပစိတ္တိအသူရာ**

နတ်ပြည် (၆)ထပ်မှ တာဝတိံသာနတ်တို့ကဲ့သို့ အသက်တမ်း၊ နတ်စည်းစိမ် တန်ခိုး ဣဒ္ဓိပါဒ် စသည်တို့ တန်းတူညီတူရှိလျက် မြင်းမိုရ်တောင်အောက်၌ နေကြသည့်အသူရာမျိုး။

**၂။ ဝိနိပါတိကအသူရာ**

စတုမဟာရာဇ်နတ်အနွယ်ဝင် နတ်အသူရာမျိုး ဖြစ်သည်။ စတုမဟာရာဇ်အနွယ်ဝင်ဟု ဆိုသော်လည်း စတုမဟာရာဇ်၊ တာဝတိံသာနတ်တို့လောက် မမြင့်။ တန်ခိုးမကြီးပေ။ ဝတ်ဆင်စားသောက်ရေး၊ နေထိုင်ရေး ဆင်းရဲသောဘဝမျိုး ဖြစ်သည်။

ထိုဝိနိပါတိကအသူရာမျိုးတွင် အချို့မှာ တိဟိတ်ပဋိသန္ဓေနေသောကြောင့် မဂ်ဖိုလ်နိဗ္ဗာန် ရနိုင်ကြ၏။

တိဟိတ်ပဋိသန္ဓေ - တိဟိတ်ပဋိသန္ဓေ၊ တိဟိတ်ပုဂ္ဂိုလ် တိဟိတ်စိတ်ဆိုသည်တို့နှင့် စပ်လျဉ်း၍ သိနိုင်ရန် အောက်ဖော်ပြပါကောက်နုတ်ချက်တို့အား လေ့လာရန်လိုသည်။

တိဟိတ် -၁ ။ ပဋိသန္ဓေစိတ်၌ ဉာဏ်ပါလာသောသူ၊ ဉာဏ်နှင့်ယှဉ်သော ပဋိသန္ဓေစိတ်ဖြင့် ပဋိသန္ဓေနေလာသောသူ ပညာထက်မြက်ရဲရင့်သောသူ။

၂ ။ ဟိတ်သုံးပါးနှင့်ယှဉ်သော ဉာဏသမ္ပယုတ်စိတ်၊

ဟိတ်သုံးပါးဆိုသည်မှာ-

အဟလောဘ

အဟဒေါသ

အဟမောဟ

ဟူသည် ဟိတ်သုံးပါး ဖြစ်သည်။

(သံယုတ်ပါဠိတော် အဋ္ဌကထာ)

ဒဂုန်ဦးထွန်းမြင့်၊ ပါဠိသက်ဝေါဟာရအဘိဓာန်

**၃။ ကာလကဉ္စိက အသူရာ**

ပြိတ္တာအသူရာမျိုး ဖြစ်သည်။ အသူရကာယ်ဘုံ၌ ပါဝင်သည်။ ပြိတ္တာမျိုး ဖြစ်သည်။

ကာလကဉ္စိကအသူရာပြိတ္တာတို့၏ကိုယ်ခန္ဓာသည် သုံးဂါဝုတ်ထိကြီးမားကြောင်း ကျမ်း၌ ပြဆိုထား၏။ အသားအရေက အနည်းငယ်မျှသာ ရှိ၏။ အရိုးအရေသာရှိနေ၍ ဖက်ရွက်ဟောင်းနှင့် အလားသဏ္ဌာန်တူသည်။

မျက်စိမှာမူ ပုစွန်ကဲ့သို့ ပြူးကျယ်ထွက်နေပြီး မျက်လုံးများက ဦးခေါင်းဘက်ပိုင်း ရောက်နေသည်။ ခံတွင်း၊ ပါးစပ်ပေါက်ကမူ အပ်နဖားပေါက်မျှသာ ရှိ၏။

ပါးစပ်ပေါက်မှာလည်း ဦးခေါင်းဘက်ပိုင်းသို့ ရောက်နေပေသည်။

(ပါထေယျ အဋ္ဌကထာ၊ ဇိနာလင်္ကာရဋီကာ)

## နတ်အသူရာနှင့်အပါယ်အသူရာ

နတ်အနွယ်ဝင်အသူရာနှင့် အပါယ်လေးပါးမှ အသူရကာယ် (အသူရာ)တို့သည် အခြေအနေချင်း မတူကြပေ။

ကျီးသဲလေးထပ်ဆရာတော်၏ 'စွယ်စုံကျော်ထင်ကျမ်း'၌ နတ်ပြိတ္တာနှင့်

အသူရကာယ်ပြိတ္တာ၊ အထူးကား အကြင်သူသည် လူဘဝ၌ ခိုးဝှက်

ခြင်း၊ သတ်ဖြတ်ခြင်း၊ လုယက်နှိပ်စက်ခြင်းဖြင့် ရအပ်သော ပစ္စည်း

ဥစ္စာဖြင့် ပေးကမ်းစွန့်ကြဲခြင်းဖြင့် ဒါနပြု၏။ ငါးပါးသော နိစ္စသီလ

တို့တွင် သုံးပါး (သို့မဟုတ်) လေးပါးတို့အား ကောင်းစွာဆောက်တည်

၍ တစ်ပါး သို့မဟုတ်တို့ကို လွန်ကျူးပြုကျင့်၏။

နှုတ်ဖြင့် ရတနာသုံးပါးအား ကိုးကွယ်ဆည်းကပ်၍ စိတ်ဖြင့်

မရိုမသေ ညွတ်ခြင်းပြု၏။

ထိုကံသည် ကုသိုလ်၊ အကုသိုလ်နှစ်ပါး ရောယှက်သောကြောင့်

မိဿကကံမည်၏။

ထိုကံအကျိုးပေးသည့်အခါ အကုသိုလ်ကံ ရှေ့ဆောင်အကျိုးပေးလျှင်

အပါယ်ဘုံ၌ပါဝင်သော အသူရကာယ်ပြိတ္တာ ဖြစ်ရ၏။

ကုသိုလ်ကံ ရှေ့ဆောင်၍ အကျိုးပေးလျှင် နတ်ဘုံ၌ အကျုံးဝင်လာ

သော ဝေမာနိကပြိတ္တာ ဖြစ်ရ၏။

ကျီးသဲလေးထပ်ဆရာတော်

စွယ်စုံကျော်ထင်

## အခန်း (၄)

### (က) သီလဆင်ခြင် ဒေါသစင်

ပညာရှိ သင်သည် သီလစောင့်စည်းသော သူတော်ကောင်းကြီးဖြစ်ပါလျက် စောင့်စည်းအပ်သောသီလ၏ အရင်းမူလဖြစ်သော ဟီရိဩတ္တပ္ပ ခန္တီမေတ္တာ၊ ကရုဏာတို့ကို ဖျက်ဆီးတတ်သော အမျက်ဒေါသကို မပယ်မရှား မွေးထားဘိမူ သင်နှင့်တူသော မိုက်သူမရှိဟု မိမိကိုယ်ကို ဆုံးမ၍ အမျက်ဒေါသကို ငြိမ်းသတ်စေရာ၏။

### (ခ) ရန်သူအကြိုက် တို့မလိုက်

ပညာရှိ သင့်ကို ဒေါသဖြစ်အောင် ရန်သူဆောင်လျက် မနှစ်သက်အပ်သောအမှုကို အကယ်၍ ပြုစေဦးတော့ သင်သည် ဒေါသဖြစ်စေသဖြင့် ရန်သူ၏အလိုကို မဖြည့်စေလင့်ဟု ကိုယ့်ကိုယ်ကို ဆုံးမ၍ အမျက်ဒေါသကို ငြိမ်းစေရမည်။

**(ဂ) ကံတရားကို ဆင်ခြင်၍ ဒေါသငြိမ်းစေပုံ**

ယင်းသို့ဖျောက်ပါလျက် အမျက်မငြိမ်းခဲ့မူကား မိမိ၏လည်းကောင်း၊ ရန်သူ၏လည်းကောင်း ကံသာလျှင် ဥစ္စာရှိသောအဖြစ်ကို ဆင်ခြင်အပ်၏။ (ဆင်ခြင်၍ ဒေါသကို ငြိမ်းစေရာ၏။)

**(ဃ) စိတ်ဆိုးနေလို့ အကျိုးမရှိ**

အဘယ်သို့ ဆင်ခြင်အပ်သနည်းဟူမူ အကြင်ပညာရှိ သင်သည် ရန်သူအား အမျက်ထွက်၍ ဘယ်အကျိုးရှိအံ့နည်း။ သင် အမျက်ထွက်ခြင်းလျှင် အကြောင်းရှိသော မကောင်းမှုကံသည် သင်၏အကျိုးမဲ့ကိုသာ ဆောင်လတ္တံ့မဟုတ်လော၊ သင်သည် ကံသာလျှင် ဥစ္စာရှိ၏၊ ကံသာလျှင် အမွေရှိ၏၊ ကံသာလျှင် အကြောင်းရှိ၏၊ ကံသာလျှင် ဆွေမျိုးရှိ၏၊ ကံသာလျှင် ကိုးကွယ်လဲလျောင်းရာ ရှိ၏။ အကြင်ကံကို သင် ပြုအံ့၊ ထိုကံ၏အမွေခံသာ ဖြစ်လတ္တံ့၊ ထို့ကြောင့် သူ့အား အမျက်ထွက်၍ အဘယ်အမှု ပြီးစီးပေးအံ့နည်း။

**(င) ကောင်းကျိုးမပေးသော ဒေါသ**

သင်၏အမျက်ထွက်သော မကောင်းမှုကံသည် သမ္မာသမ္ဗောဓိဆု၊ ပစ္စေကဗောဓိဆု၊ သာဝကဗောဓိဆုကိုလည်းကောင်း၊ ဗြဟ္မာသကြားအဖြစ်ကိုလည်းကောင်း ပဒေသရာဇ် ဧကရာဇ် စကြဝတေး စသည်တို့တွင် တစ်ပါးပါးသော စည်းစိမ်ကိုလည်းကောင်း ပြီးစေနိုင်သည်မဟုတ်။ စင်စစ်သော်ကား သင်၏ဒေါသသည် ချမ်းသာမှုလျော့ပါး စားကြွင်းစားကျန် အဖြစ် အဆင်းမလှသောအဖြစ်ကိုလည်းကောင်း ငရဲတိရစ္ဆာန်တို့၌ ကြီးစွာသော ဆင်းရဲမှုကိုလည်းကောင်း ဖြစ်ဘိရာသည်။

**(စ) မီးကျီးဒေါသ**

အမျက်ထွက်သော သင်သည် လက်နှစ်ဖက်ဖြင့် ရဲရဲညီးသော မီးကျီးခဲကိုကိုင်၍ သူတစ်ပါးအား ပစ်ခတ်သော ယောကျ်ားသည် မိမိကိုသာ ရှေးဦးစွာ ထိုမီးလောင်သကဲ့သို့လည်းကောင်း။

## နတ်ဘုံ

**နတ်ပြည် (၆)ထပ်၊ နတ်ဘုံ (၆) ဘုံ**

နတ်ပြည် (၆)ထပ်ဆိုသည်မှာ-

၁။ စတုမဟာရာဇ်နတ်ပြည်

၂။ တာဝတိံသာနတ်ပြည်

၃။ ယာမာနတ်ပြည်

၄။ တုသိတာနတ်ပြည်

၅။ နိမ္မာနရတိ နတ်ပြည်

၆။ ပရနိမ္မိတဝသဝတ္တီနတ်ပြည် စသည်တို့ဖြစ်သည်။

**နတ်ဟူသည်...**

'နာထ'ဟူသော ပါဠိမှ 'နတ်'ဟု ဖြစ်လာသည်။

(အချို့တွင် မြတ်စွာဘုရားရှင်အား လောကနာထဟုဆို၏။ လောကနာထ သည် လောကနတ်ဟု အဓိပ္ပာယ်ရပြီး လောက၏ကိုးကွယ်ရာ မြတ်စွာ ဘုရားဟု အဓိပ္ပာယ်ရ၏)

မြတ်စွာဘုရားသည် ကိုးကွယ်ရာအစစ်ဟု ယုံကြည်ကြရမည်။ နတ်တို့အားမူကား အထွတ်အမြတ်ကိုးကွယ်ရာ ကိုးကွယ်ရာအစစ်ဟု မထင်မှတ်မိဖို့ အရေးကြီးသည်။

သို့သော် နတ်တို့အား ဘေးဖယ်ထားရန်မဟုတ်။ ပူဇော်ပသမှုပြုနိုင်သည်။ နတ်စာကျွေးခြင်းပြုနိုင်၏။ နတ်တို့အား မေတ္တာပို့ရမည်။ ကုသိုလ်ပြုလျှင် နတ်တို့အား အမျှဝေရမည်။

နတ်တို့သည် ဤသို့ပြုလုပ်လျှင် နတ်တို့ကလည်း အတုန့်အပြန် စောင်မကူညီ၏။ 'နတ်လိုမှဂြိုလ်မ' ဆိုသည့်စကားသည် မှတ်သားဖွယ်ဖြစ်၏။

## စတုမဟာရာဇ်နတ်ဘုံ

စတုမဟာရာဇ်နတ်တို့၏သက်တမ်းသည် နှစ်ပေါင်း (၁၀၀) ဖြစ်သည်။ ထိုနတ်တွက်နည်း နှစ်ပေါင်း ၅၀၀ သည် လူတို့တွက်နည်းအရ နှစ်ပေါင်း ၉ သန်းဖြစ်၏။

စတုမဟာရာဇ်နတ်ဘုံ၏ တစ်နေ့၊ တစ်ညဉ့်၊ တစ်ရက်သည် လူသက် နှစ် (၅၀) ဖြစ်၏။

စတုမဟာရာဇ်နတ်ဘုံသည် မြင်းမိုရ်တောင်၏အလယ်ခါးပိုင်း၌ တည်ရှိသည်။

## စတုမဟာရာဇ်အဓိပ္ပာယ်နှင့် နတ်မင်းကြီး (၄)ပါး

စတုမဟာရာဇိကဟူသည် ပါဠိမှ စတုမဟာရာဇ် ဖြစ်လာခဲ့သည်။

စတုမဟာရာဇ်နတ်မင်းကြီးများ စတုမဟာရာဇ်= စတု = ၄ ယောက်သော မဟာရာဇ (မဟာရာဇ်) နတ်မင်းကြီး (၄) ပါးဟု အဓိပ္ပာယ်ရ၏။ ယင်းစတုမဟာရာဇ်နတ်မင်းကြီး (၄) ပါးမှာ-

၁။ ဓတရဋ္ဌနတ်မင်းကြီး

၂။ ဝိရူဠှကနတ်မင်းကြီး

၃။ ဝိရူပက္ခနတ်မင်းကြီး

၄။ ကုဝေရ (သရဝဏ်) နတ်မင်းကြီးဟူ၍ ဖြစ်သည်။

ထိုနတ်မင်းကြီး (၄) ပါးအား-

* စတုလောကပါလနတ်မင်းကြီး (၄)ပါး

* စတုမဟာရာဇ်နတ်မင်းကြီး (၄) ပါး

* လောကပါလနတ်မင်းကြီး (၄) ပါး စသည်ဖြင့် ခေါ်ဆိုကြသည်။

ထိုနတ်မင်းကြီး (၄) ပါး စံရာ၊ အုပ်ချုပ်ရာ နတ်ပြည်၊ နတ်ဘုံကို စတုမဟာရာဇ်နတ်ပြည်၊ စတုမဟာရာဇ်နတ်ဘုံဟု ခေါ်သည်။

**စတုမဟာရာဇ်နတ်ဘုံဖြစ်တည်ပုံ**

စကြာဝဠာတံတိုင်းကြီးလည်း အထူးထူးသော ရတနာကျောက်တို့ဖြင့်ပြီးသော ကျောက်တံတိုင်းကြီး ဖြစ်လေ၏။ ယုဂန္ဓိုရ်တောင်ကြီးလည်း အထူးထူးသော ရတနာကျောက်တို့ဖြင့်ပြီးသော ကျောက်တောင်ကြီး ဖြစ်လေသည်။

ကြွင်းသောတောင်စဉ်တို့သည်လည်း ထိုနည်းအတိုင်းပင် ဖြစ်လေသည်။ ဤယုဂန္ဓိုရ်တောင်ထိပ်၌ လောကပါလနတ်မင်းကြီး (၄) ပါးတို့ နေစရာဥယျာဉ်ပန်းမာန်နှင့်တကွ သတ္တဝါဆိတ်သုန်းဘုံဗိမာန်လည်း ဖြစ်၏။ နတ်မင်းကြီး (၄) ပါးမှကြွင်းသော တစ်ပါးသောနတ်တို့ နေစရာဘုံဗိမာန်လည်း ဖြစ်ပေါ်ကြလေကုန်၏။

ယုဂန္ဓိုရ်တောင်ထိပ်အရပ်ကို လောကပါလနတ်မင်းကြီး (၄) ပါး နေရာ၊ အုပ်စိုးရာဖြစ်သဖြင့် စတုမဟာရာဇ်နတ်ဘုံဟု ခေါ်သည်။

(ပဏ္ဍိတဝေဒနိယကျမ်း)

ထိုနတ်ဘုံသည် လုံခြုံမှုအပြည့်ရှိသော နတ်ဘုံ ဖြစ်၏။

**နတ်မင်းကြီး (၄) ပါးအကြောင်း**

နတ်မင်းကြီး (၄) ပါးမှာ-

ဓတရဋ္ဌ၊ ဝိရူဠှက၊ ဝိရူပက္ခ၊ ကုဝေရ (သရဝဏ်) ဟူ၍ ဖြစ်သည်။ စတုမဟာရာ နတ်မင်းကြီး (၄) ပါး၊ နတ်စစ်သူကြီးလေးပါးပင် ဖြစ်သည်။

**၁။ ဓတရဋ္ဌနတ်မင်းကြီး**

ဓတရဋ္ဌနတ်မင်းကြီးအား မြင်းမိုရ်တောင်၏အရှေ့မျက်နှာအရပ်အား စောင့်ရှောက်အစိုး သောနတ်မင်းကြီး ဖြစ်သည်။ ယင်းဓတရဋ္ဌနတ်မင်းကြီးသည် ဂန္ဓဗ္ဗနတ်တို့၏အကြီးအက ဖြစ်သည်။

ဂန္ဓဗ္ဗနတ်တို့အား အစိုးရအုပ်ချုပ်ရ၏။

ကခြင်း၊ သီဆိုခြင်းတို့၌ မွေ့လျော်၏။

သီချင်းသီနတ်မျိုး ဖြစ်၏။

ယင်းဓတရဋ္ဌနတ်မင်းကြီး၌ သား (၉၁) ယောက် ရှိ၏။ သို့သော် သားအားလုံး

အမည်သည် တစ်ခုတည်း ဖြစ်၏။ အမည်တူများ ဖြစ်၏။ သားအားလုံးသည် ဣန္ဒဟု အမည်တွင်၏။

ဓတရဋ္ဌနတ်မင်းကြီးသည် မြင်းမိုရ်တောင်၏အလယ်၊ ယုဂန္ဓိုရ်တောင်၏ထိပ်၊ အလျား အနံ့ယူဇနာ ၁၀၀၀ (တစ်ထောင်)စီရှိသည့် နတ်မြို့တော်ကြီး ဖြစ်သည်။

နတ်မင်းကြီးသည် ထိုနတ်မြို့တော်၌ ဘုန်းတန်ခိုးကြောင့်၊ ကုသိုလ်အစွမ်းကြောင့် ဖြစ်ပေါ်လာသည့် ငွေဗိမာန်တွင် နေထိုင်၏။ သူ၏ငွေဗိမာန်သည် (၂၅) ယူဇနာ ကြီးမား၏။ ငွေဗိမာန်၌ နတ်တို့၏အသုံးအဆောင် လိုလေသေးမရှိ ပြည့်စုံ၏။ ထိုငွေဗိမာန်ကြီးသည် မြင်းမိုရ်တောင်၏ အာလိန်ငါးဆင့်ကဏ္ဍကကြည့်လျှင် ပဌမအာလိန်၌ တည်ရှိ၏။

ဤဓတရဋ္ဌနတ်မင်းကြီးသည် သိကြားမင်းရှိရာ တာဝတိံသာသို့ အသုရာများ စစ်ချီတက် တိုက်ခိုက်ခြင်းမပြုရန် သိကြားမင်း၏အစောင့်ချထားခြင်းခံရသူ နတ်စစ်သူကြီး (၄) ဦးအနက် တစ်ဦး ဖြစ်သည်။

## ဘုမ္မစိုးနတ်များ

လူ့ပြည်၊ လူ့မြေ၌ ကျင်လည်ကျက်စားနေထိုင်ကြသော နတ်ဟူသမျှသည် ဘုမ္မစိုးနတ်များ ထဲ၌ ပါဝင်ကြောင်း မှတ်သားရ၏။

သို့ဖြစ်ရာ မြေကိုမှီ၍နေသော ဂန္ဓဗ္ဗနတ်မျိုးများကို ဘုမ္မစိုးနတ် စာရင်းသွင်းရမည် ဖြစ်၏။ ၎င်းနတ်များသည် ဘုမ္မစိုးနတ်များစာရင်း၌ ပါဝင်သော်လည်း စတုမဟာရာဇ်နတ် အနွယ်ဝင်များ ဖြစ်၏။

နာမည်ကျော်နတ်များ ဖြစ်သည်။ မာတလိ၊ ပဉ္စသိခတိမ္ဗရု၊ သူရိယဝစ္ဆသာ စသည်တို့ သည် ဂန္ဓဗ္ဗနတ်မျိုး ဖြစ်ကြ၏။ ဓတရဋ္ဌနတ်မင်းကြီး၏ လက်အောက်နယ်ပယ်၌ ရှိကြ၏။

## ၂။ ဝိရူဠ္ဍကနတ်မင်းကြီး

ဝိရူဠ္ဍကနတ်မင်းကြီးသည် ယုဂန္ဓိုရ်တောင်ထိပ်၊ မြင်းမိုရ်တောင်၏ခါးလယ် တောင်မျက်နှာအရပ်၌ ဘုမ္မဏ်စစ်သည်များစွာနှင့် အတူနေ၏။

အလျား၊ အနံ့ယူဇနာ (၁၀၀၀) စီ ကျယ်ဝန်းသည့်နတ်မြို့၌ နေထိုင်သည်။

ဝိရူဠ္ဍကနတ်မင်းကြီးသည်လည်း ဓတရဋ္ဌနတ်မင်းကြီးကဲ့သို့ပင် ခန်းနားသည့်အဆောင် အဆောင်များနှင့် နေထိုင်၏။ ထိုနတ်မင်းကြီးသည် ကခုန်ပျော်ပါးခြင်းကို နှစ်သက်ခုံမင်၏။

ယင်းနတ်မင်းကြီး၏ဗိမာန်သည် ပတ္တမြားဗိမာန် ဖြစ်၏။

ထိုနတ်မင်းကြီး၌ သား (၉) ယောက် ရှိသည်။ ထိုသားအားလုံးသည် အမည်တူ ဣန္ဒဟု ဖြစ်၏။

**လက်အောက်ခံနတ်များ**

ဝိရူဋ္ဌကနတ်မင်းကြီး၏ လက်အောက်ခံနတ်များသည် ဂုမ္ဘဏ်၊ ရက္ခိုက်များ ဖြစ်၏။ ထိုနတ်ဘီလူးတို့သည် ဝေပုလ္လတောင်ယံ မဏိဓာတရသ်ပတ္တမြားရတနာ၊ ဟိမဝန္တာရှိ ဘဒ္ဒရသရက်ပင်တောတောင်များ၌ရှိသော ရတနာအမျိုးမျိုး၊ ပန်းပင်အမျိုးမျိုး၊ နံ့သာပင်အမျိုးမျိုး၊ မြစ်ကြီး၊ အိုင်ကြီး၊ ရေကန် စသည်တို့အား စောင့်ရှောက်လေ့ရှိ၏။

အချို့ဂုမ္ဘာန်၊ ရက္ခိုက်တို့သည် စတုမဟာရာဇ်နတ်မင်းကြီးလေးပါးထံမှ အပိုင်စားရထားသောနေရာ သူတို့စောင့်ရှောက်သော အရာဝတ္ထုတို့အား ကျူးကျော်ဖျက်ဆီးနှောင့်ယှက်သူများအား ဖမ်းယူသတ်ဖြတ်စားလေ့ ရှိသည်။

**၃။ ဝိရူပက္ခ နတ်မင်းကြီး**

ဝိရူပက္ခနတ်မင်းကြီးသည် ယုဂန္ဓိုရ်တောင်ထိပ်၊ မြင်းမိုရ်တောင်၏ခါးလယ်၊ မြင်းမိုရ်တောင်၏အနောက်ဘက်၊ အနောက်မျက်နှာအရပ် ဖန်ဗိမာန်နှင့် နေထိုင်၏။

ဗိမာန်အရောင် ကွဲပြားသော်လည်း ဘုံဗိမာန်၏အဆောင်အယောင်၊ အခင်းအကျင်း၊ စည်းစိမ်ချမ်းသာမှာ အတူတူပင် ဖြစ်၏။

ဝိရူပက္ခနတ်မင်းကြီးသည် နတ်နဂါးတို့အား အစိုးရသည့်နတ်မင်းကြီး ဖြစ်၏။ ကခြင်း၊ သီဆိုခြင်းအား ဝါသနာပါသူဖြစ်၏။

ထိုနတ်မင်းကြီး၌လည်း သား (၉) ယောက်ရှိပြီး အားလုံး၏အမည်မှာ ဣန္ဒပင် ဖြစ်သည်။

**လက်အောက်ခံနတ်နဂါးများ**

နတ်မင်းကြီး၏လက်အောက်ခံ နတ်နဂါးများ၌ ကမ္ဗဘသိဒ္ဓိတန်ခိုး ရှိ၏။ နတ်ဟူ၍ဆိုထားသော်လည်း ကောင်းကင်ဘုံမှ နတ်များနှင့်မတူပါ။ ယင်းနတ်နဂါးတို့က နတ်နဂါးဟုဆိုသော်လည်း တိရစ္ဆာန်မျိုး၌ ပါဝင်၏။

ခွေး၊ ဝက်၊ ကြက်၊ ကျွဲ၊ နွားတို့နှင့်ကား ခြားနား၏။



ဝိရူဋ္ဌက နတ်မင်းကြီး

နတ်နဂါးတို့သည် တိရစ္ဆာန်နွယ်ဝင်များဖြစ်ကြသော်လည်း တိရစ္ဆာန်ဘုံသားစစ်စစ်ဟု မခေါ်နိုင်ချေ။ ထို့ကြောင့် စတုမဟာရာဇ်နတ်မင်းကြီးများ၏လက်အောက်ခံဟု ကျမ်းစာများမှ ပြဆိုခြင်းဖြစ်သည်။

ဤဝိရူပက္ခနတ်မင်းကြီး လက်အောက်ခံနတ်နဂါးအချို့မှ ကြောက်စရာကောင်း၏။ သူတို့သည် သူတစ်ပါးအား နှိပ်စက်ညှဉ်းပန်းလိုစိတ် ရှိ၏။

အပျော်စိတ်၊ အပျော်သဘောဖြင့် သူတစ်ပါးအား နှိပ်စက်ညှဉ်းပန်းခြင်းများလည်း ပြုတတ်၏။ ခွေး၊ လင်းတ၊ ကျား၊ ခြင်္သေ့ ငရဲထိန်း စသည်တို့အယောင်ဆောင်၍ ငရဲသူငရဲသားသတ္တဝါများအား ညှဉ်းပန်းနှိပ်စက်သတ်ဖြတ်စားလိုသောကြောင့် ငရဲပြည်သို့ပင် သွားရောက်လည်ပတ်တတ်ကြ၏။

**၄။ ကုဝေရ (ဝေဿဝဏ် )နတ်မင်းကြီး**

**ကုဝေရ** (ခေါ်) ဝေဿဝဏ်နတ်မင်းကြီး၏အကြောင်းသည် အခြားသောနတ်မင်းတို့ထက် ကျယ်ပြန့်သည်ကို တွေ့ရ၏။

ကုဝေရ (ခေါ်) ဝေဿဝဏ်နတ်မင်းကြီးသည် မြင်းမိုရ်တောင်မြောက်ဘက်မျက်နှာ၊ မြောက်ဘက်ပိုင်းကို အုပ်ချုပ်ရ၏။ ၎င်းကုဝေရ (ခေါ်) ဝေဿဝဏ်နတ်မင်းကြီးသည် ရွှေရောင်ဗိမာန်၌ စံမြန်းနေထိုင်၏။

ကုဝေရ (ခေါ်) ဝေဿဝဏ်နတ်မင်းကြီးသည် နတ်ဘီလူးများကို အုပ်ချုပ်အစိုးရ၏။ နတ်ဘီလူးအပေါင်းခြံရံလျက် ကခုန်သီဆိုခြင်းနှင့် ပျော်မွေ့၏။

ထိုနတ်မင်းကြီးတွင်လည်း သား (၉)ယောက်ရှိပြီး သားတို့၏အမည်များမှာ ဣန္ဒချည်းပင် ဖြစ်၏။

* * *

ကုဝေရနတ်မင်းကြီးသည် ဗုဒ္ဓဘုရားရှင် ပွင့်တော်မမူမီကာလက ပုဏ္ဏားတစ်ဦး ဖြစ်ခဲ့၏။

ထိုစဉ်ကလည်း သူ့အမည်မှာ ကုဝေရ ဖြစ်၏။

ထိုကုဝေရပုဏ္ဏားဖြစ်စဉ်က ကြံစိုက်ခြင်းအလုပ်အား လုပ်ကိုင်အသက်မွေးခဲ့၏။ လုပ်ငန်းမှရလာသောငွေများဖြင့် ကုသိုလ်ကောင်းမှုပြု၏။ သူသည် နှစ်ပေါင်း ၂၀၀၀၀ တိုင်တိုင် အလှူဒါနပြု၊ ကုသိုလ်ကောင်းမှုများ ပြုလုပ်ခဲ့၏။

ပုဏ္ဏားဘဝမှ ကွယ်လွန်သောအခါ ထိုကောင်းမှုကြောင့်ပင် ကုဝေရပုဏ္ဏားသည်

စတုမဟာရာဇ်ဘုံ၌ ကုဝေရအမည်နှင့်ပင် နတ်မင်းကြီး ဖြစ်လာခဲ့၏။

ကုဝေရနတ်မင်းကြီးသည် ဗိသာဏာမင်း နေပြည်တော်အား အစိုးရခြင်းအားအစွဲပြု၍ ဝေဿဝဏ်ဟူသောအမည်ပါ ပူးတွဲတွင်ခဲ့သည်။

ယင်းကုဝေရနတ်မင်းကြီးခေါ် ဝေဿဝဏ်နတ်မင်းကြီးသည် အလွန်တန်ခိုးကြီးသူများထဲ၌ တစ်ဦးအပါအဝင်ဖြစ်ပြီး အလွန်တရာ အစွမ်းထက်သည့်လက်နက်အား ပိုင်ဆိုင်သည့်ပုဂ္ဂိုလ် လေးဦးအနက် တစ်ဦးအပါအဝင် ဖြစ်၏။

ယင်းတို့ကား-

၁။ ဝရဇိန်လက်နက်ပါဆိုင်သည့် သိကြားမင်း

၂။ သံတင်းပုတ်လက်နက်ပိုင်ဆိုင်သည့် ကုဝေရ (ခေါ်) ဝေဿဝဏ်နတ်မင်းကြီး

၃။ မျက်စောင်းလက်နက်ပိုင်ဆိုင်သည့် ယမနတ်မင်း

၄။ ဘွဲ့ဖြူပုဆိုးလက်နက်ပိုင်ဆိုင်သည့် အာဠဝကဘီလူးမင်း

စသည်တို့ပင်။

ကုဝေရ (ခေါ်) ဝေဿဝဏ်နတ်မင်းကြီးက သိကြားမင်းနှင့် ရင်းနှီးကျွမ်းဝင်လှသကဲ့သို့ ဗုဒ္ဓဘုရားရှင်နှင့်လည်း အကျွမ်းဝင်သောပုဂ္ဂိုလ်တစ်ဦး ဖြစ်သည်။

ကုဝေရခေါ် ဝေဿဝဏ်နတ်မင်းကြီးသည် စကားအပြောအဆိုအရာ၌ လိမ္မာရဲရင့်ခြင်းနှင့် ပြည့်စုံသူလည်း ဖြစ်သည်။

**ကုဝေရ (ခေါ်) ဝေဿဝဏ်နတ်မင်းကြီးနှင့် အာဋာနာဋိယသုတ်တော်**

ဗုဒ္ဓဘုရားနှင့် ရာဇဂြိုလ်ပြည်အနီး ဂိဇ္ဈကုဋ်တောင်ကျောင်း၌ သီတင်းသုံးနေစဉ် ညဥ့်သန်းခေါင်ယံအချိန်၌ နတ်မင်းကြီးလေးပါး ဘုရားရှင်ထံ ရောက်လာ၏။

နတ်မင်းကြီးလေးပါးနှင့်အတူ နတ်ဘီလူးများလည်း ပါလာ၏။

ကုဝေရခေါ် ဝေဿဝဏ်နတ်မင်းကြီးက-

"နတ်ဘီလူးလောကတွင် စောင့်စည်းသော နတ်ဘီလူးများရှိသလို တားမြစ်ချက်ကို ဖောက်ဖျက်သည့် နတ်ဘီလူးများရှိကြောင်း၊ ထို့ကြောင့် ဘုရားရှင်နှင့် ပရိသတ်အား နတ်ဘီလူးတို့ မနှိပ်စက်နိုင်ရန်၊ မနှောင့်ယှက်နိုင်ရန် အကာအကွယ် အစောင့်အရှောက်အဖြစ် အာဋာနာဋိယပရိတ်တော်အား ပေးအပ်ရာ ဘုရားရှင်က လက်ခံသဖြင့် နတ်မင်းကြီးက ဝိပဿီဿစနမတ္ထု အစရှိသည့် စာသားအား ရွတ်ဆို

ပြ၏။

အာဋာနာဋိယဟု အမည်ပညတ်တွင်ခြင်းမှာ ဝေဿဝဏ်နတ်မင်းကြီးနှင့်အတူ အခြားနတ်မင်းကြီးများ အာဋာနာဋိယမြို့၌ ဂါထာအဖြစ်သီဖွဲ့အပ်ဖွဲ့ဆိုအပ်သော ပရိတ်အရံအတားဖြစ်၍ အာဋာနာဋိယပရိတ်တော် ခေါ်တွင်ခဲ့ခြင်းဖြစ်၏။

မှတ်ချက် -

နတ်ဘီလူး၊ နတ်မိစ္ဆာတို့ အနှောင့်အယှက်ပြုခြင်း၊ အမှောင့်ပယောဂဖြင့် နှိပ်စက်ညှင်းပန်းမှုများပြုလာလျှင် အာဋာနာဋိယပရိတ်တော်အား ရွတ်ဖတ်ကြရာ၏။



## ရဟန်းရှင်လူတို့အား ဝင်ပူးနှောင့်ယှက်နှိပ်စက်ညှဉ်းဆဲသည့် စုန်း-တစ္ဆေ = ပြိတ္တာ-နတ်ဘီလူး စသည်တို့အား ဓမ္မနည်းကျ တုံ့ပြန်နှင်ထုတ်ခြင်း

စတုမဟာရာဇ်နတ်မင်းကြီးလေးပါးတို့၏လက်အောက်ခံ၊ နတ်အညံ့စားများ၊ စုန်း၊ တစ္ဆေ = ပြိတ္တာ၊ နတ်ဘီလူး စသည်များသည် စတုမဟာရာဇ်အနွယ်ဝင်ဖြင့် အနှောင့်အယှက်ပေးနိုင်ကြ၏။ လူတို့အား နည်းမျိုးစုံ

အကျင့်သီလကောင်းနှင့်ပြည့်စုံသည့် ပုဂ္ဂိုလ်များသည်ပင်လျှင် ကံနိမ့်သောအခါ ကံဆိုးကြမ္မာဆိုး ကျရောက်နေသောအခါ ထိုထိုမကောင်းဆိုးဝါးတို့၏ပြုစားခြင်း၊ နှောင့်ယှက်ခြင်း၊ နှိပ်စက်ညှဉ်းပန်းခြင်းကို ခံရတတ်ပေသည်။

စုန်း၊ တစ္ဆေ = ပြိတ္တာ၊ နတ်ဘီလူး၊ နတ်ပြိတ္တာ၊ နတ်အညံ့စား ထိုထိုမကောင်းဆိုးဝါးများသည် လူ့ပတ်ဝန်းကျင်၌ အများအပြား ကျင်လည်ကျက်စားလျက်ရှိကြရာ ထိုထိုသတ္တဝါများအား လူတို့အနေနှင့် အထူးသတိထားကြရမည် ဖြစ်၏။

**သံဃာအား ဓမ္မစက်အားဖြင့် ဆောင်ရွက်ခြင်း**

အချို့နေရာများတွင် သံဃာအား၊ ဓမ္မစက်အားဖြင့် ရင်ဆိုင်ဖြေရှင်းကြရ၏။ ရန်ကုန်တိုင်းဒေသကြီး၊ အင်းစိန်မြို့နယ်၊ ရွာမပရိယတ္တိစာသင်တိုက်တွင် လွန်ခဲ့သောကာလတစ်ခုက ဥစ္စာစောင့်တစ်ဦး နှောင့်ယှက်မှုဖြစ်ရပ် ကြုံဆုံခဲ့ရဖူး၏။

ထိုဥစ္စာစောင့်မိသားစုနေသော မြေပေါ်တွင် ဘုန်းတော်ကြီးကျောင်းသစ် ဆောက်လုပ်ခြင်းမှ ပြဿနာစခဲ့သည်။ ထိုကျောင်းသစ်ပေါ် နေထိုင်ကြသည့် ရှင်၊ ရဟန်းတို့အား အဝတ်ဖြုန့်နှင့် ဥစ္စာစောင့်ကြီးက ခြောက်လှန့်သည်။ နောက်ပိုင်းတွင် တဖြည်းဖြည်းချင်း သောင်းကျန်းလာသည်။ ခုတင်ပေါ် အိပ်နေသော ရှင်၊ ရဟန်းတို့အား ခြေထောက်ကို ဆွဲကိုင်လှုပ်ယမ်းခြင်းမျိုးများ လုပ်လာ၏။

ဤကဲ့သို့ အလားတူပြုလုပ်မများ၊ ခြောက်လှန့်မှုများကို ကျောင်းရှိ ရှင်ရဟန်းများအားလုံး သိရှိနေကြပြီ ဖြစ်၏။ အဆိုးဆုံးမှာ ဥစ္စာစောင့်ကြီးသည် သာမဏေလေးတစ်ပါးအား ရောဂါဝေဒနာ ခံစားရသည်အထိ ပြုလုပ်ထားလိုက်တော့၏။ ရောဂါပျောက်ရန် မိန္နောဆေးဆရာများ ဖိတ်ကြားကုသကြရ၏။ မရပေ၊ မပျောက်ပေ။ လူနာကို လာရောက်ကုသသော ဆရာများပင် ဒုက္ခရောက်သွားကြရသေး၏။

တစ်နေ့တွင် နာယကဆရာတော်များ စုညီစည်းဝေးတော်မူကြကာ ထိုမကောင်းဆိုးဝါး မိစ္ဆာကောင်ပြဿနာကို ရှင်းလင်းနှင်ထုတ်ရန် ဆောင်ရွက်ကြရတော့၏။

စည်းဝေးဆုံးဖြတ်ချက်အရ ဝင်ပူးနှိပ်စက်ခြင်းခံရနေသည့် သာမဏေလေးအား သံဃာ့အလယ်၌ထားကာ သတ်မှတ်ထားသည့် အစီအစဉ်အတိုင်း ပရိတ်တော်များ၊ ဓမ္မစက်ပါဠိတော်များ ရွတ်ဖတ်ကြသည်။ ရွတ်ဖတ်လာကြရာ ပရိတ်တော်သုတ်တစ်သုတ်အရောက်၌ သာမဏေလေးထံမှ ကျယ်လောင်သောအသံကြီးတစ်ခု ထွက်ပေါ်လာသည်။

ထိုအသံမှာ ပရိတ်တော်၊ ဓမ္မစက်တော်များ၏ တန်ခိုးတော်အစွမ်းကြောင့် နာကျင်ပူလောင်မှုနှင့်အတူ မိစ္ဆာကောင်ကြီး အော်ဟစ်လိုက်သောအသံပင် ဖြစ်သည်။ မိစ္ဆာကောင် ဥစ္စာစောင့်ကြီးသည် သာမဏေလေးထံ ဝင်ပူးနေခြင်း ဖြစ်သည်။ သာမဏေလေးပါးစပ်မှ အော်လိုက်သော်လည်း သာမဏေလေးအသံမဟုတ်၊ ဥစ္စာစောင့်ကြီး၏အသံ ဖြစ်သည်။

ထိုအခါ နာယကဆရာတော်တစ်ပါးက-

“သင် ဘယ်သူလဲ၊ ဘာကြောင့် ဒီလိုနှောင့်ယှက်ရတာလဲ” စသည် မေးမြန်းသောအခါ ဥစ္စာစောင့်ကြီးက ပြန်ဖြေသည်။

“ဒီကျောင်းအောက်တည့်တည့်မှာ မိသားစုများနှင့်အတူနေသော ဥစ္စာစောင့်ဖြစ်ကြောင်း

ဒီနေရာမှာ ကျောင်းဆောက်တာ မကြိုက်ကြောင်း၊ ဒါကြောင့် ခုလို အနှောင့်အယှက်ပေးရကြောင်း'' ဥစ္စာစောင့်ကြီးက ဖြေကြားသည်။

ဤတွင် နာယကဆရာတော်ကြီးက-

''ဒီနေရာဟာ သင်တို့၏နေရာ မဟုတ်။ ဒီကျောင်းတိုက်သည် သံဃာတော်များ သီတင်းသုံးရာ ကျောင်းတိုက်ဖြစ်နေသည်။ ဒါကြောင့် သင်တို့သည် ဓတရဋ္ဌ၊ ဝိရဠ္ဌက၊ ဝိရူပက္ခ၊ ကုဝေရ (ဝေဿဝဏ်) ဆိုတဲ့ နတ်မင်းကြီးလေးပါးထံမှာ နေရာတောင်းပြီး သင်တို့နဲ့ သင့်လျော်ရာနေရာမှာ သွားရောက်နေထိုင်ကြချေ'' ဟု မိန့်တော်မူကာ ပရိတ်တော်၊ တရားတော်များ ဆက်လက်ရွတ်ဖတ်တော်မူကြသည်။

နောက်ဆုံး၌ ဥစ္စာစောင့်မိစ္ဆာကောင်ကြီးသည် သံဃာ့အလယ်မှ ထွက်ခွာသွားတော့၏။ အပူးခံနေရသော ဝေဒနာရှင်ကိုယ်တော်လေးလည်း ပုံမှန်ပကတိအတိုင်း ငြိမ်သက်တည်ကြည် အေးချမ်းစွာ ဖြစ်သွားတော့၏။

ဤသို့ ပရိတ်တော်၊ ဓမ္မစကြာတော်များ ရွတ်ဖတ်တော်မူကြပြီးသည့်နောက် မိစ္ဆာကောင် ဥစ္စာစောင့်ကြီး ထွက်ခွာသွားပြီးနောက် ထိုကျောင်း၌ ဘာပြဿနာမှ မရှိတော့ချေ။ တစ်ခုခု ပြုလုပ်နှောင့်ယှက်ခြင်း မရှိတော့ချေ။

ဤဖြစ်စဉ်များကိုကြည့်လျှင် ဆရာတော်များ၏လုပ်ပုံလုပ်နည်း မှန်ကန်သည်ကို တွေ့ရမည်ဖြစ်၏။ ဓမ္မစကြာတော်၊ ပရိတ်တော်များ အစွမ်းထက်ပုံကိုလည်း တွေ့ကြရမည် ဖြစ်၏။ ထိုသို့ ပရိတ်တော်။ ဓမ္မစကြာများ ရွတ်ဖတ်တော်မူကြစဉ်က သံဃာတော်အင်အားသည် လေး-ငါးပါးမျှသာ ရွတ်ဖတ်ကြခြင်းမဟုတ်ဘဲ သံဃာတော်အပါး အစိတ်-သုံးဆယ်ခန့်ဖြင့် ရွတ်ဖတ်တော်မူကြခြင်း ဖြစ်၏။

သို့ဖြစ်ရာ ဗုဒ္ဓဘာသာဝင်များအနေနှင့် လူ၊ ရှင်၊ ရဟန်းပုဂ္ဂိုလ်တစ်ဦးဦးအား မကောင်းဆိုးဝါး မိစ္ဆာကောင်တစ်မျိုးမျိုး၏ ဝင်ရောက်ပူးကပ်ခြင်း တစ်နည်းမဟုတ်တစ်နည်းဖြင့် နှိပ်စက်ညှဉ်းပန်းခြင်း ပြုလုပ်ခံနေရပါက အထက်ဖော်ပြပါ ဆရာတော်၊ သံဃာတော်များ၏ လုပ်နည်းလုပ်ထုံးကို အခြေခံအတုယူကာ ထိထိရောက်ရောက်ပြုလုပ်လျက် ထိုထိုမကောင်းဆိုးဝါး မိစ္ဆာကောင်အား ရှင်းလင်းနှင်ထုတ်ရမည် ဖြစ်၏။

ရှေးအခါက ဆရာတော်၊ သံဃာတော်များသည်လည်း မကောင်းဆိုးဝါးများဘေးမှ ကင်းဝေးရန် အန္တရာယ်ကင်း ကမ္မဝါစာများကို အသုံးပြုခဲ့ကြ၏။ ယနေ့မျက်မှောက်ကာလ၌လည်း ယင်းမိစ္ဆာကောင်များ၏ ဘေးအန္တရာယ်မှ ကင်းဝေးရန် အန္တရာယ်ကင်း ကမ္မဝါကို အသုံးပြုလေ့ရှိနေကြ၏။

ဤသို့ မိစ္ဆာကောင်တို့၏အနှောင့်အယှက် ကြုံကြိုရာ၌ ပိဋကတ်စာပေ ကျွမ်းကျင် တတ်မြောက်တော်မူကြသော ဆရာတော်၊ သံဃာတော်များထံ ချဉ်းကပ်၍ ၄င်းဆရာတော်များ၏ လမ်းညွှန်ချက်ကိုယူလျက် ဆောင်ရွက်ပြုလုပ်သင့်ကြ၏။ တစ်ကြိမ်မရလျှင် နောက်တစ်ကြိမ် စသည်ဖြင့် အကြိမ်ကြိမ် ပြုလုပ်သင့်ကြ၏။

အချို့ကမူ ကမ္မဝါစာဖြင့် နှင်ထုတ်ခြင်းမျိုးကို မကြိုက်ကြ။ ကြမ်းလွန်းသည့်အပြုအမူဟု ယူဆကြ၏။ အချို့ကမူ အဆင့်ဆင့်လုပ်ကြ၏။ ထိုမိစ္ဆာကောင်တို့အပေါ် ရှေးဦးစွာ မေတ္တာဖြင့်ရင်း၍ ဖယ်ရှား၏။ မေတ္တာသုတ်ကဲ့သို့သော ပရိတ်သုတ်တော်များ ရွတ်ဖတ်၏။ မရမှ နောက်တစ်ဆင့်တက်ကာ အာဋာနာဋိယသုတ်ကဲ့သို့သော အမိန့်အာဏာ ခပ်ပြင်းပြင်း ပရိတ်တော်များကို အသုံးပြုကြ၏။ ထိုအဆင့်ဖြင့်မရပါက အန္တရာယ်ကင်းကမ္မဝါစာကဲ့သို့သော အစွမ်းထက်ကမ္မဝါစာများဖြင့် ခပ်ပြင်းပြင်း ခပ်ကြမ်းကြမ်း နှင်ထုတ်ကြ၏။ အတုယူဖွယ်ရာများပင် ဖြစ်ပါသည်။

## ပရိတ်ရေ ပရိတ်ချည် စသည်များ

ရတနသုတ်ပရိတ်တော်၏ ဝတ္ထုကြောင်းကိုကြည့်လျှင် အရှင်အာနန္ဒာ ပရိတ်ရေအသုံးပြုပုံ
ကို တွေ့ရမည်ဖြစ်၏။
အရှင်အာနန္ဒာသည် ရတနသုတ်ပရိတ်တော်ကိုလည်း ရွတ်၏။ သပိတ်ထဲကရေ (ပရိတ်
ရေ) များကိုလည်း နေရာအနှံ့ ပက်ဖျန်း၏။ ထိုအခါ အစိမ်းသရဲ၊ ဘီလူး စသည်တို့
ဝေသာလီမြို့တွင်းမှ ထွက်ပြေးကြရလေ၏။ ထို့ကြောင့် ဗုဒ္ဓဘာသာဝင်များသည် မိစ္ဆာကောင်
အသုံးပြုသင့်ကြ၏။
တို့၏အန္တရာယ်ကို ရှင်းလင်းရာ၌ ပရိတ်ရေကိုလည်း
ရှိနေသေး၏။ ယင်းတို့ကိုလည်း
ပရိတ်ချည်၊ ပရိတ်သဲ၊ ပရိတ်ပန်းဆိုသည်များလည်း
ဓမ္မစက်အာဏာ ဤရေ၊ ဤချည်၌ တည်ပြီဆိုသော
အသုံးချရမည် ဖြစ်၏။ ပရိတ်တော်
ပရိတ်ရေထဲနှစ်ကာ လက်နှင့် ဖျစ်ညှစ်သုံးသပ်လျက် ပရိတ်တော်
သဘောဖြင့် ပရိတ်ချည်ကို
ကောင်းသောလုပ်ထုံးပင် ဖြစ်၏။
ကို ပါးစပ်က ရွတ်ဖတ်ပေးကြ၏။
မင်းသားလေးတစ်ပါးသည် နောက်က ဘီလူးမ လိုက်လာရာ
တေလပတ္တဇာတ်တော်အရ
ပရိတ်ချည်ကို အသုံးပြုခဲ့ကြောင်း တွေ့ရ၏။
ထိုဘီလူးမဘေးမှ ကင်းလွတ်ရန်
မိမိတည်းခိုမည့်၊ အိပ်မည့် ဇရပ်ပတ်ပတ်လည်တွင် ပရိတ်ချည်
၄င်းမင်းသားလေးသည်
ထိုပရိတ်ချည်တန်ခိုးအစွမ်းကြောင့်ပင် ဘီလူးမ
ကြိုးများ ရစ်ပတ်ချည်နှောင်ထားလိုက်၏။
မင်းသားလေးသည် ဘီလူးမဘေးမှ လွတ်ကင်းရ
သည် မင်းသားလေးရှိရာ ဝင်မရတော့ပေ။

တော့၏။ နောက်ဆုံးတွင် မင်းသားလေးသည် လိုရာခရီး ရောက်ခဲ့ရပေသည်။ ပရိတ်ချည် များကို ကောင်းစွာ အသုံးချသင့်ကြ၏။ ပရိတ်သဲ၊ ပရိတ်ပန်းများကိုလည်း သူ့နည်းသူ့ဟန် ဆိုသလို အဆင်ပြေသလို သုံးကြရမည် ဖြစ်၏။

**မကောင်းဆိုးဝါးနှင့် အာဋာနာဋိယသုတ်**

အာဋာနာဋိယသုတ်သည် ပရိတ်တော် (၁၁) သုတ်၌ ပါဝင်သည်။ မိစ္ဆာကောင်များကို သုတ်သင်ရှင်းလင်းရာ၌ အစွမ်းထက်လှသော သုတ်တစ်သုတ်ပင် ဖြစ်၏။ ဝေဿဝဏ် (ကုဝေရ) နတ်မင်းကြီးဦးဆောင်ကာ ဓတရဋ္ဌ၊ ဝိရူဠှက၊ ဝိရူပက္ခဆိုသော နတ်မင်းကြီးများ (နတ်မင်းကြီးလေးပါး)ကြောင့် ဤအာဋာနာဋိယသုတ် ပေါ်ပေါက်လာရသည်။

အာဋာနာဋိယသုတ်သည် နတ်ကြမ်းနတ်ဆိုး၊ နတ်ဘီလူးဆိုး၊ နတ်နဂါးဆိုး၊ ရက္ခိုသ်ဆိုး၊ ပြိတ္တာ = တစ္ဆေ စသည့်မိစ္ဆာကောင်များအနေနှင့် ရှင်၊ လူ၊ ရဟန်းတို့ကို မနှိပ်စက်နိုင်ရန် ဤအာဋာနာဋိယသုတ်ကို ရွတ်ဖတ်ဖို့ ပရိတ်တော်အဖြစ် ဟောကြားအတည်ပြုဖို့ နတ်မင်းကြီး လေးပါးက မြတ်စွာဘုရားအား တင်ပြလျှောက်ထားရာ မြတ်စွာဘုရားက အတည်ပြုခဲ့သော သုတ် ဖြစ်သည်။

ထို့ကြောင့် မကောင်းဆိုးဝါးများ၏ ဘေးအန္တရာယ်မှ ကင်းဝေးရန် အာဋာနာဋိယသုတ် ပရိတ်တော်ကို ရွတ်ဖတ်သင့်လှ၏။

မိမိတို့ အိမ်၊ အိမ်ဝင်း၊ ခြံဝင်းများ၌ မိစ္ဆာကောင်များရှိသည်။ သို့မဟုတ် လူ၏ခန္ဓာ ကိုယ်၌ မိစ္ဆာကောင်တစ်မျိုးမျိုး လာရောက်ပူးကပ်နေသည်ဟု ထင်မြင်ယူဆပါလျှင်၊ တကယ် တမ်း ပူးကပ်နေပါလျှင် ဓတရဋ္ဌ၊ ဝိရူဠှက၊ ဝိရူပက္ခ၊ ကုဝေရ (ဝေဿဝဏ်) ဟူသော နတ်မင်းကြီးလေးပါးကို တိုင်တည်ပါ။ တိုင်ကြားပါ။ ပြီးတော့ အာဋာနာဋိယပရိတ်ကို ရွတ်ပါ။ ဖတ်ပါ။ မိစ္ဆာကောင်များ၊ နတ်အညံ့စားများ၊ တစ္ဆေ = ပြိတ္တာ စသည်များ ထွက်ခွာပြေးသွားကြရမည် ဖြစ်ပါသည်။

အထက်ဖော်ပြပါ အချက်အလက်များကို အခြေပြုလျက် ပိဋကတ်စာပေတတ် ရဟန်း သံဃာတော်များ၏သြဝါဒကို ခံယူကာ အမှောင့်ပယောဂများ၊ မိစ္ဆာကောင်များ၏အန္တရာယ်ကို ကာကွယ်ကြရန်ပင် ဖြစ်၏။

(ဒီဃနိကာယ၊ ပါထိကဝဂ္ဂပါဠိတော်)

(ဆရာတော် အရှင်ဇနကာဘိဝံသ၏ ပရိတ်ပါဠိ၊ ပရိတ်ကြီးနိဿယနှင့် ပရိတ်တရားတော်များ)

## စတုမဟာရာဇ် နတ်မင်းကြီးတို့နှင့်စပ်လျဉ်း၍ သိမှတ်ဖွယ်

စတုမဟာရာဇ်နတ်မင်းကြီးတို့နှင့်ပတ်သက်၍ သိဖွယ်မှတ်ဖွယ်တို့က များပြားလှ၏။ ယင်းတို့ကား-

**နတ်မင်းကြီးတို့၏ မိဖုရားနှင့်သားသမီးများ**

စတုမဟာရာဇ်နတ်မင်းကြီး (၄) ပါး၌ သားတော် (၉၁) ယောက်ရှိကြောင်း ကျမ်းများက ပြဆို၏။ သားများရှိသဖြင့် မိဖုရားများရှိသည်ဟုလည်း ဆိုရမည်။

သို့သော် ကျမ်းများ၌ ကုဝေရ (ခေါ်) ဝေဿဝဏ်နတ်မင်းကြီး၏ မိဖုရားနှင့်သားသမီးတို့ကို အဖော်ပြပြီး ကျန်နတ်မင်းကြီးများနှင့်ပတ်သက်၍ ဖော်ပြသည်ကို မတွေ့ရပေ။

ထို့ကြောင့် ကုဝေရ (ခေါ်) ဝေဿဝဏ်နတ်မင်းကြီး၏ မိဖုရားအကြောင်း တင်ပြရမည်။ ကုဝေရနတ်မင်းကြီး၏မိဖုရားသည် သုဇာတိနတ်သမီး ဖြစ်၏။ ထိုနတ်သမီးသည် သာမန်မဟုတ်။ သကဒါဂါမ်အရိယာနတ်သမီး ဖြစ်၏။ ဝေဿဝဏ်နတ်မင်းကြီးက သောတပန် ဖြစ်၏။

ဝေဿဝဏ်နတ်မင်းကြီး၏မိဖုရားသည် တရားရမှု ကြီးမား၏။ ဝေဿဝဏ်နတ်မင်းကြီးတွင် သား (၉၁) ဦးအပြင် သမီး ငါးဦးလည်း ရှိ၏။ ၎င်းသမီးငါးဦးမှာ လတာ၊ သဇ္ဇာ၊ ပဝရာ၊ အစ္စိမတီ၊ သုတာတို့ ဖြစ်သည်။

**နတ်စစ်သေနာပတိကြီးများ**

နတ်မင်းကြီးလေးပါးတွင် နတ်စစ်သေနာပတိကြီးများ ရှိသည်။ စုစုပေါင်း (၃၇) ပါး ဖြစ်၏။

၄င်းစစ်သေနာပတိကြီး (၃၇) ပါးသည် အသုရာတို့စစ်ပွဲဝင်လာလျှင် ဦးစီးကွပ်ကဲ ကြီးကြရန် ဖြစ်၏။

ယင်းနတ်စစ်သေနာပတိများကိုပင် ဗုဒ္ဓဘာသာဝင်တို့က (၃၇) ပါးဟု ခေါ်ဝေါ်သမုတ် ခဲ့၏။ သို့သော် ယင်းနတ် (၃၇) ပါးတို့အနက်-

၁။ ဣန္ဒနတ်

၂။ သောမနတ်

၃။ ဝရုဏနတ်

၄။ ဘာရဒ္ဒါဇနတ်

၅။ ပဇာပတိနတ်

၆။ စန္ဒနနတ်

၇။ ကာမသေဋ္ဌနတ်

၈။ ကိန္ဓုဃဏ္ဍုနတ်

၉။ နိယနတ်

စသည်တို့သည် နတ်မင်းကြီးများဖြစ်၍ ကျန်သော (၂၈) ပါးသောနတ်တို့က နတ်စစ်သူ ကြီးများဖြစ်၏။

**နတ်မင်းကြီးလေးပါးနှင့်ကျွန်နတ်များ**

နတ်မင်းကြီးလေးပါးတွင် ကျွန်နတ် (၈) ဦးရှိကြောင်း မဟာသမယသုတ်တော်က ပြဆို၏။ ယင်းကျွန်နတ် (၈) ဦးသည် မာယာများ၏။ လှည့်ပတ်ပြီး ကောက်ကျစ်စဉ်းလဲမှု ရှိ၏။

ထိုကျွန်နတ် (၈)ဦးကား-

၁။ ကုဋ္ဋေဏ္ဍုနတ်

၂။ ဝိဋ္ဋေဏ္ဍုနတ်

၃။ ဝိဋ္စုစ္စနတ်

၄။ ဝိဋ္ဋုဋ္ဌနတ်

၅။ စန္ဒနတ်
၆။ ကာမသေဋ္ဌနတ်
၇။ အိန္ဒိယဏ္ဍာနတ်
၈။ နိယဏ္ဍာနတ် စသည်တို့ဖြစ်၏။

**နတ်မင်းကြီး (၄) ပါးနှင့်အခြွေအရံ နတ် (၁၁) ပါး**

နတ်မင်းကြီးလေးပါး၌ အခြွေအရံနတ် (၁၁) ပါးရှိကြောင်း မဟာသမယသုတ်တော်က ပြဆို၏။ ယင်းနတ် (၁၁) ဦး၏အမည်မှာ-

၁။ ပနာဒနတ်မင်း
၂။ ဩပမညနတ်မင်း
၃။ မာတလိ (သိကြားမင်း၏ ရထားထိန်း)
၄။ စိတ္တနတ်မင်း
၅။ သေနနတ်မင်း
၆။ စိတ္တသေနနတ်မင်း
၇။ ဂန္ဓနတ်င်း
၈။ ဇနေသဘနတ်မင်း
၉။ ပဥ္စသီခနတ်မင်း
၁၀။ တိမ္ဗရူနတ်မင်း
၁၁။ တိမ္ဗရူနတ်မင်း၏သမီး သူရိယပစ္စသာနတ်မင်း စသည်တို့ ဖြစ်သည်။

**ယမနတ်မင်းနှင့်ယမမင်း**

ယမနတ်မင်းနှင့်ယမမင်း မတူညီပေ။ တစ်ဦးစီ ဖြစ်၏။ ယမနတ်မင်းဆိုသူမှာ တူညီသည်ဟု ထင်ရသော်လည်း မတူညီပေ။ တစ်ဦးစီ ဖြစ်၏။ ယမနတ်မင်းဆိုသူမှာ ဂုမ္ဘဏ်၊ ဘီလူးတို့အား အုပ်ချုပ်ရသည့်အကြီးအကဲ ဖြစ်သည်။

မျက်စောင်းလက်နက်ပိုင်ဆိုင်သူ ဖြစ်သည်။

ယမမင်းကမူ ငရဲသားများအရေးအား ဆောင်ရွက်ရသည့်သူ ဖြစ်သည်။

**နတ်မင်းကြီးလေးပါး လူ့ပြည်ဆင်း၍ စာရင်းကောက်ခြင်း**

နတ်မင်းကြီးလေးပါးသည် ဗုဒ္ဓဘာသာဝင်များ ဖြစ်၏။ ထို့ကြောင့် ဗုဒ္ဓဘာသာအလုပ်အား လုပ်ကြ၏။ အာဋာနာဋိယသုတ်တော်သည် ကုဝေရနတ်မင်းကြီး ဦးဆောင်ကာ စီမံဆောင်ရွက်မှုကြောင့် ပေါ်ပေါက်လာခြင်း ဖြစ်၏။

နတ်မင်းကြီးလေးပါးဦးဆောင်ကာ လူ့ပြည်သို့ဆင်းကာ ကုသိုလ်၊ အကုသိုလ် မှတ်တမ်းကောက်ယူလျက်ရှိကြောင်း ကျမ်းစာများက ပြဆိုသည်။

နတ်မင်းကြီးလေးပါးသည် သိကြားမင်း၏ နတ်စစ်သူကြီးများဖြစ်သည်နှင့်အညီ သိကြားမင်းကိစ္စကို ကူညီ၏။

နတ်မင်းကြီးလေးပါးသည် တရားနှိုးဆော်သူ၊ တိုက်တွန်းသူ နိဗ္ဗာန်ဆော်လည်း ဖြစ်၏။ လူ့ပြည်သို့ ကောင်းမှု၊ မကောင်းမှု စာရင်းကောက်ယူရာတွင်-

၁။ မြန်မာလ (မည်သည့်လမဆို) လဆန်း (၈) ရက်၊ လဆုတ် (၈) ရက် လက်အောက်ခံ နတ်အမတ်များ ဆင်း၍စာရင်းကောက်၏။

၂။ လဆန်း (၁၄) ရက်၊ လဆုတ် (၁၄) ရက် နတ်မင်းကြီး၏သားတော်များ ဆင်း၍ စာရင်းယူသည်။

၃။ လပြည့်၊ လကွယ်နေ့များတွင် နတ်မင်းကြီးလေးပါးကိုယ်တိုင် ဆင်း၍ စာရင်းကောက်၏။

စာရင်းကောက်ယူရာ၌ ရတနာသုံးပါးဆည်းကပ်ခြင်း၊ ငါးပါးသီလဆောက်တည်ခြင်း၊ ထိန်းသိမ်းခြင်း၊ ဥပုသ်သီလဆောက်တည်ခြင်း၊ အမိအဖအား အလုပ်အကျွေးပြုခြင်း စသည့် ကုသိုလ်မှတ်တမ်းအား ရွှေပေရွှေပြားပေါ်တွင် ရေးသားမှတ်တမ်းထိုးသည်။

ရွှေပေလွှာသေးလျှင် လူ့လောက၌ ကောင်းမှုကုသိုလ်ပြုသူနည်းပြီး ရွှေပေလွှာကြီးလျှင် ကောင်းမှုကုသိုလ်ပြုသူများသည်ဟု အဆိုရှိ၏။

ရွှေပေလွှာသေးလျှင် ငရဲဘုံ၌ အရောက်များမည်။ ရွှေပေလွှာကြီးက နတ်ပြည်သို့ အရောက်များမည်ဟု အယူရှိကြသည်။

**ဘုမ္မစိုးနတ်များ**

မြေကိုမှီ၍နေကြသည့်နတ်များအား ဘုမ္မစိုးနတ်များဟု ခေါ်သည်။ ဘုမ္မစိုးနတ်များစာရင်း၌ **ကိုယ်စောင့်နတ်**၊ ရွာစောင့်နတ်တို့ ပါဝင်သည်။

**စတုမဟာရာဇ်နတ်မင်းကြီး**၏လက်အောက်ခံနတ် ဖြစ်၏။

စင်စစ် သူတို့၏ဆင်းရဲဝေဒနာများက သူတို့အား ဒေါသ၊ ဒေါမနဿ စိတ်များဖြင့် မွေးဖွားခဲ့သည်။

ဒေါသနှင့်သေသဖြင့် ငရဲရောက်ရသည်။

မသေရသေး၍ နေရသည့်အချိန်တွင်လည်း ဒေါသစိတ်များနှင့် အသက်ရှင်နေသမျှကာလပတ်လုံး ငရဲသားတွေနှင့်ပဲ တူနေရသည်။ ယင်းသမို့ ထိုလူမျိုးအား လူ့ငရဲသားဟုခေါ်ခြင်း ဖြစ်သည်။

## ၂။ လူ့ပြိတ္တာ

အချို့သောလူများကျတော့ ရှေးကပြုခဲ့ဖူးသည့် အကုသိုလ်ကံတရားတို့ကြောင့် လူ့ဘဝမှာ အစာရေစာရှားပါးပြီး ငတ်မွတ်ခေါင်းပါးတဲ့ဘဝမှာ ရှင်သန်ရတယ်။

ဆာလောင်ခြင်းတွေ နှိပ်စက်လို့ ဆင်းရဲကြီးစွာ ခံစားရတယ်။

သူတို့ရဲ့ဆာလောင်မှုတွေက သူတို့ကို လောဘစိတ်တွေ၊ တဏှာစိတ်တွေကိုပဲ မွေးဖွားပေးခဲ့တယ်။

လောဘနဲ့သေတဲ့အတွက် ပြိတ္တာပြည်ကို ရောက်ရတယ်။

မသေရသေးလို့ နေတုန်းအချိန်တွေမှာလည်း လောဘ၊ တဏှာစိတ်တွေနဲ့ရှင်နေသမျှ ပြိတ္တာတွေနဲ့သာ တူနေသည်။ ယင်းသို့သောလူမျိုးအား လူ့ပြိတ္တာဟု ခေါ်သည်။

## ၃။ လူ့တိရစ္ဆာန်

အချို့ကျတော့လည်း သူတစ်ပါးခိုင်းသမျှလုပ်ပြီး သူတစ်ပါးပြုမှ နရ။ သူတစ်ပါးကျွေးမှစားရပြီး ပေးသမျှနှင့် ဝရနဲ့ ပင်ပန်းဆင်းရဲကြီးစွာနဲ့ ရှင်သန်နေရသည်။

သူဟာ အိပ်၊ စား၊ ကာမဆိုတဲ့ ဆန္ဒသုံးမျိုးကလွဲလို့ ဘာမှမသိဘူး။

ကောင်းမှုဆိုသည်ကိုလည်း ဘာမျှမသိသူ ဖြစ်သည်။ နားမလည်နိုင်သူလည်း ဖြစ်သည်။

ထိုလူမျိုး၏သန္တန်တွင် အချိန်ရှိသမျှ မသိမိုက်မဲမှု မောဟစိတ်များကြီးစိုးနေသူ ဖြစ်သည်။

မောဟစိတ်နှင့်သေလွန်လျှင် တိရစ္ဆာန်ဘဝကို ရောက်ရသည်။ မသေရသေးလို့နေရတုန်းအခိုက်မှာလည်း မောဟစိတ်ကိုဖြင့် အသက်ရှင်နေသဖြင့် ထိုသူမျိုးက တိရစ္ဆာန်နှင့်တူနေသည်။

ယင်းသို့သောလူမျိုးအား လူ့တိရစ္ဆာန်ဟု ခေါ်သည်။

**၄။ လူစစ်စစ်**

စင်စစ် လူစစ်စစ်ဆိုသည်မှာ အကျိုးရှိသောအရာနှင့် အကျိုးမရှိသောအရာတို့အား ပိုင်းခြားပြီးသိနိုင်သူ ဖြစ်သည်။

သူတစ်ပါးနှစ်ဦးသားအတွက် အကျိုးရှိရာကိုသာ ပြုလုပ်ပြောဆိုကြံစည်သူ ဖြစ်သည်။

အစဉ်အမြဲ ကံ၊ကံ၏အကျိုးကို ယုံကြည်နိုင်ပြီး မကောင်းမှုကိုရှောင်၍ကောင်းမှုကိုဆောင်သူ ဖြစ်သည်။

သူ့တွင် လိုချင်မှုလောဘဟူ၍ရှိသော်လည်း စွန့်လွှတ်မှုပေးကမ်းစွန့်ကြဲမှုတွေနဲ့ ပြန်ကုစားနိုင်သူ၊ ပုထုစဉ်လူသားဖြစ်၍ စိတ်ဆိုးမှုဒေါသနှင့်မကင်းနိုင်သေးသော်လည်း သည်းခံခွင့်လွှတ်ခြင်းဆိုသည့် ခန္တီတွေ၊ချစ်ခင်ကြင်နာမှုဆိုတဲ့ မေတ္တာကရုဏာတွေ ပွားများပြီး ဖြေပျောက်တတ်သူ။

ယင်းသို့သောလူမျိုးသည် လူ့ဘဝရောက်လာခြင်းအတွက် အရှုံးမရှိ။ အမြတ်ရပြီး လူဖြစ်ကျိုးနပ်အောင်၊ တန်ဖိုးရှိအောင် အသိဉာဏ်ယှဉ်ပြီး ဘဝအား အသုံးချနိုင်သဖြင့် လူစစ်စစ်ဟု ခေါ်ဆိုနိုင်သည်။

## ၄။ ပညတ်လူ၊ ပရမတ်လူ

လောကသဘာဝက ရှင်းသည်။

ဤလောက၌ အဖိုးထိုက်သောအရာတွေ ရှိနေသမျှကာလပတ်လုံး တန်ဖိုးမဲ့သည်များလည်း ရှိနေကြဦးမည်သာ။

ဥပမာပြရလျှင် သစ်သီးတစ်လုံး၌ အနှစ်အသားရှိနေသမျှကာလပတ်လုံး အပေါ်ယံ အခွံ၊ အကာဆိုသည်လည်း ရှိနေဦးမည်သာ။ ဤကား ဓမ္မတာ ဖြစ်သည်။

ယင်း (၄)မျိုးထဲတွင် လူ့ငရဲသား၊ လူ့ပြိတ္တာ၊ လူ့တိရစ္ဆာန်ဆိုသည့်အမျိုးအစားများက အမည်ပညတ်အနေနှင့်သာ လူဖြစ်နေသည့် လူမည်ကာမတ္တသမားတွေ ဖြစ်၏။

အကယ်၍ ထိုထိုသောသူတို့၏ရှေ့၌ လူဆိုသည့်ပညတ်တွေကို ဖယ်လိုက်လျှင် ဘာရှိဦးမည်နည်း။ ဘာတွေကျန်ဦးမည်နည်း။

ငရဲ၊ ပြိတ္တာ၊ တိရစ္ဆာန်…ဒါပဲ ကျန်တော့မည်။

အသေအချာ ဆန်းစစ်ကြည့်လျှင် သူတို့သည် လူတွေပင် ဖြစ်၏။

သို့စေကာမူ ငရဲ၊ ပြိတ္တာ၊ တိရစ္ဆာန်၊ အသူရကာယ်မည်သည် အပါယ်လေးဘုံသားတွေနှင့် အပါယ်လေးဘုံမဟုတ်သည့် လူ့ဘုံထဲ၌ရှိသည်ကလွဲလို့ ဘာမျှမထူးပြီဟု ဆိုရမည်။

တစ်ခုရှိသည်က အဲလိုမျိုးလူဖြစ်သော်လည်း လူ့အနှစ်၊ လူ့တန်ဖိုး၊ လူ့အဓိပ္ပာယ်များအား မရယူနိုင်လို့ နာမည်ပညတ်အနေနှင့်သာ လူဖြစ်ရသည့် လူအစစ်မဟုတ်သည့် အဖြစ်မျိုးနှင့်လူအား ပညတ်လူဟု ခေါ်ရမည်။

လူအစစ်နှင့်ပတ်သက်လို့ ပြောရမည်ဆိုလျှင် လူအစစ်ကို ပါဠိလို ပရမတ္တမနုဿဟုခေါ်သည်။ အားလုံးနားလည်နိုင်သည့်သဘောနှင့်ပြောရလျှင် ပရမတ်လူ ဖြစ်သည်။

လူ့အနှစ်၊ လူ့တန်ဖိုးဖြစ်သည့် ဒါန၊ သီလ၊ ဘာဝနာ စတဲ့သူတော်ကောင်းတရားမှန်သမျှကို ရယူနိုင်အောင် ရှာဖွေကြိုးစားပြီး ယူနိုင်သည့်လူမျိုး ဖြစ်သည်။

နတ်ပြည်ကနေ စုတေလာသည့် ကံကုန်နတ်သားတွေကို လူ့ပြည်သို့ အရောက်သွားပါလေလို့ တိုက်တွန်းခြင်းဟာ လူ့တန်ဖိုး၊ လူ့အဓိပ္ပာယ်ကိုရအောင်ယူနိုင်ပြီး ကံတွေ

ပြန်ပြည့်စုံလာနိုင်မည်။ လူအစစ်ဖြစ်လို့ ပရမတ်လူဟု ရည်ညွှန်းဆိုခြင်း ဖြစ်သည်။

ဤကဲ့သို့လူမျိုးသည်သာ ဤကဲ့သို့သောလူမျိုးဖြစ်မှသာ လူ့ဘဝဆိုသည့် အခွင့်ထူးကို ရောက်လာသည့်အခါ ရခဲ့တဲ့သဒ္ဓါတရားကို ရယူနိုင်သကဲ့သို့ သီလ၊ သမာဓိ၊ ပညာဆိုတဲ့ အကျင့်မြတ်တွေကို ပွားများအားထုတ်နိုင်မည်ဖြစ်သတည်း။

## ၅။ အပါယ်လူ၊ သူတော်ကောင်းတို့ ဖဲကြဉ်သူ

မှတ်သားဖူးတာ တစ်ခုရှိခဲ့သည်။

တစ်ခါက…

ဂင်္ဂါမြစ်ထဲ၌ သစ်တုံးကြီးတစ်တုံး ရေစီးအတိုင်း မျောလာခဲ့သည်။ သစ်တုံးဟာ ရေအလျဉ်ကြောထဲရောက်လာတော့ ကမ်းနှစ်ဖက်သို့လည်း မကပ်ချေ။

ရွာနားရောက်လာသည်။ ရွာနားသို့ရောက်လာတော့ တစ်ယောက်ပြီးတစ်ယောက် သစ်တုံးကြီးကို သွားကြည့်ကြသည်။ အဖြေကရှင်းပါသည်။ အသုံးတည့်ရင် သယ်မယ်ပေါ့။

ဒါပေမယ့် သစ်တုံးကြီးနားရောက်လို့ သစ်တုံးကို သေချာကြည့်လိုက်တော့ သစ်တုံးကြီးဟာ ဘယ်နေရာမှ အသုံးမတည့်သလို သစ်ခေါင်းကလည်း ပုပ်နေ၏။

"အို…ဘာမှအသုံးမဝင်တဲ့ သစ်တုံးကြီးပဲ"

အားလုံးဟာ ခေါင်းခါနှာခေါင်းရှုံ့ပြီး လှည့်ပြန်သွားကြတာချည်းပဲ။

ဒီလိုနဲ့ သစ်တုံးကြီးလည်း သယ်သူမရှိ၊ ယူသူမပေါ်ဘဲ သမုဒ္ဒရာထဲ မျောပါပြီး နစ်မြုပ်ပျောက်ဆုံးသွားခဲ့တယ်။

ဒီပုံပြင်ကလေးကိုသိရတော့ မိမိရင်ထဲ မေးခွန်းတစ်ခု မေးချင်စိတ် ပြင်းထန်ခဲ့သည်။

ဂင်္ဂါမြစ်ထဲက သစ်တုံးကြီးကိုသယ်မယ့်သူ ဘာ့ကြောင့်မရှိတာလဲ။ မသယ်ကြတာလဲ။

အဖြေပေးရမယ်ဆိုရင် အသုံးမတည့်လို့ပါ။

သစ်တုံးကြီးဟာ သုံးမရလောက်အောင် ပုပ်ဆွေးနေလို့ပေါ့။ ဒီလိုမှမဟုတ်ရင်
တော့ သယ်ကြမှာပါ။

ဤဥပမာကလေးကဲ့သို့ပင် လူတစ်ယောက်ဟာ လူရယ်လို့ဖြစ်လာပြီး လူ့လောက
ထဲရောက်လာပေမယ့်လို့ အဲဒီလူဟာ လူအစစ် မဟုတ်ဘူး။ ပရမတ်လူ မဟုတ်ဘူး။

လူ့ငရဲသား၊ လူ့တိရစ္ဆာန်၊ လူ့ပြိတ္တာ ဖြစ်နေပြီဆိုရင်တော့ သူ့အတွက်လည်း
အဖိုးမတန်သလို လောကအဘွက်၊ လူသားတွေအတွက် ဘယ်နေရာမှ အသုံးဝင်မှာ
မဟုတ်ပါဘူး။

လောကအတွက်၊ လူသားတွေအတွက် ဘယ်နေရာမှာမှ အသုံးမတည့်၊ အသုံးမဝင်
တဲ့ အဆွေးပုပ်၊ အပါယ်ခံလူအဖြစ်နဲ့သာ ရပ်တည်ရမှာပါ။

လူတစ်ဦးသည် လူ့ဘဝအခွင့်ထူးကို ရကာရနိုင်ပါလျက်နှင့် လူ့ဘဝရှင်သန်နေ
သမျှ၊ အချိန်ရှိသမျှကာလပတ်လုံးမှာ ရယူလိုမှု လောဘစိတ်နှင့်ပဲ ပြည့်မွမ်းနေမယ်၊
သူတစ်ပါးကို မနာလိုမှု၊ ပျက်စီးလိုမှု၊ မသိမိုက်မဲမှု မောဟစိတ်တွေနှင့်ပဲ အမှောင်ကျ
နေမယ်ဆိုရင်···

စင်စစ် ယင်းအကုသိုလ်စိတ်မျိုးသည် မိမိကိုယ်ကိုလည်း နှိပ်စက်ဖျက်ဆီးတတ်
သလို ကိုယ့်အပါးကို ရောက်လာသူတွေကိုလည်း ပူလောင်ကျွမ်းမြိုက်စေတတ်သည်။
ဤကဲ့သို့ပင် ထိုသူအတွက် ဒီဘဝအတွက်လည်း အကျိုးစီးပွားမဲ့ပြီး ကိုယ်ကျိုး
နည်းတတ်သလို သံသရာမှာလည်း အပါယ်ငရဲမှမလွတ်ဘဲ အရှုံးထွက်စေမှာဖြစ်သည်။

* * *

လူတစ်ယောက်အတွက် လူတစ်ယောက်ဟာ ကိုယ့်သန္တာန်မှာ အကုသိုလ်ဆိုသည့်
အပုပ်အဆွေးတွေနှင့်သာ ပြည့်စုံပြီး ဒုစရိုက်ဆိုတဲ့အပြစ်ကံကိုသာ ပြုလုပ်ပြောဆိုကြံစည်
နေတတ်မယ်ဆိုလျှင် သူသည် အလိုလိုနေရင်း သူတော်ကောင်းပုဂ္ဂိုလ်များရဲ့ ဖဲကြဉ်ခံ
ဘဝသို့ ရောက်မှန်းမသိ ရောက်သွားစမြဲ ဖြစ်သည်။

သူတစ်ပါးက မိမိအား စိတ်၊ စေတနာကောင်းလေးကိုထားပြီး သုစရိုက်ဆိုသည့်
အချစ်ကံတွေနှင့် ပြောဆိုဆက်ဆံပါသည်။

သို့တစေ မိမိကတော့ စိတ်ဆိုးစိတ်မိုက်တွေနှင့်ပဲ ပြန်ဆက်ဆံ၏။ နောက်တစ်ခါ မိမိအား ဤသို့မဆက်ဆံဘဲ ရှောင်ဖယ်သွားကြ၏။

ဥပေက္ခာနှင့်သာ မျက်နှာလွှဲကြမည်။

အဘယ့်ကြောင့်ဆိုသော် လူတို့သည် မိမိအား စိတ်ပုပ်စိတ်ဆွေးဆိုသည့် အပြစ်ကံများ ကူးစက်ခံရမည်ဆိုးသောကြောင့် ဖြစ်သည်။

ထိုကဲ့သို့ သူတစ်ပါးက မိမိအား စိတ်စေတနာကောင်းနှင့် မဆက်ဆံလိုသည့်အခါတိုင်းမှာ မိမိသည် အပါယ်ခံသူ ဖြစ်သွားစမြဲပင်။

စင်စစ် ကုသိုလ်တရားသည် အကုသိုလ်တရားနှင့် အဖက်မတန်သဖြင့် မဆက်ဆံဘဲ ဆန့်ကျင်တတ်သည်မှာ ဓမ္မတာဖြစ်သည်။ ဤကဲ့သို့ပင် သူတော်ကောင်းတို့သည် သူတော်ကောင်းတရားမဲ့နေသည့်သူများအား တစ်ကြိမ်တစ်ခါမျှပင် တွေ့လိုကြုံလို ဆက်ဆံလိုသည့်ဆန္ဒ မရှိချေ။

အကယ်၍ မလွဲမသွေကြုံခဲ့လျှင်လည်း မပြောမဆို မဆက်ဆံဘဲ ဥပေက္ခာပြုနေတတ်သည်။

ဤလောကဌ် ကုသိုလ်နှင့်အကုသိုလ်တရား၊ သူကောင်းနှင့်သူယုတ်မာတို့သည် သဘောအားဖြင့် မိုးနှင့်မြေတမျှ ကွာခြားကြသည်ဟု ဆိုရမည်။

ဓာတ်သဘောနှင့်ကြည့်လျှင်လည်း အရှေ့နှင့်အနောက်ပမာ ခပ်ခွါခွါ ရှိကြသည်။ ကိုယ်အားဖြင့်လည်း ကမ္ဘာခြားနေသည်ဟု ဆိုရမည်ဖြစ်သည်။

ယင်းအဖြစ်ထက်ဆိုးသည်က အပါယ်ခံလူတို့သည် သူတို့အား သူတော်ကောင်းတို့က ဖဲကြဉ်ခွာကြသဖြင့် ပေါင်းဖက်ခွင့်မရကြသဖြင့် သူတော်ကောင်းတရား နာကြားခွင့် ဆုံးရှုံးရသဖြင့် စုန်းစုန်းမြုပ်သောဘဝသို့ ရောက်သွားရသည်။

လူ့အပယ်ခံရသဖြင့် သမုဒ္ဒရာတွင် စုန်းစုန်းနစ်သွားရသည့် သစ်တုံးကြီးလို ဖြစ်သွားရသည်။

ထို့ကြောင့် လူတို့သည် သူတော်ကောင်းတို့ ဖဲကြဉ်ခံရမည့် အပါယ်လူ့ဘဝသို့ မရောက်ရအောင် ကြိုးစားစွမ်းဆောင်ရန် အထူးလိုအပ်ပေသည်။



ဘုရားရှင်၏ ဝေါသာဝကများ ဉာဏ်မျက်စေ့အပြင် ကျယ်လေစွဟု မိန့်ကြားတော်မူနေပုံ

### ၆။ ဘဝတန်ဖိုးရှိဖို့ သဒ္ဓါလက်နဲ့ယူပါ

သဒ္ဓါအတွေ့နဆိုသည့် ယုံကြည်ချက်ဟုခေါ်သည့် သဒ္ဓါတရားသည် သူတော်ကောင်းတို့၏နှလုံးသား၌ အမြစ်တွယ်ပြီး လက်သဖွယ် ပါရှိနေသည်။

ပကတိလက်ရှိသူဟာ စည်းစိမ်ဥစ္စာ ရတနာမျိုးစုံအား ရယူနိုင်သကဲ့သို့ သဒ္ဓါလက်ရှိသောသူတို့သည် သူတော်ကောင်းဥစ္စာရတနာမျိုးစုံအား အရယူနိုင်စွမ်းသည်။

သီလ၊ သမာဓိ၊ ပညာဆိုသည့် အကျင့်မြတ်တို့အားလည်း ကျင့်သုံးနိုင်သည်။

သဒ္ဓါလက်ဖြင့် ယူတတ်သူဖြစ်လျှင် လူ့ဘဝ၏အနှစ် ၃ မျိုးအားရနိုင်သည်။ ယင်းသို့ရနိုင်သည်အား-

'စည်းစိမ်ဥစ္စာ၊ အနှစ်ရှာ၊

ပြုပါ ဒါနမှတ်။

မိမိခန္ဓာ၊ အနှစ်ရှာ

စောင့်ပါ သီလမှတ်။

အသက်ဇီဝါ၊ အနှစ်ရှာ

ဘာဝနာဟု မှတ်'

ဟု မိန့်ဆိုထားသည်ကို နှလုံးသွင်းရမည်။

* * *

သို့သော် ယုံကြည်ချက်ဟုဆိုသည့် သူတော်ကောင်းတို့၏နှလုံးသားတွင်မှ သဒ္ဓါလက်သည် အမျိုးအစားအားဖြင့် (၄) မျိုးကွဲပြားနေကြောင်း မှတ်သားရသည်။

မည်သို့ဆိုစေ တစ်ခု သတိချပ်ထားရမည်က လက်တူညီရန်လိုသည်။ လက်မတူလျှင် ယူတိုင်းရမည်မဟုတ်။ ရသမျှလည်း ယူနိုင်ကြမည်မဟုတ်ပါ။

အဘယ့်ကြောင့်ဆိုသော်...

၁။ ဘုရားအလောင်းတော်တို့၏နှလုံးသား၌ရှိသည့် 'အာဂမနိယသဒ္ဓါ'

၂။ အရိယာသူတော်ကောင်းတို့နှလုံးသား၌ရှိသည့် 'အဓိဂမသဒ္ဓါ'

၃။ မိရိုးဖလာ ဗုဒ္ဓဘာသာဝင်တို့နှလုံးသား၌ရှိတတ်သည့် 'ပသာဒသဒ္ဓါ' (အပေါ်ယံယုံကြည်မှု)

၄။ ပညာဗုဒ္ဓဘာသာဝင်တို့နှလုံးသား၌ရှိသည့် ဉာဏ်နှင့်သက်ဝင်ယုံကြည်မှု 'ဩကပ္ပနသဒ္ဓါ'

(သုတ်မဟာဝါ အဋ္ဌကထာ၁

စသည်တို့ဖြစ်ပြီး ယင်းသဒ္ဓါ (၄)မျိုးအနက် မိမိက မည်သည့်သဒ္ဓါအား ရယူနိုင်သည်ဆိုသည်အား သုံးသပ်ကြည့်လျှင် ပုထုဇဉ်လူသားတစ်ဦးအနေနှင့် ပသာဒသဒ္ဓါနှင့် ဩကပ္ပနသဒ္ဓါတည်းဟူသော သဒ္ဓါနှစ်မျိုးလောက်သာပဲ လက်တွေ့အသုံးချ၍ရမည်ဟု ယူဆရ၏။

အရိယာတို့နှလုံးသားမှ ဖြစ်တည်ခဲ့သည့် 'အဓိကမသဒ္ဓါ' ကမူ အလိုလိုဖြစ်လာသည့်သဒ္ဓါ ဖြစ်၏။

ယင်းသဒ္ဓါနှင့် ယုံစရာငါးမျိုးတို့အား ယုံတော့ယုံသည်။ သို့သော် အပေါ်ယံယုံတတ်သည့် မိရိုးဖလာယုံပုံမျိုးတို့က ပညာအဆင့်မှာ ပသာဒသဒ္ဓါနှင့်ယုံခြင်းမျိုးဟု ဆိုရမည်။

မိမိသည် ပုံတော်များအား ကြည်ညိုနေရုံမျိုးမဟုတ်ဘဲ ဂုဏ်တော်အား ဉာဏ်ဖြင့်သက်ဝင်ဆင်ခြင်ပွားများပြီး အသိဉာဏ်မှာ အာရုံပေါ်လာသည်အထိ ပုံဖော်ပြီး ပညာနှင့်ယုံခြင်းဖြစ်၏။

ဩကပ္ပနသဒ္ဓါဟု ခေါ်သည်။

အမှန်ကိုဆိုသော် ယူသလောက်ရနိုင်ပြီး ရနိုင်သလောက် ယူနိုင်သည့်သဒ္ဓါမျိုးလည်း ဖြစ်သည်။

ပြောရလျှင် ထိုသဒ္ဓါမျိုးကသာ အဓိတမသဒ္ဓါအဆင့်နှင့် သောတပန်အရိယာဖြစ်အောင် ပို့ဆောင်ပေးနိုင်စွမ်း ရှိသည်။

သောတပန်အရိယာဖြစ်အောင် သညာနှင့်ယုံသည့်သဒ္ဓါကပဲ အဆင့် (၄)ဆင့်နှင့် ပို့ဆောင်ပေးနိုင်သည်။

ပထမအဆင့်၌ သူတော်ကောင်းမြတ်တရားစတ်တို့၏ မြွက်မိန့်ကြားနိုင်သည့် စွမ်းအားရှိသူဆရာမျိုးအား ချဉ်းကပ်နိုင်ဖို့ ပို့ဆောင်ပေးတတ်သည်။

ဒုတိယအဆင့်မှာ သူတော်ကောင်းတို့ ဟောကြားသည့်တရားမြတ်အား အသိဉာဏ်နားနှင့် သတိစိုက်နာယူနိုင်ဖို့လည်း ပို့ဆောင်ပေးတတ်သည်။

တတိယအဆင့်မှာ မြတ်တရားအား နာကြားရုံမဟုတ်ဘဲ အသိဉာဏ်နှင့် သင့်လျော်စွာ ဆင်ခြင်နှလုံးသွင်းနိုင်ရန်လည်း ပို့ဆောင်ပေးတတ်သည်။

နောက်ဆုံး စတုတ္ထအဆင့်ကိုဆိုသော် လက်တွေ့အသုံးကျအောင် ကိုယ်တိုင်ကိုယ်ကျ လိုက်နာကျင့်သုံးမှုနှင့် တန်ဖိုးရှိရှိ အသုံးချနိုင်အောင်သည် ပို့ဆောင်ပေးတတ်စမြဲ ဖြစ်သည်။

'သူတော်ဆည်းကပ်၊ မြတ်တရားနာ
လျော်စွာနှလုံး၊ ကျင့်သုံးခမဲ
ဤလေးဝ၊ ပြည်ကသောတပန်'

(သောတ္တာပတ္တိယင်္ဂသုတ်)

* * *

လောက၌ ဤကဲ့သို့ ပညာနှင့်ယှဉ်၊ သဒ္ဓါနှင့်ပြည့်စုံသူသည် သူတော်ကောင်းအား ဆည်းကပ်ခွင့်၊ မြတ်တရားနာကြားခွင့်၊ လျော်စွာ နှလုံးသွင်းခွင့်၊ တရားအတိုင်း ကျင့်သုံးခွင့်ဆိုသည့်အဆင့် (၄) ဆင့်နှင့် တန်ဖိုးလေးမျိုး ပြည့်စုံခြင်းကြောင့် လူ့ဘဝအခွင့်ထူးကို ရကျိုးနပ်သည့် တန်ဖိုးရှိသူဟု ဆိုရမည်။

လူ့ဘဝအခွင့်ထူးအား ရကျိုးနပ်ပြီး တန်ဖိုးရှိသူသည် အပြစ်ကင်းဆိုသည့် အကုသိုလ်အပုပ်အဆွေးတို့အား ဖဲကြဉ်ကာ အချစ်ကင်းဆိုသည့် ကုသိုလ်တန်ဖိုးအကျိုးအမြတ်တန်ဖိုးတွေ တိုးပွားပြီး ပြည့်စုံလာလေအောင် ဖြည့်ကျင့်နိုင်သူလည်း ဖြစ်သည်။

အကယ်၍ ဤဘဝ၌ ပါရမီနုနည်းနေသေးသဖြင့် သောတပန် စသည့်မတည်နိုင်စေကာမူ အနည်းဆုံးဘဝ အရှုံးမထွက်သည့် တန်ဖိုးအကျိုးအမြတ်တို့အား ရယူပိုင်ဆိုင်

နိုင်မှာ မလွဲဖြစ်သည်။

ထို့ကြောင့် လူတို့သည် လောဘ၊ မောဟ၊ ဒေါသဆိုသည့် အတွင်းပုပ်၊ အတွင်းဆွေးတရားများနှင့် အပါယ်ခံဘဝမှ လွတ်မြောက်ပြီး အလောဘ၊ အဒေါသ၊ အမောဟဆိုသည့် အတွင်းကောင်း၊ အတွင်းလှတရားများနှင့် အဆယ်ခံဘဝကိုလည်း ရရှိနိုင်မည်ဖြစ်၏။

နောင်တစ်ချိန် သေလွန်သည့်အခါ တမလွန်ဘဝ၌လည်း အပါယ်လေးဘုံမှလွတ်ပြီး လူနတ်ဗြဟ္မာဘဝတွေကိုသာ လားရပြီး လာခြင်းကောင်းလည်းရှိသူ၊ ကောင်းသောလာရောက်ခြင်းရှိသူလည်း ဖြစ်မည်၊ ဖြစ်သတည်း…။

**၇။ သတိသံဝေဂရကြစေ…**

"သေဘေးဟူသည်
ရှောင်၍လွတ်နိုင်သောအရာ မဟုတ်။
မလွတ်နိုင်မည့်အတူ
လာမည့်ဘေး ပြေးတွေ့ရဲအောင်
အသေမြတ်ခြင်း သေနည်းသင့်လော့။"

မေတ္တာရှင် (ရွှေပြည်သာ)

"စိတ်ကို မစောင့်ရှောက်လျှင် (ကာယကံ)
ကိုယ်ကို စောင့်ရှောက်သည်မမည်။
(ဝစီကံ) နှုတ်ကိုလည်း စောင့်ရှောက်သည်မမည်၊
(မနောကံ) စိတ်ကိုလည်း စောင့်ရှောက်သည်မမည်၊
ဤသို့ မစောင့်ရှောက်သူသည်
ကောင်းသောသေခြင်း မဖြစ်နိုင်၊
ကောင်းသော ကွယ်လွန်ခြင်း မဖြစ်နိုင်။"

မေတ္တာရှင် (ရွှေပြည်သာ)



သုဿန်၌ ဆရာတော်တရားထိုင်နေစဉ် ပြိတ္တာကလေးများ ထွက်လာပြနေပုံ

"ကုသိုလ်အလုပ်ဆိုတာ
မည်သူမဆို လုပ်ရမှာပျင်းကြတယ်။
မလုပ်ချင်ပေမယ့် ပေပြီးလုပ်ရတယ်။
အကုသိုလ်ကျတော့
ဘယ်သူမဆို မတိုက်တွန်းရဘူး။
လုပ်ချင်နေကြတယ်။
အကုသိုလ်အလုပ်ဆိုတာ
လုပ်ချင်ပေမယ့်
ပေပြီး မလုပ်ဘဲရှောင်ရမယ်။"

**(ကျေးဇူးရှင် မစိုးရိမ်ဆရာတော်ဘုရားကြီး)**

"ကုသိုလ်ကြောင့် လူဖြစ်လာရသည်ဖြစ်၍
လူနှင့်ကုသိုလ်၊ ကုသိုလ်နှင့်လူသည်
ခွဲခွာ၍ မရချေ။
ကုသိုလ်များ ပျောက်သွားသည်နှင့်
လူသည် လူ့လမ်းကြောင်းပေါ်မှ
ဖယ်ခွာသွားရမည် ဖြစ်သည်။"

**(တိပိဋကဓရ ယောဆရာတော်)**

"အကုသလ၊ ကုသလ၏ ကမ္မသဃကာ
လက္ခဏာကို၊ မြဲစွာဝမ်းတွင်း၊ နှလုံးသွင်းလော့။
မပျင်းကုသိုလ်၊ ထိုပုဂ္ဂိုလ်ကား
ကိုယ်ကိုချစ်သူ၊ မည်သောဟူ၏။"

**(ကျေးဇူးရှင် မန်လည်ဆရာတော်ဘုရားကြီး
မာဃဒေဝလင်္ကာသစ်မှ)**

"မှာရဲကြရဲ့လား၊
ငါသေရင် သပိတ်မသွတ်ကြနဲ့လို့ မှာရဲကြရဲ့လား။
မှာရဲအောင် ကျင့်ကြံအားထုတ်ကြ။
သပိတ်သွတ်တယ်ဆိုတာ မကောင်းတဲ့နေရာရောက်နေလို့
သာခုခေါ်နိုင်ပြီး ကောင်းရာသုဂတိရောက်အောင်လို့
ကျန်တဲ့လူက
သေသူအတွက် လုပ်ကြတာတဲ့။
အဲဒါ...သက်သက်မဲ့ အရှက်ခွဲတာ၊
အရှက်မကွဲချင်ရင် အားထုတ်ကြ။

**(ကျေးဇူးရှင် မိုးကုတ်ဆရာတော်ဘုရားကြီး)**



## လူနှင့်စပ်လျဉ်းသော အကြောင်းအရာများ

(သုဘလုလင် အမေး၊ မြတ်စွာဘုရား အဖြေ)

**သုဘလုလင်** - မြတ်စွာဘုရား၊ လူ့လောက၌ လူတို့သည် အဘယ်ကြောင့် အချို့ အသက် ရှည်၍ အဘယ့်ကြောင့် အချို့ အသက်တိုရပါသလဲဘုရား…

**မြတ်စွာဘုရား** - သုဘလုလင်…အချို့သူတို့သည် သတ္တဝါတို့ကို ကြင်နာသနားတတ်၏။ သူတစ်ပါးအသက်သတ်ခြင်းမှ ရှောင်ကြဉ်ခဲ့ကြ၏။ ထိုသူမျိုးများ သေဆုံးပြီးနောက် လူ့ပြည်ရောက်ခဲ့လျှင် အသက်ရှည်ရှည်နေရပေ၏။ အချို့သူတို့ကား သူတစ်ပါးအသက်၊ သတ္တဝါတို့၏အသက်ကို သတ်လေ့ရှိခဲ့ကြ၏။ ထိုသူမျိုးများသေဆုံးပြီးနောက် လူ့ပြည်ရောက်ခဲ့သော် အသက်တိုတို နေကြရ၏။

**သုဘလုလင်** - မြတ်စွာဘုရား…အချို့သူများ အနာရောဂါကင်း၍ အချို့သူများ အနာရောဂါများကြခြင်းမှာ အဘယ့်ကြောင့်ပါလဲဘုရား။

**မြတ်စွာဘုရား** - သုဘလုလင်…အချို့သူများမှာ သတ္တဝါတို့အပေါ် ညှဉ်းပန်းနှိပ်စက်မှု မပြုတတ်၊ သနားခြင်းကရုဏာတရားထားတတ်၏။ ထိုသူမျိုးများ သေပြီး လူ့ပြည်ရောက်လာပါက အနာရောဂါ ကင်းရှင်းစွာနေရ၏။

အချို့သူများကား သတ္တဝါတို့အပေါ်၊ သူတစ်ပါးအပေါ် နှိပ်စက်ညှဉ်းပန်းတတ်၏။ ထိုသူမျိုးများ လူ့ပြည်ရောက်လာခဲ့ပါက အနာရောဂါ များတတ်၏။

**သုဘလုလင်** - မြတ်စွာဘုရား…အချို့သူများ ရုပ်ချောအဆင်းလှ၍ အချို့သူများ အဘယ့်ကြောင့် ရုပ်ဆိုးရပါသလဲဘုရား။

**မြတ်စွာဘုရား** - အချို့သူများသည် ဒေါသထွက်လေ့ မရှိ။ အမျက်ထွက်စိတ်ဆိုးလျက် သူတစ်ပါးတို့အား အပြစ်ပြောလေ့မရှိ။ သည်းခံခြင်း ခန္တီတရားရှိ၏။ ထိုသူမျိုးများ သေပြီး လူ့ပြည်ရောက်ရှိလာပါက ရုပ်ချောအဆင်းလှ ဖြစ်ရ၏။

အချို့သူများကား အမျက်ထွက်စိတ်ဆိုးလျက် သူတစ်ပါးတို့အား အပြစ်ပြောလေ့ရှိ၏။ သည်းခံမှုခန္တီတရား မရှိ၊ အမျက်ဒေါသကြီးမား တတ်၏။ ထိုသူမျိုးများသေပြီးနောက် လူ့ပြည်ရောက်လာပါက ရုပ်ဆိုး တတ်၏။ အဆင်းမလှဖြစ်တတ်၏။

**သုဘလုလင်** - မြတ်စွာဘုရား…အချို့သူများ အခြံအရံများ၍ အချို့သူများ အခြံအရံ နည်းရခြင်းမှာ ဘာကြောင့်ပါလဲဘုရား။

**မြတ်စွာဘုရား** - သုဘလုလင်…အချို့သူများသည် သူတစ်ပါးကြီးပွားချမ်းသာသည်ကို (မနာလိုမှု-ဣဿာ)၊ (ဝန်တိုမှု-မစ္ဆရိယ) စိတ်ထားများ မထားရှိကြပေ။ ထိုသူမျိုးများ သေပြီးလူဖြစ်လာပါက အခြံအရံများ၏။

အချို့သူများကား သူတစ်ပါး ကြီးပွားချမ်းသာသည်ကို (မနာလိုမှု

ဣသော)၊ (ဝန်တိုမှု-မစ္ဆရိယ) စိတ်ထားများထားရှိကြ၏။ ထိုသူမျိုးများသေပြီးနောက် လူ့ပြည်ရောက်လာပါက အခြံအရံ နည်းပါးသူဖြစ်လာရ၏။

သုဘလုလင် - မြတ်စွာဘုရား...အချို့သူများ ချမ်းသာကြ၍ အချို့သူများ ဆင်းရဲကြခြင်းမှာ အဘယ့်ကြောင့်ပါနည်းဘုရား။

မြတ်စွာဘုရား - သုဘလုလင်...အချို့သူများသည် အလှူဒါန ပြုလုပ်ကြ၏။ လှူဒါန်းပေးကမ်းမှုရှိကြ၏။ ထိုဒါနရှင်များ သေပြီးနောက် လူ့ပြည်ရောက်လာပါက ချမ်းသာသူများ၊ သူဌေးများ ဖြစ်လာကြ၏။

အချို့သူများကား လှူဒါန်းပေးကမ်းမှု မရှိ။ နှမြောတွန့်တိုကြ၏။ ထိုသူမျိုးများ သေဆုံးပြီးနောက် လူ့ဘဝရောက်လာပါက ဆင်းရဲမွဲတေကြ၏။ ဥစ္စာမရှိ၊ ငွေ နတ္ထိဖြစ်ရ၏။

သုဘလုလင် - မြတ်စွာဘုရား...အချို့သူများ အမျိုးမြတ်၍ အချို့သူများ အမျိုးယုတ်၍ဖြစ်ရ၏။ အဘယ်ကြောင့် ထိုသို့ ဖြစ်ရပါသလဲဘုရား။

မြတ်စွာဘုရား - သုဘလုလင်...အချို့သူများမှာ လှူဒါန်းမှုပြုရာ၌ မည်သူ့အပေါ်မျှ မာန်မာနထောင်လွှားမှုမရှိ၊ ရိုသေထိုက်သူတို့အပေါ် ရိုသေမှုထားကာ လှူဒါန်းခဲ့၏။ ထိုသူမျိုးများ ကွယ်လွန်ပြီးနောက် လူ့ပြည်ရောက်ခဲ့ပါက အမျိုးမြတ်သူ ဖြစ်လာရ၏။

(မာနသည် သတိထားရမည့်အရာတစ်ခု ဖြစ်၏။)

သုဘလုလင်...အချို့သူများကား မာနကြီး၏။ အလှူခံပုဂ္ဂိုလ်အပေါ် အရိုအသေထားမှု နည်းပါး၏။ အလှူခံပုဂ္ဂိုလ်ကို အထင်သေး၏။ ထိုသူမျိုးများ သေပြီးနောက် လူ့ပြည်ရောက်ခဲ့ပါက ယုတ်မာသော၊ ယုတ်ညံ့သောအမျိုး၌ ဖြစ်ရတတ်၏။

သုဘလုလင် - မြတ်စွာဘုရား...အချို့သောသူများသည် ဉာဏ်ကြီး၍၊ ဉာဏ်ကောင်း၍ အချို့သောသူများ ဉာဏ်နုံ ဉာဏ်မဲ့ ဉာဏ်နည်းခြင်းကား အဘယ်

အကြောင်းကြောင့်ပါနည်း။

**မြတ်စွာဘုရား** - သုဘလုလင်...အချို့သူတို့သည် ပညာရှိတို့ထံ ချဉ်းကပ်လျက် ကောင်းမှု-မကောင်းမှု၊ ကောင်းဆိုးနှစ်တန် ကံ-ကံ၏အကျိုး စသည်ကို မေးမြန်းနာယူမှတ်သားကြ၏။ ဉာဏ်ပညာဆိုင်ရာများ ဆည်းပူးကြ၏။ ထိုသူမျိုးများ သေဆုံးပြီးနောက် လူ့ပြည်ရောက်လာပါက ဉာဏ်ကြီးသူ၊ ဉာဏ်ကောင်းသူ ဖြစ်လာရ၏။

သုဘလုလင်...အချို့သူများကား ပညာရှိတို့ထံ ချဉ်းကပ်ကာ အသိဉာဏ်ပညာနှင့်ပတ်သက်သော ကုသိုလ်ကောင်းမှုများ မပြုလုပ်ခဲ့။ မဆည်းပူးခဲ့ပေ။ ထိုသူမျိုးများ သေပြီးနောက် လူ့ပြည် လူ့ဘဝရောက်လာသောအခါ၌ အသိဉာဏ်နည်း၊ ဉာဏ်ထိုင်း၊ ဉာဏ်နုံ၊ ဉာဏ်နည်းသူ ဖြစ်လာရ၏။

(စူဠကမ္မဝိဘင်္ဂသုတ်)



## သေရမည်မှာ ဧမ္မတာ

**သတ္တဝါတို့သေနည်းများ**

သတ္တဝါတို့သေခြင်းတွင် သေခြင်းအကြောင်းတရား (၄)ပါး ရှိပါသည်။

၁။ အသက်တမ်းကုန်၍ သေခြင်း၊

၂။ ကံအစွမ်းကုန်၍ သေခြင်း၊

၃။ အသက်ကံနှစ်ပါးစုံကုန်၍ သေခြင်း၊

၄။ ကံတစ်ပါးက ဖြတ်သတ်၍ သေခြင်း၊

**၁။ အသက်တမ်းကုန်၍ သေခြင်း**

ထိုထိုဘုံဘဝ၌ သတ်မှတ်ထားသောသက်တမ်းများ ရှိပါသည်။ ဤလူ့ဘုံသည် တက်ကပ်ကာလဝယ် အသင်္ချေယျကပ်ထိ အသက်တမ်းရှိပြီး ဆုတ်ကပ်ကာလတွင် ဆယ်နှစ်တမ်းအထိ ရှိသည်။

ယခု ဂေါတမဘုရားရှင်ပွင့်သော လူ့ဘုံသည် သက်တမ်း (၁၀၀)ကာလ ဖြစ်သည်။

အတိတ်ဘဝက သင့်တော်ရုံကံပါလာသူတို့သည် သတ်မှတ်ထားသောသက်တမ်းကို မလွန်ဆန်နိုင်ချေ။ အတိတ်ကုသိုလ်ကံထူးကလည်းရှိ၊ ပစ္စုပ္ပန်ဘဝ၌လည်း ကုသိုလ်ကောင်းမှုပြု၍ ကျန်းမာရေးလိုက်စားသူ၊ ဆေးကောင်းဝါးကောင်းရှိသူတို့သည် သက်တမ်းလွန်အောင် နေနိုင်ကြသည်။

(အသက်ရှည်ရာတွင် ကံ၊ စိတ်၊ ဥတု၊ အာဟာရသည် အရေးကြီးသောကဏ္ဍမှ ပါဝင်နေပါသည်။)

အသက် (၇၅) နှစ်သက်တမ်း၌ (၇၅)နှစ်ပြည့်သောအခါ သေဆုံးခြင်းသည် သက်တမ်းကုန်၍ သေရခြင်းဖြစ်သည်။ ကံတရားကရှိပေမယ့် သက်တမ်းက ကုန်ဆုံးနေ၍သေရခြင်း ဖြစ်သည်။

ဥပမာ- မီးစာရှိသေးသော်လည်း ဆီကုန်၍ မီးငြိမ်းရသည်နှင့်တူသည်။

## ၂။ ကံကုန်၍သေခြင်း

ဘဝတစ်ခုကို စီမံလိုက်သောကံသည် ပဋိသန္ဓေတည်နေသောအချိန်မှစ၍ မိမိသတ္တိမကုန်သရွေ့ ဘဝမပြတ်အောင် (မသေအောင်) အစဉ်တစိုက် အမြဲဖန်တီးပေးနေတတ်သည်။

ထိုမူလ စီမံလိုက်သော ကံ၏အစွမ်းကို အားပေးကူညီသော (ပဝတ္တိအခါပြုကျင့်သော) အခြားကံများလည်း ရှိသေးသည်။

ထိုမူလ စီမံလိုက်သော (အတိတ်) ကံနှင့်အားပေးကူညီကြသော (ပစ္စုပ္ပန်)ကံတို့အစွမ်းသတ္တိကုန်လျှင် အသက်တမ်း မကုန်သေးသော်လည်း ဧကန်မုချ သေရတော့မည်။

၇၅ နှစ်သက်တမ်း၌ ကံအစွမ်းက အသက် (၅၀)လောက်သာရှိလျှင် (၅၀)အရွယ်မှာပင် သေရသည်။ ယင်းကို ကံကုန်၍သေခြင်းဟု ခေါ်သည်။

ဥပမာ-ဆီမကုန်သေးသော်လည်း မီးစာကုန်၍ မီးငြိမ်းရခြင်းနှင့်တူ၏။

**၃။ အသက်၊ ကံနှစ်ပါးစုံကုန်၍ သေရခြင်း**

အချို့သတ္တဝါတို့သည်ကား အသက်တမ်းလည်းကုန်၊ ကံစွမ်းလည်းကုန်၍ သေကြရသည်။

ဥပမာ- မီးစာကုန်ဆီခန်း၍ သေရခြင်းမျိုး ဖြစ်သည်။

**၄။ ကံတစ်ပါး သတ်ဖြတ်၍ သေရခြင်း**

အချို့သောသတ္တဝါတို့သည် အသက်တမ်းလည်း မကုန်သေး။ ကံအစွမ်းလည်း မကုန်သေး။ သို့သော် ရှေးရှေးဘဝကဖြစ်စေ၊ ယခုဘဝမှာဖြစ်စေ ပြုမိသောအကုသိုလ်ကံက အခွင့်ရသဖြင့် တစ်နည်းနည်းနှင့် သေရတော့သည်။

ကားတိုက်ခံရ၍ သေရခြင်း၊ သူတစ်ပါး ဓား၊ လက်နက်စသည်ဖြင့် သေရခြင်းစသည်တို့သည် ကံတစ်ပါးသတ်ဖြတ်၍ သေရခြင်းမျိုးများ ဖြစ်သည်။

ဥပမာ- မီးစာ၊ ဆီနှစ်မျိုးစလုံး မကုန်သေးဘဲ လေပြင်းတိုက်ခတ်မှု၊ တမင်ငြိမ်းသတ်မှုတို့ကြောင့် မီးငြိမ်းရသကဲ့သို့ ဖြစ်သည်။

**သေခါနီး ထင်အာရုံမှာ**

ပုဂ္ဂိုလ်တစ်ဦးတစ်ယောက် သေတော့မည်ဟုဆိုလျှင် သေဖို့ရာ နာရီဝက်လောက်အလိုမှာပင် နောင်ဘဝသစ်၌ မည်သည့်ဘဝမျိုး ရရှိမည့်အကြောင်း ကြိုတင်၍ ကံ၊ ကမ္မနိမိတ်၊ ဂတိနိမိတ်ဟူသော အာရုံသုံးမျိုးတွင် တစ်မျိုးမျိုး ထင်လာတတ်ပါသည်။

ကံဆိုသည်မှာ ကုသိုလ်၊ အကုသိုလ် (စေတနာ) ဖြစ်ပါသည်။

ကမ္မနိမိတ်ဆိုသည်မှာ ထိုကုသိုလ်၊ အကုသိုလ် ပြုလုပ်ခဲ့စဉ်က တွေ့ကြုံသုံးစွဲခဲ့သောအာရုံများ ဖြစ်ပါသည်။

ဂတိနိမိတ်ဆိုသည်မှာ သေပြီးနောက် ရောက်မည့်ဘဝ၌ တွေ့ကြုံခံစားရမည့်အာရုံများ ဖြစ်ပါသည်။

ထိုတွင် သေခါနီး ဤအာရုံသုံးမျိုး မထင်မီ-

- စက္ကန့်၊ မိနစ် အနည်းငယ်အလိုကဖြစ်စေ
- နာရီဝက်၊ တစ်နာရီအလိုကဖြစ်စေ
- ရက်ပေါင်း၊ လပေါင်း ဝေးကွာသောအခါကဖြစ်စေ
- ဘဝပေါင်း၊ ကမ္ဘာပေါင်းများစွာကဖြစ်စေ ပြုလုပ်ခဲ့သော ကံတစ်မျိုးမျိုးသည် သေခါနီးလတ်သော် ကံအများထဲမှ ရွေးရှုထွက်ပြုသကဲ့သို့ ထင်ပေါ်လာတတ်သည်။

ထိုသို့ထင်လာရာ၌ ကုသိုလ်ကံများတွင် ဒါနမှု၊ သီလမှုဖြစ်လျှင် ထိုကံကိုပြန်၍ အမှတ်ရသောအားဖြင့်လည်းကောင်း၊ ယခုပင် လှူဒါန်းနေရ၊ ဥပုသ်စောင့်နေရသကဲ့သို့ လည်းကောင်း ထင်လာတတ်သည်။

အကုသိုလ်ကံများတွင် သူ့အသက်သတ်မှုဖြစ်လျှင်လည်း ထိုကံကို ပြန်၍ အမှတ်ရသောအားဖြင့်လည်းကောင်း၊ ယခုပင် သတ်ဖြတ်နေရသကဲ့သို့လည်းကောင်း ထင်လာတတ်သည်။

ဤသည်မှာ ကံအာရုံထင်ခြင်း ဖြစ်ပါသည်။

ကုသိုလ်ကံပြုခဲ့သောသူတို့တွင် ကျောင်းကန်ဘုရား တည်ဆောက်မှုဒါန၊ ကုသိုလ်ပြုခဲ့သူဖြစ်လျှင် ကျောင်းအာရုံ၊ ဘုရားအာရုံ၊ ကျောင်းနှင့်စပ်၍ လှူဒါန်းခဲ့သော ဆွမ်း၊ သင်္ကန်း၊ ဆေးဝါး စသောအာရုံများ၊ ဘုရားနှင့်စပ်၍ လှူဒါန်းခဲ့သော ဆွမ်း၊ ပန်း၊ ရေချမ်း၊ ဆီမီး၊ အမွှေးတိုင် စသောအာရုံများ ထင်လာတတ်သည်။

ဥပုသ်စောင့်သူဖြစ်လျှင် ဥပုသ်နှင့်စပ်ဆိုင်သော စိပ်ပုတီး၊ စင်ကြယ်သော အဝတ်အစား စိတ်ပုတီးစိပ်ရာ ကျောင်းကန်ဇရပ် စသောနေရာအာရုံများ ထင်လာတတ်သည်။

အကုသိုလ်ကံပြုခဲ့သောသူတို့တွင် သူ့သက်သတ်မှုပြုခဲ့သူဖြစ်လျှင် မိမိသတ်ခဲ့သောပုဂ္ဂိုလ်၊ သတ္တဝါအာရုံများ သတ်ဖြတ်ရာတွင် အသုံးပြုခဲ့သော တုတ်၊ ဓား၊ လေး၊ မြား စသော လက်နက်အာရုံများ ထင်လာတတ်ပါသည်။

ဤသည်မှာ ကမ္မနိမိတ်အာရုံထင်ခြင်း ဖြစ်ပါသည်။

နတ်ပြည်ရောက်မည့်သူဖြစ်လျှင် နတ်ဘုံနတ်နန်းအာရုံ နတ်သမီး၊ နတ်သား၊ ဥယျာဉ်၊ ပဒေသာပင်၊ နတ်ဝတ်တန်ဆာ စသောအာရုံများ ထင်လာတတ်သည်။

လူဖြစ်မည့်သူဖြစ်လျှင် မိခင်ဝမ်းရေ၏ နီနီရဲရဲသော အဆင်းအာရုံ၊ ယောကျ်ား၊ မိန်းမ၊ လူ့အသုံးအဆောင်ပစ္စည်းအာရုံများ ထင်လာတတ်သည်။

ငရဲကျမည့်သူဖြစ်လျှင် ငရဲဘုံအာရုံ၊ ငရဲမီးလျှံ၊ ငရဲထိန်းခွေးနက်ကြီး စသော အာရုံများ ထင်လာတတ်သည်။

ပြိတ္တာဖြစ်မည့်သူဖြစ်လျှင် တောတောင်မြစ်ကမ်း စသောအာရုံများ ထင်လာတတ်သည်။ ဤသည်မှာ ဂတိနိမိတ် အာရုံထင်ခြင်း ဖြစ်ပါသည်။

## သေခါနီးမှာ အမူအရာ

ထိုကဲ့သို့ ထင်လာပြီးနောက် ထင်လာသောအာရုံအားလျော်စွာ ကုသိုလ်ကံ အကျိုးပေးတော့မည်ဖြစ်လျှင် ကောင်းသောအာရုံထင်လာသောကြောင့် ထိုအာရုံကို အာရုံပြုလျက် ဖြူစင်ကြည်လင်သော ကုသိုလ်စိတ်အစဉ် ဖြစ်နေ၏။

အကုသိုလ်ကံ အကျိုးပေးတော့မည်ဖြစ်လျှင်လည်း မကောင်းသောအာရုံထင်လာသောကြောင့် ထိုအာရုံကိုပြုလျက် ညစ်နွမ်းသော၊ မတည်ကြည်သော အကုသိုလ်စိတ် အစဉ် ဖြစ်နေ၏။

ရောက်ရမည့်ဘဝ အားလျော်စွာ ထိုဘဝသစ်သို့ ရှေးရှုကာ စိတ်အစဉ်ညွှတ်ကိုင်းသကဲ့သို့ ဖြစ်နေ၏။

ဥပမာ- အရပ်တစ်ပါး ခရီးသွားမည့်သူသည် သွားဖို့ပြင်ဆင်နေသော်လည်း သွားရမည့်အရပ်သို့ စိတ်အစဉ်ညွှတ်သကဲ့သို့ ဖြစ်ပါသည်။

စုတေခါနီး စုတေမည့်သူ၏ မျက်နှာအနေအထား၊ အမူအရာတို့ကို အကဲခတ်ကြည့်ရပါမည်။

မျက်နှာ ကြည်ကြည်လင်လင်ရှိလျှင် အာရုံကောင်းနေပြီဖြစ်၍ သုဂတိဘဝသို့ ရောက်ရမည်မှာ သေချာသည်ဟု မှန်းဆနိုင်ပါသည်။

(သို့သော် ရှေးကခံစားခဲ့သော ကာမဂုဏ်ကို စားမြုံ့ပြန် သတိရ၍ ပြုံးရွှင်နေမှုကား မကောင်းသောအပြုံးမျက်နှာ)

မျက်နှာအနေအထား အနည်းငယ်ညှိုးနေလျှင် (သို့မဟုတ်) ကြမ်းတမ်းသော အမူအရာဖြစ်နေလျှင် မကောင်းသောအာရုံ ထင်နေပြီးဖြစ်၍ ဧကန်မုချ အပါယ်ဒုဂ္ဂတိဘဝသို့ ရောက်တော့မည်ဟု မှန်းဆနိုင်ပါသည်။

အချို့ကား သေခါနီး ညင်ညင်သာသာမရှိဘဲ ယောင်ယမ်းပြောဆိုတတ်ကြသည်။

ဥပမာ- ရဟန္တာမထေရ်၏ အရှင်သောဏ၏ဖခင်သည် ငယ်စဉ်ကမှ မုဆိုးကြီးဖြစ်သည်။ ကြီးသော် ရဟန်းပြု၏။ သေခါနီးကာလဝယ် ခွေးကြီးများက သူ့ကိုကိုက်တော့မည့်ဟန်အာရုံထင်လာနေသဖြင့် 'သားရဲ့ခြောက်ပါဟဲ့၊ ခြောက်ပါဟဲ့'ဟု ကယောင်ကတမ်း အော်ဟစ်သည်။

မထေရ်မြတ်က ဖခင်ကြီး ငရဲအာရုံ ထင်မြင်လာသည်ကိုသိ၍ ချက်ချင်းပင် ပန်းတွေရှာ၊ ဘုရားလှူပြီး ဘုရားရင်ပြင်ပေါ်သို့ ဖခင်ကို ခုတင်နှင့်တကွ သယ်ယူကာ ဖခင်အတွက် ပန်းတွေ ဘုရားလှူထားတယ်။ ကြည်ညိုလိုက်...ကြည်ညိုလိုက်ဟု ပြောဆိုရာ သတိရလာပြီး ဘုရားကို အာရုံပြုလျက်နေစဉ် မေ့မြောသွားပြီး နတ်သမီးများ အာရုံထင်လာသည်။ ထိုအခါ 'ဟဲ့...သားရဲ့၊ ဘေးဖယ်...ဘေးဖယ်၊ သားရဲ့မိထွေးတွေလာနေတယ်'ဟု ယောင်ယမ်းပြောဆိုလေသည်။

မထေရ်သည် ဖခင်ကြီး နတ်ပြည်နိမိတ်ထင်ပြီဟု သိရှိသည်။ မကြာခင် ဖခင်ကြီးကွယ်လွန်ပြီး နတ်ပြည် ရောက်သွားသည်။

ပဉ္စာနန္တရိယကံကဲ့သို့ အလွန်ကြီးလေးသောသူတို့သည် အရှင်လတ်လတ် မြေမျိုခံရသည်။ သေသော် အဝီစိငရဲသို့ ကျရောက်မည်မှာ သေချာသည်။

သေခါနီးကာလ၌ တီးသံမှုတ်သံနှင့် အမွှေးအကြိုင်များကို အနီးအပါးလူများပင် ကြားရမွှေးရသည်မှာ ရှိသည်။ ယင်းမှာ နတ်ပြည်ရောက်မည့် ဂတိနိမိတ် ဖြစ်ပါသည်။

ကံကမ္မနိမိတ်တို့သည် များသောအားဖြင့် အကျိုးပေးခွင့်ရသော ကုသိုလ်ကံ၊ အကုသိုလ်ကံအစွမ်းကြောင့် ထင်လာရခြင်း ဖြစ်ပါသည်။

## သေခါနီး စိတ်အစဉ်

သတ္တဝါတစ်ဦး သေခါနီးကံ၊ ကမ္မနိမိတ်၊ ဂတိနိမိတ်များ စိတ်အာရုံ၌ ထင်မြင်လာသောအခါဝယ် မရဏာသန္နဝီထိ ဖြစ်ပေါ်လာပါသည်။ ထိုစိတ်ဖြစ်ပေါ်လာသည့်အချိန်၌ စိတ်များနှင့် ဟဒယဝတ္ထုတို့သည် ခွန်အားလျော့နေကြသည့်အတွက် ဇော (၅)ကြိမ်မောလေသည်။

အာရုံ မရဏာသန္နနိမိတ်ထင်လာသည့်အတွက် မရဏာသန္နဝီထိ ဖြစ်ပေါ်လာပုံ (၄)မျိုးကို သိရသည်။

(၁) တိ-န-ဒ-မ-ဇ-ဇ-ဇ-ဇ-ဇ-ဂုံ-ဂုံ-ဘဝင်-စုတိ-ပဋိ-ဘဝင်၊

(၂) တိ-တိ-န-ဒ-မ-ဇ-ဇ-ဇ-ဇ-ဇ-ဂုံ-ဂုံ-စုတိ-ပဋိ-ဘဝင်၊

(၃) တိ-တိ-တိ-န-ဒ-မ-ဇ-ဇ-ဇ-ဇ-ဇ-ဘဝင်-စုတိ-ပဋိ-ဘဝင်၊

(၄) တိ-တိ-တိ-တိ-န-ဒ-မ-ဇ-ဇ-ဇ-ဇ-ဇ-စုတိ-ပဋိ-ဘဝင်၊

တိ = အတိတ ဘဝင် ဖြစ်သည်။

ဘဝင်စိတ်ဟူသည် စိတ်အာရုံ၌ နိမိတ်ဝင်ရောက် တိုက်ခတ်လာသည့်အခိုက်ကို

ပြသည်။

န = ဘဝင်္ဂစလန (လှုပ်သောဘဝင်)

ဒ = ဘဝင်္ဂုပစ္ဆေဒ (ပြတ်သောဘဝင်)

စိတ်အာရုံ၌ နိမိတ်အာရုံ ထင်ရှားလာသည့်အတွက် ဘဝင်စိတ်နှစ်ကြိမ်လှုပ်ပြီး ဘဝင်စိတ်အစဉ် ပြတ်သွားသည်။

မ = မနောဒွါရာဝဇ္ဇန်းစိတ်

ထင်လာသောအာရုံကို နှလုံးသွင်းဆင်ခြင်ပြီး ဆုံးဖြတ်သောစိတ် ဖြစ်သည်။

ဇ = ဇောစိတ် ဖြစ်သည်။

ထင်လာသောအာရုံကို အရှိန်အဟုန်နှင့် ခံစားရသောဇောစိတ် ဖြစ်သည်။ ငါးကြိမ် ဆက်တိုက် ဖြစ်သည်။

ဂုံ = တဒါဂုံ ဖြစ်သည်။

အရှိန်အဟုန်နှင့်ဖြစ်သော ဇောစိတ်နောက်သို့ လိုက်ပါလာသောစိတ် ဖြစ်သည်။ နှစ်ကြိမ် ဖြစ်သည်။

ဘဝင် = ဘဝင်စိတ် ဖြစ်သည်။

စုတိ = သေစိတ် ဖြစ်သည်။ (လက်ရှိဘဝ၏နောက်ဆုံးစိတ် ဖြစ်သည်။)

ပဋိ = နောင်ဘဝဖြစ်မည့် ပဋိသန္ဓေစိတ် ဖြစ်သည်။ ဤပဋိသန္ဓေစိတ်သည် မရဏာသန္နဇောတို့ အာရုံပြုခဲ့သော မရဏာသန္နနိမိတ်ကိုပင် အာရုံပြုသည်။

ဘဝသစ်၌ သန္ဓေစိတ်တစ်ကြိမ်ဖြစ်ပြီးနောက် ကံအစွမ်းရှိသမျှ ဘဝင်စိတ်သည် ဆက်လက်ဖြစ်ပေါ်နေသည်။ ဘဝင်စိတ်သည် ပဋိသန္ဓေစိတ်နည်းတူ မရဏာသန္နနိမိတ်ကို ပင် အာရုံပြုသည်။

မရဏာသန္နနိမိတ် ထင်ပေါ်ခြင်းသည် မသိမသာ အဆင့်ဆင့်အားနည်းသွားလျှင် အတိတ်ဘဝင်နှစ်ချက် သို့မဟုတ် လေးချက်လွန်ပြီးသောအခါကျမှ အာရုံထင်ရှားလာပါ သည်။

ထို့နောက် ဘဝင်နှစ်ကြိမ်လှုပ်၍ ပြတ်ပြီးလျှင် မနောဒွါရာဝဇ္ဇန်းစိတ်နှင့် ဇောစိတ်

တို့သည် ဖြစ်ရိုးဖြစ်စဉ်အတိုင်း ဖြစ်ပေါ်လာကြသည်။ တဒါဂုံသည် နှစ်ကြိမ်ဖြစ်လောက်သောအခါမှ ဖြစ်သည်။ ယခုဘဝ စုတိစိတ်ဖြစ်သည်နှင့်တစ်ပြိုင်နက် လားရာဂတိငါးပါးတစ်ပါးပါး၌ နောက်ဘဝ၏ပဋိသန္ဓေစိတ်သည် အခြားမရှိဘဲ ဖြစ်ပေါ်လာသည်။

## သေခါနီး သတိထားကြဖို့

လူတစ်ယောက်သေဖို့ရာ အချိန်နီးကပ်လာလျှင် မသေမီ နာရီဝက်လောက်မှစ၍ စိတ်ကောင်းဇောကောင်းများရရှိရန် အရေးကြီးသည်။ (ဇောဟူသည် အရှိန်အဟုန်နှင့်ဖြစ်နေသောစိတ်အစဉ် ဖြစ်ပါသည်။)

စုတေသည်အထိ ကောင်းသော ကုသိုလ်ဇောများ စောနေလျှင်၊ ဖြစ်နေလျှင် ဧကန်မုချ သုဂတိဘဝသို့ ရောက်ရပေမည်။ အကုသိုလ်မကောင်းသောဇောများ စောနေလျှင် ဧကန်မုချ အပါယ်ငရဲ ရောက်ရပေမည်။

အပြေးပြိုင်ရာတွင် ပန်းဝင်ခါနီး အရေးကြီးသကဲ့သို့ နောက်ဘဝ၊ ဘဝကောင်းရဖို့ သေခါနီး အရေးကြီးသည် သေခါနီး စိတ်ကောင်း၊ မကောင်းမှာလည်း ဖော်ပြပါ။ ကံ၊ ကမ္မနိမိတ်၊ ဂတိနိမိတ်ဟူသော ထင်လာသောအာရုံနှင့် သက်ဆိုင်သည်။

ကောင်းသောနိမိတ်ထင်ပြီး ကောင်းသောကုသိုလ်ဇောစိတ်များ ဖြစ်ရလေအောင် သေခါနီးပုဂ္ဂိုလ်၏ ဆွေမျိုးသားချင်းများက ဆင်ခြင်ဝင်စားသတိထားပြုလုပ်ပေးရန် အထူးလိုအပ်လှပေသည်။

လူတစ်ဦးတစ်ယောက်သည် သေရတော့မည်ဟု တကယ်သိလျှင် လူမမာအနီးအပါး၌ သန့်ရှင်းပြီး ဘုရားကို ရည်စူး၍ ပန်းများကို ရေမွှေးကောင်းကောင်း ဆွတ်ဖျန်းလျက် လှူဒါန်းပူဇော်ထားသင့်သည်။ ညအခါ ဆီမီးများထိန်လင်းအောင် ထွန်းထားသင့်သည်။ လူမမာကိုလည်း ပန်းတွေ၊ ဆီမီးတွေ လှူထားကြောင်း ကြည်ညိုဝမ်းမြောက်ပါဟု ပြောပြရမည်။

ထို့ပြင် အလှူစာရင်းရှိက ဖတ်ပြရမည်။ ဓမ္မစကြာ၊ ပရိတ်၊ ပဋ္ဌာန်းတို့ကို ရွတ်ဖတ်ပူဇော်ပေးနေရပါမည်။ ယင်းကို ရက်အတော်ကြာကြာကပင် ပြုလုပ်သင့်ပါ



ဘုရားရှင်အား တောဒေယျခွေးကလေးမှ ရန်မူပြီးဟောင်နေပုံ

သည်။ လူမမာကို သေရမှာ တွေးကြောက်နေရသည့်ဘဝမျိုးမရောက်အောင် ပြုလုပ်စီမံပေးပြီး ကုသိုလ်အာရုံဓာတွေ စောနေအောင် ပြုလုပ်စီမံပေးနေရမည်။ သေမှ ငိုကြွေးနေခြင်း...စသည် မပြုလုပ်ကြရပါ။

အာရုံကောင်းတွေ တိုက်ရိုက်ထင်၍ စုတေနိုင်အောင် ဆွေမျိုးသားချင်းများသည် အရှင်သောဏထုံး နှလုံးမူ၍ ဆောင်ရွက်ပေးသင့်ပါသည်။

## နောက်ဘဝသစ်ကူးပုံ

သတ္တဝါတစ်ဦး စုတိစိတ်ကျပြီးနောက်ဝယ် ဘဝသစ်၌ ပဋိသန္ဓေစိတ် ဖြစ်ရ၏။ (ပဋိသန္ဓေဟူသည် ဘဝဟောင်းနှင့်ဘဝသစ်ကို တဖန် ဆက်စပ်ပေးခြင်းကို ဆိုလိုပါသည်။

စုတိစိတ်နှင့်ပဋိသန္ဓေစိတ်တို့သည် ချက်ချင်းဆက်၏။ ရုပ်နာမ်ဟူသော ပရမတ္ထတရားတို့သည် လျှပ်တစ်ပြက်အတွင်းကလေးမှာပင် အကြားမရှိ (အခြားမရှိ)ပေ။ လူ့ပြည်မှ စုတေ၍-

နတ်ပြည်ရောက်သူဖြစ်ဖြစ်...

ငရဲရောက်သူဖြစ်ဖြစ်...

လူ့ပြည်ပြန်ရောက်သူဖြစ်ဖြစ်...

ပြိတ္တာဘဝရောက်သူဖြစ်ဖြစ်...

တိရစ္ဆာန်ဘဝရောက်သူဖြစ်ဖြစ်...

အားလုံးအချိန်ကာလ မတူညီစွာပင် သေပြီးသည်နှင့်တစ်ပြိုင်နက် ပဋိသန္ဓေစိတ် ချက်ချင်းဆက်ကာ ဆိုင်ရာဘဝသို့ ဖြစ်ရသည်။

သတ္တဝါမှန်သမျှ ဘုရားရဟန္တာ မဖြစ်သေးသမျှ သေသွားရုံမျှဖြင့် ဘဝပြတ်စဲသွားနိုင်သည်မဟုတ်ကြပါ။ နောင်ဘဝသစ်မှာ ဇာကန်ဖြစ်ကြရပါသည်။ ပဋိသန္ဓေနေရဦးမည်သာ ဖြစ်ပါသည်။ သေခြင်းသည် အဟောင်းချုပ်၍ အသစ်ဖြစ်ရခြင်း သဘောရှိသည်။

သတ္တဝါတို့ ဘဝသစ်ဖြစ်ရာဝယ် ယင်းတို့သန္တာန်၌ ကိန်းအောင်းနေသော အဝိဇ္ဇာ၊ တဏှာ၊ ကံဟူသောအကြောင်းတရားသုံးပါးသည် အဓိကဖြစ်သည်။

သေခါနီး၌ အဝိဇ္ဇာသည် ဘဝသစ်၌ ရုပ်နာမ်ခန္ဓာတို့၏အပြစ်ကိုမမြင်အောင် ဖုံးထားပေးသည်။ ကြောက်မက်ဖွယ်ငရဲမီး စသော ဂတိနိမိတ်ထင်လာသော်မျှ ထိုနိမိတ်မှ လွတ်သောဘဝကို ရလိမ့်မည်ဟု ထင်မှတ်၏။

ထိုသို့ အဝိဇ္ဇာက ဖုံးထားသဖြင့် အပြစ်မမြင်နိုင်ဘဲ တဏှာက ကိုင်းညွတ်စွဲလမ်းရာ ဘဝသစ်၌ ရှေးကပြုခဲ့ဖူးသော ကုသိုလ်၊ အကုသိုလ်ကံအစွမ်းကြောင့် နောင်ဘဝသစ်၌ ပဋိသန္ဓေဟုခေါ်သော ရုပ်နာမ်တရားများ ရှေးဦးစွာ ဖြစ်ရပြန်လေသည်။

ဥပမာအားဖြင့်-

- ရေခိုးရေငွေ့မှ ရေသို့လည်းကောင်း၊
- ရေမှ ရေခဲသို့လည်းကောင်း၊
- ရေခဲမှ ရေသို့လည်းကောင်း၊
- ရေမှ ရေခိုးရေငွေ့မှ ရေသို့လည်းကောင်း၊

ဤသို့ ဖြစ်စဉ်သဘောအတိုင်း ဖြစ်-တည်-ပျက်-ဖြစ် လှည့်လည်ပြောင်းလဲနေရသကဲ့သို့ ဘဝဟောင်းစုတေခြင်း၊ ဘဝသစ်ပဋိသန္ဓေနေရခြင်းတို့သည် အဝိဇ္ဇာ၊ တဏှာ၊ ကံအစွမ်းသတ္တိသုံးပါးဖြင့် သံသရာကြောဝယ် ချားရဟတ်ကဲ့သို့ မပြတ်လည်ပတ်နေလေသည်သာ။



# အိမ်မှာ ခုနစ်ရက်မနေ

ဘဝဟောင်းမှ နောက်ဆုံး စုတိစိတ်နှင့် ဘဝသစ်မှ ပထမဆုံး ပဋိသန္ဓေစိတ်တို့
အနည်းငယ်မျှပင် ကြားကာလမရှိဘဲ တစ်ဆက်တည်းဖြစ်နေသဖြင့် ယနေ့ ဗုဒ္ဓဘာသာဝင်
တို့ ထင်မှတ်နေသော လူသေပြီး အိမ်မှာ ခုနစ်ရက်နေသည်ဟူသောအယူအဆသည်
မှားနေပါသည်။

တချို့သောအရပ်တွင် လူတစ်ယောက်သေပြီးစဉ်က အိမ်အတွင်းထရံကို ဖွင့်ပြ
သည်။ ဘာကြောင့်ဖွင့်သနည်းဆိုသော် ဝိညာဉ်ထွက်လို့ရအောင်လို့ဟု ဆိုကြသည်။
ဗုဒ္ဓဘာသာဖြစ်လျက် ဗုဒ္ဓဘာသာတရားကို မသိကြ၍ ပြုလုပ်ကြခြင်း ဖြစ်သည်။
ဥစ္စာစွဲ၊ သားသမီးသံယောဇဉ်စွဲဖြင့် သေဆုံးကြသောသူတို့သည် မည်မျှပင်
ကုသိုလ်တွေပြုထားစေကာမူ သေခါနီးအာရုံ (အာသန္နကံဇော) က ထိုအစွဲကိုစွဲပြီး

ဘဝကူးပြောင်းသွားလျှင် မုချဆတ်ဆတ် မကျွတ်မလွတ်သော ပြိတ္တာဘဝသို့ ရောက်ကြရသည်။ ထိုပြိတ္တာသည် ထိုအစွဲဖြင့် အိမ်ပတ်ဝန်းကျင်တွင် လာရောက်နေသည်။ ခြောက်သည်၊ အနှံ့ပေးသည်၊ သတိပေးသည်။

ထိုပုဂ္ဂိုလ်ကို ပရဒတ္တူပပြိတ္တာဟုခေါ်ပြီး ကုသိုလ်အဖို့ အမျှပေးဝေလျှင် အမျှရပြီး၍ ပြိတ္တာဘဝမှ ကျွတ်လွတ်ပြီး အဆင့်မြင့်သောနတ်ဘဝသို့ ပြောင်းသွားနိုင်ပါသည်။

## အချိန်မသိ သေနည်းတတ်ကြစေ

မြတ်စွာဘုရားသည် လူသားတို့အပါအဝင် သတ္တဝါတို့၏သေခြင်းတရားနှင့် ပတ်သက်၍ ကြိုတင်မသိနိုင်သောအချက် (၅)ချက်ကို ဟောကြားခဲ့ပါသည်။

၁။ မည်သည့်အသက်အရွယ်တွင် သေရမည်ကို မည်သူမျှ ကြိုတင်မသိနိုင်ပါ။

၂။ မည်သည့်ရောဂါ၊ မည်သည့်အန္တရာယ်နှင့် သေရမည်ကို မည်သူမျှ မသိနိုင်ပါ။

၃။ မည်သည့်နေ့ရက်၊ မည်သည့်အချိန်အခါတွင် သေရမည်ကို မည်သူမျှ မသိနိုင်ပါ။

၄။ မည်သည့်နေရာဌာန၌ သေရမည်ကို မည်သူမျှ မသိနိုင်ပါ။

၅။ သေပြီးသည့် အခြားမဲ့၌ မည်သည့်ဘုံဘဝသို့ ရောက်မည်ကို ဘုရားရဟန္တာမှလွဲ၍ မည်သူမျှ မသိနိုင်ပါ။

(၃၁) ဘုံကျင်လည်ကုန်သောသတ္တဝါဟူသမျှ တစ်နေ့နေ့ တစ်ချိန်ချိန်တွင် ဧကန်မုချ သေရပေမည်။ ထိုအခါ အကျိုးရှိစွာ သေတတ်ဖို့လိုသည်။ သိက္ခာရှိရှိဖြင့် သေခြင်း၊ တရားကို ရင်ဆိုင်တတ်ဖို့ အရေးကြီးသည်။ ယင်းကို ဘုရားရှင်က အောက်ပါအတိုင်း ဟောဖော်လမ်းညွှန် ပြထားပါသည်။

၁။ သေခါနီးအချိန်၌ ဘုရားရှင်အနေဖြင့် ဝေဒနာနှင့်ငါ မရောသောတရားကို ဟောခဲ့ပြီးဖြစ်၍ ကြားနာရပြီး ဝေဒနာ ငါ မရောဘဲ မိမိ၏ခန္ဓာ၏အဖြစ်အပျက် ဒုက္ခ



ငရဲ၏ ဒုက္ခမျိုးစုံအား ဘုရားလောင်းတေမိမင်းကြီး မျက်ဝါးထင်ထင်မြင်ရပုံ

သစ္စာတရားကို ဉာဏ်တည်းဟူသော မဂ္ဂသစ္စာတရားနှင့် ရှုမှတ်ပွားများ အားထုတ်နေလျှင် အဖြစ်အပျက် ဒုက္ခသစ္စာ၏ချုပ်ရာကို သိမြင်ပြီး သောတာပန်မှ ရဟန္တာပုဂ္ဂိုလ်ထိ ဖြစ်နိုင်သည်။

၂။ သေခါနီးအချိန်၌ ဘုရားရှင်၏တပည့်သား သာဝကဖြစ်သော ဆရာကောင်းများအနေဖြင့် ဝေဒနာဖြင့် ငါ မရောသည့်တရားမျိုးကို ဟောကြားခဲ့ပြီးဖြစ်၍ ကြားနာရပြီး ဝေဒနာနှင့်ငါ မရောဘဲ မိမိခန္ဓာအဖြစ်အပျက် ဒုက္ခသစ္စာတရားကို ဉာဏ်အမြင်တည်းဟူသော မဂ္ဂသစ္စာနှင့် ရှုမှတ်ပွားများ အားထုတ်နေလျှင် အဖြစ်အပျက် ဒုက္ခသစ္စာချုပ်ရာကို သိမြင်နိုင်ပြီး သောတာပန်မှ ရဟန္တာပုဂ္ဂိုလ်အဆင့်ထိ ဖြစ်နိုင်သည်။

၃။ သေခါနီးအချိန်၌ ဘုရားနှင့်လည်း မတွေ့ကြုံဘူး။ ဘုရားရှင်၏တပည့်သားသာဝကနှင့် မတွေ့ကြုံသော်လည်း ဝေဒနာနှင့်ငါ မရောသည့်တရားမျိုးကို သေခါနီးအချိန်မဟုတ်ဘဲ သေခြင်းတရားမဦးမီ ရှေ့အဖို့ အချိန်ရှိခိုက် ဘုရားထံမှဖြစ်စေ၊ ဘုရားရှင်၏တပည့်သာဝကထံမှဖြစ်စေ၊ မိမိကိုယ်တိုင် ကြားနာရပြီး သေခါနီးအချိန်၌ ထိုကြားနာရသော တရားအတိုင်း ဝေဒနာနှင့်ငါ မရောဘဲ မိမိခန္ဓာ အဖြစ်အပျက်ဒုက္ခသစ္စာတရားကို အသိဉာဏ်တည်းဟူသော မဂ္ဂသစ္စာနှင့် ရှုမှတ်ပွားများ အားထုတ်နေလျှင် အဖြစ်အပျက်ဒုက္ခသစ္စာ၏ချုပ်ရာကို သိမြင်ပြီး သောတာပန်အဖြစ်မှ ရဟန္တာပုဂ္ဂိုလ်အဆင့်ထိ ဖြစ်နိုင်သည်။

ယခုအခါ ဘုရားရှင်လည်း ပရိနိဗ္ဗာန်စံဝင်ပြီး ဖြစ်ပါသည်။ ဘုရားရှင်၏သာဝကတပည့်များသည် ရှိ၏။ ထိုသို့ရှိခိုက် မသေမီအချိန်ကာလအတောအတွင်း ဘုရားရှင်၏တရားများကို အမြဲနည်းနာယူပြီး အမြဲမပြတ် နှလုံးသွင်းကာ ပြုသင့်ပြုထိုက်သော ဒါန၊ သီလ၊ ဘာဝနာတရားတို့ကို ကြိုးစားအားထုတ်ရပါမည်။ သို့မှသာလျှင် ဘဝကူးကောင်းပေမည်။



# ပြိတ္တာတို့ဘုံ အမည်စုံ

**ပြိတ္တာဟူသည်…**

ပြိတ္တာဟူသည် ငရဲ၊ တိရစ္ဆာန်၊ ပြိတ္တာ၊ အသူရကာယ်ဟူသော အပါယ်လေးဘုံတွင် ပါဝင်သော လူ့ပြည်လောကတွင်းမှာပင် တောချုံပိတ်ပေါင်း၊ လိုဏ်ခေါင်း၊ တောင်စောင်း စသည်တို့တွင် မှီ၍ ဆင်းရဲထူပြောစွာနေရသော သတ္တဝါတစ်မျိုး ဖြစ်သည်။

**ပြိတ္တာဖြစ်ရခြင်းအကြောင်းရင်း**

လူ့လောက၊ လူ့ပြည်၌ အကြင်သူတို့သည်

- ဥစ္စာစွဲ၊ သားမယားစွဲတို့ဖြင့် သေလွန်ကုန်၏။
- ငြူစူခြင်း၊ ဝန်တိုခြင်း များကုန်၏။
- မိမိကိုယ်တိုင်လည်း ပေးကမ်းလှူဒါန်းခြင်းမရှိ။
- သူတစ်ပါးတို့ ပေးကမ်းလှူဒါန်းသည်ကို တားမြစ်၍ အန္တရာယ်ပြုတတ်ကုန်၏။

ထိုသူတို့သည် ပြိတ္တာဘုံ၌ဖြစ်ရသည်ဟု ဆိုပါသည်။

**ပြိတ္တာတို့ဘဝ**

ပြိတ္တာတို့ဘဝသည်

- အမြဲမပြတ် ထမင်း၊ ရေ ငတ်ပြတ်နေကြရသည်။

- အနှစ်တစ်ရာ၊ တစ်ထောင်၊ တစ်သောင်း၊ တစ်သိန်းပတ်လုံးလည်းကောင်း၊ ဘုရားတစ်ဆူနှင့်တစ်ဆူကြားကာလပတ်လုံးလည်းကောင်း ထမင်းတစ်လုတ်မျှ မစားရ၊ ရေတစ်ပေါက်မျှ မသောက်ရ၊ ကြီးစွာသောဒုက္ခကို ခံစားကြရသည်။

- ခန္ဓာကိုယ်သည် အသားအသွေးမရှိ၊ အရေမျှသာ ရှိသည်။

- အလွန် မလှမပသောအဆင်း ရှိသည်။

- ကြောက်မက်ဖွယ် စက်ဆုပ်ဖွယ်သောအဆင်း ရှိသည်။

**ပြိတ္တာတို့ဘုံ**

ပြိတ္တာတို့၏ဘုံသည် ငရဲရှစ်ထပ်တို့အထက် လူ့ပတ်ဝန်းကျင်၌သာ တည်ရှိပါသည်။

ယင်းနေရာဘုံသည် တော၊ တောင်၊ ချောင်း၊ မြစ်၊ သုသာန်၊ သစ်ပင်၊ လိုဏ်ဂူ အစရှိသောအရပ်များ ဖြစ်ကြသည်။

**ပြိတ္တာအမျိုးအစားများ**

၁။ စန္တတပြိတ္တာ - သူတစ်ပါးစွန့်ထားတဲ့ တံတွေး၊ နှပ်၊ အန်ဖတ် စားရသော ပြိတ္တာမျိုး။

၂။ ကုဏပါသပြိတ္တာ - မြွေ၊ ခွေး၊ လူသေ စသောအကောင်ပုပ်များ စားရသော ပြိတ္တာမျိုး။

၃။ ဂူထခါဒကပြိတ္တာ - လူ့မစင် စားရသော ပြိတ္တာမျိုး။

၄။ အဂ္ဂိဇာလမုခပြိတ္တာ- အစားမစားရဘဲ ပါးစပ်မှ မီးလျှံထွက်နေသော ပြိတ္တာမျိုး။

၅။ သုစိမုခ ပြိတ္တာ - ခန္ဓာကိုယ်ကြီးပြီး ပါးစပ်က အပ်နဖားပေါက်မျှရှိကာ အစားအစာများကို ပါးစပ်က မသွင်းနိုင်။ နားပေါက်၊ နှာခေါင်းပေါက်က သွင်းရသော ပြိတ္တာမျိုး။

၆။ တဏှာဋ္ဌိကပြိတ္တာ - ရေမသောက်ရသော ပြိတ္တာမျိုး။ ရေတွေ့သော်လည်း ရေများမရှိတော့ဘဲ ရေများက သွေး၊ ပြည်၊ ကျင်ကြီးတွေဖြစ်သွားရသည့် ပြိတ္တာမျိုး။

၇။ သုနိဇ္ဈမက ပြိတ္တာ- မီးလောင်ထားသော သစ်ငုတ်နှင့်တူပြီး ကြုံလှီပိန်ကပ်ပြီး အရိုးပြိုင်းပြိုင်း ဖြစ်နေသည်။ အဝတ်မရှိ၊ ကိုယ်တုံးလုံးရှိ၊ အနံ့အသက်အလွန်ဆိုး၊ လက်ခြေခွင်နေပြီး မျက်လုံးများ အပြင်ဘက်ပြူးထွက်နေသည်။ ထမင်းဆာ၊ ရေငတ်ဒဏ် အပြင်းအထန်ခံရသော ပြိတ္တာမျိုး။

၈။ **သတ္တင်္ဂပြိတ္တာ** - လက်သည်း၊ ခြေသည်းတွေက ဓားလှံလိုထက်နေပြီး ကိုယ့်သွေးကိုယ့်အသားကို ဖွဲ့စားနေရသော ပြိတ္တာမျိုး။

၉။ ပဗ္ဗတင်္ဂပြိတ္တာ - ကိုယ်ခန္ဓာ တောင်လောက်ရှိပြီး မျက်နှာဇီးကွက် မျက်နှာရှိပြီး ကိုယ်ခန္ဓာမှ အမြဲအခိုးအလျှံထွက်ပြီး တစ်ကိုယ်လုံး မီးလောင်ကျွမ်းခံနေရသည့် ပြိတ္တာမျိုး။

၁၀။ အဇဂရပြိတ္တာ - စပါးကြီးမြွေနဲ့တူသော ကိုယ်ခန္ဓာရှိပြီး ညဉ့်အခါ တပြောင်ပြောင် တောက်လောင်နေသော ကိုယ်ခန္ဓာနှင့် သွားလာလှည့်ပတ်နေသည်။ နေ့အခါ ဆင်းရဲအမျိုးမျိုး ခံစားနေရသောပြိတ္တာမျိုး။

၁၁။ ခုပ္ပိပါသိက ပြိတ္တာ- ထမင်းငတ်၊ ရေငတ် အမြဲခံနေရသော ပြိတ္တာမျိုး။

၁၂။ နိဇ္ဈာမတဏှိကပြိတ္တာ- ပါးစပ်မှ မီးလျှံတပြောင်ပြောင် ထွက်နေပြီး ရေငတ်၊ ထမင်းဆာ ဒုက္ခအမြဲခံနေရသော ပြိတ္တာမျိုး။



ဘုရားရှင်မှ ပြိတ္တာတို့၏ ဆင်းရဲဒုက္ခအား လူတို့မြင်စေရန် တန်ခိုးနှင့်ပြနေပုံ

၁၃။ ပရဒတ္တူပ ပြိတ္တာ - မိမိအစွမ်းအစနှင့် ဘာမျှမစားရ၊ လူ့ပြည်က ဆွေမျိုးတွေက ကုသိုလ်ပေး အမျှအတန်းဝေမှ စားရသောက်ရ အသက်ရှင်ရသည်။

၁၄။ ကာလကဉ္စိကပြိတ္တာ- ကိုယ်ခန္ဓာသုံးဝါဂုတ်ရှိ အသားအသွေးနည်း၊ သစ်ရွက်ခြောက်လို အရိုးကျဲ၊ အပ်နဖားပေါက်မျှ ပါးစပ်ရှိ၊ စားသောက်သောအခါ ဇောက်ထိုးမိုးမျှော်ပြုပြီးမှ စားသောက်ရသည်။

၁၅။ ဝေမာနိက ပြိတ္တာ - နေ့ခံ ညစံ ပြိတ္တာမျိုး။ နေ့အခါ ငရဲထိန်းအလုပ်လုပ်ရပြီး ငရဲခွေး ကိုက်ခံရသည်။ ဓားလှံလှီးဖြတ်တာခံရ၏။ ညအခါ နတ်ကဲ့သို့ စည်းစိမ်ခံစားရသည်။

၁၆။ မဟိဒ္ဓိက ပြိတ္တာ - ဝေမာနိက ပြိတ္တာမျိုး ဖြစ်သည်။ ငရဲပြည်မှာ ယမမင်း သွားလုပ်ရသည်။ အဆင်းလှသည်။ စည်းစိမ်ကြီးသည်။ စားသောက်ချင်တိုင်း မစားရ။ တစ်ခါတစ်ရံမှ စားသောက်ရသည်။ တောင့်တမှု အာသာဆန္ဒပြင်းစွာ ခံရသောပြိတ္တာမျိုး။

**ပြိတ္တာအမျိုးမျိုး၏သဏ္ဌာန်**

၁။ သုစိလောမ ပြိတ္တာ - အပ်သွားလို အမွေးရှိသည်။

၂။ ခရလောမ ပြိတ္တာ - မိကျောင်းရေလို အရေရှိသည်။

၃။ ဒီဃနာ ပြိတ္တာ - လက်သည်း၊ ခြေသည်းရှည်သည်။

၄။ ဧကပါဒ ပြိတ္တာ - ခြေတစ်ချောင်း ရှိသည်။

၅။ ဧကနေတ္တ ပြိတ္တာ - မျက်စိတစ်လုံးတည်း ရှိသည်။

၆။ အနေကနေတ္တပြိတ္တာ - မျက်စိများစွာ ရှိသည်။



## ဘုရားရှင်၏ပြိတ္တာနှင့်ပတ်သက်သောတရား

ဗုဒ္ဓဘုရားရှင်သည် ယင်းပြိတ္တာအလျှုနှင့်ပတ်သက်၍ အနုမောဒနာတရားများကို အောက်ပါအတိုင်း ဟောကြားတော်မူသည်။

၁။ မင်းကြီး-ပြိတ္တာတို့သည် မိမိတို့အိမ်သို့လာကြ၍ နံရံ၏အပြင်ဘက်တို့၌လည်းကောင်း၊ လမ်းဆုံလမ်းလေးခွ၊ အိမ်ခြံစပ်တို့၌လည်းကောင်း၊ တံခါးပေါင်တို့၌လည်းကောင်း ရပ်တည်နေကြကုန်၏။

၂။ များစွာသော ထမင်းအဖျော်ခဲဘွယ်၊ ဘောဇဉ်တို့ကို လှူဒါန်းရန်အတွက် ပြုလုပ်စီစဉ်ကြသော်လည်း ယင်းပြိတ္တာတို့၏ကံအကြောင်းကြောင့် ယင်းပြိတ္တာတို့ကို တစ်ဦးတစ်ယောက်မျှ သတိမရ အမှတ်မရကြပေ။

၃။ သနားတတ်သောသူတို့သည် ဆွေမျိုးပြိတ္တာတို့ ကပ်ရောက်လာကြသောအခါ (သပ္ပုရိသဒါနမျိုး၌ ပါဝင်သောလှူနည်းအတိုင်း) စင်ကြယ်သော မွန်မြတ်သောအခါ ကာလအားလျော်စွာ လျောက်ပတ်သော အလှူခံရမည်။ သံဃာတော်များနှင့်အပ်စပ်သော အဖျော်ဘောဇဉ်တို့ကို "ဤအလှူဒါနသည် ဆွေမျိုးဖြစ်သော သင်ပြိတ္တာတို့အား ဖြစ်စေသတည်း။ ဆွေမျိုးပြိတ္တာတို့သည် ချမ်းသာကြစေကုန်သတည်း" ဟု ရည်သန်၍ ပေးလှူကြကုန်၏။

၄။ ယင်းသို့ ပေးလှူကြကုန်သည်ရှိသော် ဆွေမျိုးဖြစ်သော ပြိတ္တာတို့သည် ထိုအရပ်သို့ စုရုံးလျက် လာရောက်ကြကုန်ပြီးလျှင် များစွာသော ထမင်းအဖျော်အလှူဒါန၌ လေးစားရိုသေစွာ ဝမ်းမြောက်ဝမ်းသာဖြစ်ကြကုန်ပြီး အလေးအနက် သာဓုခေါ်ကြကုန်၏။

၅။ ယင်းကဲ့သို့ ဆွေမျိုးတို့က ပေးလှူခြင်းကြောင့် စည်းစိမ်ချမ်းသာကို ငါတို့ အကျိုးငှာလည်း ပူဇော်ကြကုန်၏။ ပေးလှူသူဆွေမျိုးတို့လည်း အကျိုးကြီးမြတ်ကုန်၏။ ငါတို့၏ဆွေမျိုးတို့သည် အသက်ရှည်ကြပါစေကုန်သတည်းဟု ပြိတ္တာတို့က ပြန်လည် ဆုတောင်းပတ္တနာ ပြုကြကုန်၏။

၆။ ထိုပြိတ္တာတို့ဘုံ၌-

- လယ်လုပ်ခြင်းလည်း မရှိ၊
- နွားကျောင်းခြင်းလည်း မရှိ၊
- ပစ္စည်းဥစ္စာရကြောင်းဖြစ်သော ကုန်သွယ်မှုလည်း မရှိ၊
- ရွှေ၊ ငွေဖြင့် ရောင်းဝယ်မှုလည်း မရှိ၊

သို့ဖြစ်၍ တမလွန်ဘဝသို့ ပြောင်းသွားရောက်ရှိကြကုန်သော ပြိတ္တာတို့သည် လူ့ဘုံမှ ဆွေမျိုးကို ပေးအပ်သော ကုသိုလ်အဖို့ဘာဂ (အမျှပေးဝေမှု)ဖြင့်သာလျှင် ထိုပြိတ္တာဘုံ၌ မျှတကြကုန်၏။

၇။ ကုန်းမြင့်ရာအရပ်၌ ရွာသောမိုးရေသည် ချိုင့်ဝှမ်းရာအရပ်သို့ စီးဆင်းသွားသကဲ့သို့ ဤလူ့ဘုံမှ ပေးဝေအပ်သော ကုသိုလ်အဖို့ဘာဂ အမျှပေးဝေမှုသည် ပြိတ္တာတို့ထံ ကပ်ရောက်၏။

၈။ မြစ်ရေ၊ ချောင်းရေတို့သည် သမုဒ္ဒရာကို ပြည့်ပြင်စေကုန်သကဲ့သို့ ဤလူ့ဘုံမှ ပေးဝေအပ်သော ကုသိုလ်အဖို့ဘာဂ (အမျှဝေမှု)သည် ပြိတ္တာတို့ထံ ကပ်ရောက်၍ ပြည့်စုံစေ၏။

၉။ ရှေးအခါက ဤသူကား ငါတို့အား ပစ္စည်းဥစ္စာပေးဖူးပြီး ငါ၏ဥစ္စာကို ပြုဖူးပြီးဟူ၍ သူ့ကျေးဇူးကိုလည်းကောင်း၊ ဤသူကား ငါ၏ဆွေမျိုးတည်း၊ ငါ၏မိတ်ဆွေတည်း၊ ငါ၏ခင်ပွန်းတည်းဟူ၍လည်းကောင်း ရှည်ကြာလှစွာသော ကာလပတ်လုံး အောက်မေ့သတိရသော အလှူဒါနကို ပေးလှူရာ၏။

၁၀။ ငိုကြွေးခြင်း-

စိုးရိမ်သောကဖြစ်ခြင်း

ပြောဆိုမြည်တမ်းခြင်းတို့သည် ပြိတ္တာတို့အကျိုးငှာ မဟုတ်တုံ။ (ပြိတ္တာတို့အတွက် အကျိုးမရှိကုန်) သို့သော် ဆွေမျိုးတို့သည်ကား ငိုကြွေးနေကြကုန်၏။

၁၁။ တမလွန်ဘဝသို့ ပြောင်းသွားသူကို ရည်စူးကာ သံဃာ၌ ကောင်းစွာတည်၍ သံဃိကဒါနအဖြစ် ပေးလှူသော ဤအလှူဒါနသည်သာလျှင် ပြိတ္တာတို့၌ ရှည်ကြာလှစွာသောကာလပတ်လုံး စီးပွားချမ်းသာအကျိုးငှာ တစ်ခဏချင်း ကပ်ရောက်နိုင်သည်။

၁၂။ တမလွန်ဘဝသို့ ပြောင်းသွားသူကို ရည်စူး၍ ပေးလှူခြင်း (ပေတဒါန)ကို ဆွေမျိုးတို့ပြုရသော တာဝန်တစ်ရပ်ဟူ၍ ငါဘုရား ညွှန်ပြအပ်၏။ ထိုသို့ ပေးလှူခြင်းဖြင့် ပြိတ္တာတို့အား မြတ်သောပူဇော်ခြင်းကို ပြုအပ်သည်လည်းမည်၏။ ရဟန်းတော်တို့အား ခွန်အားပေးအပ်သည်လည်း မည်၏။ ထို့ကြောင့် သင်တို့သည် ကြီးကျယ်သော ကုသိုလ်ကို ပွားများဆည်းပူးအပ်၏။

ဤဖြစ်ပျက်စဉ်တွင်-

၁။ ဗိမ္ဗိသာရမင်းကြီးသည် အတိတ်ဘဝက ဆွေမျိုးပြိတ္တာများကို သေသေချာချာ ရည်စူး၍ လှူဒါန်းခြင်း။

၂။ ပြိတ္တာများအနေဖြင့် သာဓုခေါ်နိုင်ရန် အသင့်ရှိနေခြင်း။

၃။ လှူဖွယ်ဝတ္ထုကလည်း အကပ္ပိယအနာမာသ မဟုတ်ဘဲ ဆွမ်းသင်္ကန်းဖြစ်ခြင်း။

၄။ အလှူခံပုဂ္ဂိုလ်ကလည်း ဘုရားအမှူးရှိသော အရိယာသံဃာဖြစ်ခြင်း။
ဤအင်္ဂါလေးပါးနှင့် ညီညွတ်ပြည့်စုံနေသောကြောင့်-
(က) ခုဒ္ဒကပါဠ-တိရောကုဋ္ဋသုတ်
(ခ) ပေတဝတ္ထု-တိရောကုဋ္ဋပေတဝတ္ထု
ပြိတ္တာများအနေဖြင့် ဗိမ္ဗိသာရမင်းကြီး၏ ကုသိုလ်အဖို့ဘာဂကို သာခုခေါ်နိုင်၍ ကောင်းကျိုးချမ်းသာ ချက်ချင်းရရှိခံစားသွားနိုင်ခြင်း ဖြစ်ပါသည်။

**အလှူခံပုဂ္ဂိုလ်နှင့်အလှူဝတ္ထုပစ္စည်း**

ပေတဒါန အင်္ဂါလေးပါးကိုကြည့်လျှင် အလှူခံပုဂ္ဂိုလ်နှင့်အလှူဝတ္ထုသည် အရေးကြီးသောကဏ္ဍမှ ပါဝင်နေပါသည်။ အလှူပေးပုဂ္ဂိုလ်၌ သီလရှိမှုထက် အလှူခံပုဂ္ဂိုလ်၌ သီလရှိမှုက ပို၍ ပဓာနကျနေပါသည်။

အလှူခံပုဂ္ဂိုလ်မှာ သီလမရှိသော ဒုဿီလရဟန်း ဖြစ်နေလျှင်လည်း ကွယ်လွန်သူအနေဖြင့် ယင်းကုသိုလ်၏အဖို့ဘာဂအမျှကို သာခုမခေါ်နိုင်ပေ။ သာခုမခေါ်နိုင်သဖြင့် ယင်းကုသိုလ်အတွက် ကောင်းကျိုးသုခ မရရှိနိုင်ပေ။

ထို့အတူ လှူဖွယ်ဝတ္ထုမှာ ရဟန်းသံဃာတော်များနှင့် မအပ်စပ်သော အကပ္ပိယ အနာမာသ ငွေကြေးဖြစ်နေလျှင်လည်း ကွယ်လွန်သူအနေဖြင့် ယင်းကုသိုလ်၏အဖို့ဘာဂ ကောင်းကျိုးသုခ မရရှိနိုင်ပေ။

ထို့ကြောင့် ပေတဒါန ပေးလှူကြရာဝယ် ကွယ်လွန်သူပြိတ္တာအနေနှင့် ကောင်းကျိုးသုခ မုချရရှိနိုင်စေရန် ဒုဿီလ အလှူခံပုဂ္ဂိုလ်နှင့် အနာမာသ ငွေကြေးကို မလှူဒါန်းမိအောင် သတိနှင့်ရှောင်ကြဉ်ရပေမည်။

## ဒုဿီလ ဆွမ်းသွတ်မှားသူ

ဝပုမာနရွာ၌ မုဆိုးတစ်ယောက်သည် သေလွန်ပြီး ပြိတ္တာဖြစ်နေသော မိမိ၏ဆွေမျိုးကို ရည်စူးကာ သီလမရှိသော ဒုဿီလရဟန်းကို ပင့်ဖိတ်၍ ဆွမ်းသင်္ကန်း စသည်ကို လှူဒါန်းပြီး အမျှပေးဝေခဲ့လေသည်။

သို့သော်လည်း ဆွေမျိုးပြိတ္တာအနေဖြင့် ယင်းအမျှပေးဝေမှုကို သာဓုမခေါ်နိုင်ရှာပေ။ သုံးကြိမ်မြောက်ပေးလှူ၍ အမျှပေးဝေသောအခါ၌ကား ဆွေမျိုးပြိတ္တာက-

"ငါ၏အဖို့ဘာဂဖြစ်သောပစ္စည်းကို လူမဟုတ်သော ရဟန်းဒုဿီလကြီးက လုယက်ယူဆောင်သွားသည်"ဟု ဟစ်အော်မြည်တမ်းခဲ့လေသည်။

သို့အတွက် နောက်တစ်ကြိမ် သီလနှင့်ပြည့်စုံသော သီလဝန္တ ရဟန်းတော်အား ပင့်ဖိတ်လှူဒါန်းကာ အမျှပေးဝေသောအခါကျမှ ယင်းဆွေမျိုးပြိတ္တာမှာ သာဓုခေါ်နိုင်ရှာလေသည်။ ယင်းသို့ သာဓုခေါ်နိုင်သောအခါကျမှ ထိုကုသိုလ်အဖို့ဘာဂကို ရရှိပြီး ပြိတ္တာဘဝမှလည်း လွတ်မြောက်သွားခဲ့ရလေသည်။

သို့အတွက် သေသူအတွက် ရည်စူးလှူကြရာ၌-

- လှူသူက သေသူကို သေသေချာချာ ရည်စူးပြီး လှူသည်။
- လှူဖွယ်ဝတ္ထုကလည်း ရဟန်းနှင့်အပ်စပ်သော ဆွမ်းသင်္ကန်း စသည်ဖြစ်ရသည်။
- အလှူခံပုဂ္ဂိုလ်ကလည်း သီလဝန္တ သီလရှိခြင်း
- အမွေခံထိုက်ခြင်း
- အလှူပြု၍ အမျှအတန်းပေးဝေခြင်းဟူ၍ ဖော်ပြထားရာ မိဘများ၏ အထက်ဖော်ပြပါမျှော်လင့်ချက်ငါးပါး နောက်ဆုံးအချက်ကို သားသမီးတို့သည် သားသမီးကျင့်ဝတ်အရ အစဉ်အလာမပျက် ဆောင်ရွက်ကြရပေမည်။

အမှန်အားဖြင့် ယင်းတာဝန်သည် မိဘများအတွက်သာ မဟုတ်ပေ။ ကွယ်လွန်သူသားချင်းဆွေမျိုးများနှင့် မိတ်ဆွေသင်္ဂဟများအတွက်လည်း အမျှပေးဝေရန်မှာ ကျန်ရစ်သူတို့တာဝန် ဖြစ်ပေသည်။

သို့သော် ဘာမျှမလှူဒါန်းဘဲ အမျှပေးဝေရုံမျှဖြင့် ကွယ်လွန်သူ၌ ကောင်းကျိုး

ချမ်းသာ မရနိုင်ပေ။ ကွယ်လွန်သူအကျိုးရှိအောင် ပေတဒါန အင်္ဂါလေးပါးနှင့်အညီ စီစဉ်ပြုလုပ်လှူဒါန်းပြီး အမျှဝေမှသာလျှင် ကောင်းကျိုးချမ်းသာ ရနိုင်ပေသည်။

ယင်းသို့ ဝေသောအခါ၌လည်း ကွယ်လွန်သူ၏အမည်ကိုခေါ်ကာ အမျှပေးဝေရန် လိုအပ်ပါသည်။

## သံဃိကဖြစ်အောင် ဆွမ်းသွတ်နည်း

ကွယ်လွန်သူ မုချဆတ်ဆတ် ကုသိုလ်အဖို့ဘာဂရပြီး သာဓုခေါ်နိုင် ချမ်းသာသုခ ရနိုင်ရန် ဆွမ်းသွတ်နည်းမှာ သံဃိတဆွမ်းသွတ်နည်း ဖြစ်ပါသည်။ ဆွမ်းသွတ်ရာ၌ အလှူခံပုဂ္ဂိုလ် သီလရှိမရှိ စိစစ်မရွေးချယ်တတ်လျှင်သော်လည်းကောင်း၊ အကြောင်း အမျိုးမျိုးကြောင့် မစိစစ်နိုင်လျှင်သော်လည်းကောင်း သံဃိကဒါနအဖြစ် ဆွမ်းသွတ် လှူဒါန်းခြင်းသည် အကောင်းဆုံးဖြစ်ပြီး ကွယ်လွန်သူလည်း မုချဆတ်ဆတ် ကုသိုလ်အဖို့ ဘာဂ အမျှရပြီး သာဓုခေါ်နိုင်ပါသည်။

သံဃိဒါနအဖြစ် ဆွမ်းသွတ်လှူဒါန်းရာဝယ် ရည်ညွှန်းသံဃိကဒါနဖြစ်အောင် စီစဉ်လှူဒါန်းသင့်ပါသည်။ ရည်ညွှန်းဆိုသည်မှာ ကွယ်လွန်သူ မည်သူမည်ဝါအတွက် ရည်ညွှန်းပေးလှူခြင်း ဖြစ်ပါသည်။

လှူဒါန်းနည်းမှာ လှူဒါန်းလိုသောကျောင်းမှ ဆရာတော်အား-

"ကွယ်လွန်သူ မည်သူ့အတွက် ဆွမ်းသွတ်လှူဒါန်းလိုပါသဖြင့် အရှင်ဘုရား ကျောင်းမှ သံဃာ့ကိုယ်စား သံဃာတော် (ဘယ်နှပါး) ကြွရောက်ချီးမြှင့် အလှူခံတော် မူပါဘုရား" ဟု ပင့်လျှောက်ထားပြီး ထိုဆရာတော် ညွှန်ကြားပေးသော သံဃာတော်ကို သံဃာဟူသောအမှတ်ဖြင့် ရိုသေလေးစားစွာ လှူဒါန်းရပါမည်။

မလှူဒါန်း ရေစက်မချမီ ကွယ်လွန်သူအမည်ကိုခေါ်ကာ-

"ကျွန်တော်တို့နှင့် အတူတကွ လှူဒါန်းရန် တရားနာယူရန် လာရောက်ပါ" ဟု သံဃာတော်များရှေ့မှောက်၌ ခေါ်ဆောင်နေရာ ပေးထားရပါမည်။ လှူဒါန်းပြီးနောက် ကွယ်လွန်သူ၏အမည်ကိုခေါ်ကာ အမျှပေးဝေရမည်။

**ပစ္စည်းလေးပါးစုံအောင်လှူပါ . . .**

ထိုသို့ လှူဒါန်းရာဝယ် ယခုခေတ်၌ များသောအားဖြင့် ဆွမ်းနှင့်သင်္ကန်းကိုသာ ပဓာနထား၍ လှူဒါန်းလေ့ရှိကြပါသည်။

အမှန်မှာ ဆွမ်း၊ သင်္ကန်း နှစ်မျိုးသာမဟုတ်ဘဲ ဘုရားရှင်ခွင့်ပြုထားသော ဆွမ်း၊ သင်္ကန်း၊ ကျောင်း၊ ဆေးပစ္စည်း လေးပါးစုံအောင် ပဓာနထား၍ လှူဒါန်းလျှင် ကွယ်လွန်သူအတွက် ပို၍ ပြည့်စုံသော ကောင်းကျိုးချမ်းသာကို ခံစားရသည်။

ကွယ်လွန်သူသည် အကယ်၍ ပေတဂတိသို့ရောက်ကာ ပြိတ္တာဖြစ်နေပါက ဆွမ်းကို လှူဒါန်း၍ အမျှပေးဝေလိုက်ခြင်းဖြင့် ပြိတ္တာဘဝမှနေ၍ သာဓုခေါ်လိုက်ရသော ခဏမှာပင် အစားအစာ ရရှိမည်။

သင်္ကန်းလှူပြီး အမျှပေးဝေသောခဏ၌ သာဓုခေါ်လိုက်ရသောအချိန်မှစ၍ အဝတ်တန်ဆာရမည်။

(အကယ်၍ သင်္ကန်း မတတ်နိုင်ပါက ပိတ်ပိုင်းဖြစ်စေ၊ မျက်နှာသုတ်ပဝါဖြစ်စေ ယုတ်စွအဆုံး ပဝါပင်ဖြစ်စေ လှူဒါန်းရမည်။)

ကျောင်းအလှူကို လှူဒါန်း၍ အမျှဝေသည့်ခဏ သာဓုခေါ်နိုင်သည်နှင့်တစ်ပြိုင်နက် နေထိုင်စရာ အဆောက်အအုံ ရရှိမည်။ ဘုံဗိမာန် ရရှိမည်။

(ဤ၌ ကျောင်းအလှူဒါန လူတိုင်းအတွက် မတတ်နိုင်သည်ရှိသော် လေးတိုင်စင် တဲကျောင်းပင်ဖြစ်ဖြစ် လှူဒါန်းနိုင်သည်။ သို့မဟုတ်က မိမိပတ်ဝန်းကျင်၌ ကျောင်း ဆောက်လုပ်ခြင်းရှိပါက ယင်းကျောင်းဆောက်ရာ၌ ကွယ်လွန်သူအား ရည်စူးကာ ကျောင်းအလှူငွေထည့်ဝင်လှူဒါန်းနိုင်ပါသည်။)

ထို့ကြောင့် ကွယ်လွန်သူသည် အကယ်၍ ပြိတ္တာဘဝရောက်ရှိသွားပါက ပြိတ္တာဘုံဘဝ၌ အစားအစာ၊ အဝတ်တန်ဆာ၊ နေထိုင်စရာအဆောက်အအုံ စသည့်ကောင်းကျိုးချမ်းသာများ ပြည့်စုံစွာ ရရှိနိုင်စေရေးအတွက် ဘုရားရှင်ခွင့်ပြုထားသော ပစ္စည်းလေးမျိုးကို စုံစေ့အောင် လှူဒါန်းသင့်ပါသည်။



## ရည်စူးအလှူ ကွယ်လွန်သူ မရသော်...

ပြိတ္တာတို့အတွက် ဆွေမျိုးသားချင်း စသည်တို့က အလှူဒါနပြုသမျှ ပေးဝေရာ၌ ပြိတ္တာဘုံ၌ဖြစ်ကုန်သောသူတို့သည်သာလျှင် အလှူ၏အကျိုးအတွက်ကြောင့် စည်းစိမ်ချမ်းသာကို ခံစားရပါသလော၊ ဆွေမျိုးမတော်စပ်သော အခြားသူတို့သည်လည်း ကုသိုလ်အဖို့ဘာဂကို ခံစားရပါသလောဟု မေးစရာရှိပါသည်။

ဤပြဿနာသည် ဘုရားရှင်လက်ထက်ကပင် ပေါ်ခဲ့သည်။ ဇာဏုသောဏိပုဏ္ဏား (တစ်ဦး)သည် ဤပြဿနာနှင့်ပတ်သက်၍ ဘုရားရှင်ကို မေးလျှောက်ခဲ့သည်။ ဘုရားရှင်ကိုယ်တိုင်ပင် ဖြေကြားအဖြေပေးခဲ့သောသာဓကေ ရှိပါသည်။

**ပုဏ္ဏား** - အရှင်ဂေါတမ...ကျွန်ုပ်တို့ပုဏ္ဏားမျိုးတို့မှာ ဤအလှူဒါနသည် တမလွန်ဘဝသို့ ပြောင်းသွားသော ဆွေမျိုးတော်စပ်သူတို့ စားသုံးကြပါစေဟု ရည်မှန်းပြီး အလှူပေးကာ ကုသိုလ်ကောင်းမှုပြုခဲ့ကြပါသည်။ ဤသို့သော ပေးလှူမှုအကျိုးကို ဆွေမျိုးတော်စပ်သူတို့ သ၁ ရရှိခံစားနိုင်ပါသလော။

**ဘုရားရှင်** - ပုဏ္ဏား…သင့်လျော်သောအကြောင်းရှိလတ်သော် သုံးဆောင်ခံစားရသည်။ သင့်လျော်သောအကြောင်းမရှိသော် မသုံးဆောင် မခံစားရပေ။

**ပုဏ္ဏား** - ရှင်ဂေါတမ…သင့်လျော်သောအကြောင်းဟူသည် အဘယ်နည်း။

**ဘုရားရှင်** - ပုဏ္ဏား…ဤလောက၌ အချို့သောသူသည် သူ့အသက်သတ်ခြင်းစသော ဒုစရိုက်ဆယ်ပါးတို့ကို ပြုလုပ်လေ့ရှိသည်။ သေသောအခါ ထိုပုဂ္ဂိုလ်တို့သည် ငရဲဘဝ၊ တိရစ္ဆာန်ဘဝတို့ကို ရောက်ကြရသည်။ ထိုသူတို့သည် အလှူဒါနအကျိုးကို မခံစားရပေ။ အသင်ပုဏ္ဏား… အချို့သောသူတို့သည် ဒုစရိုက်ဆယ်ပါးကို ရှောင်ကြဉ်ကြသည်။ ထိုသူတို့သည် သေလွန်သောအခါ လူ့ပြည်၊ နတ်ပြည်၊ ဗြဟ္မာ့ပြည်တို့၌ ဖြစ်ကြရသည်။ ထိုသူတို့သည်လည်း အလှူဒါနအကျိုးကို မခံစားကြရပေ။ အသင်ပုဏ္ဏား…အချို့သောသူတို့သည် ဒုစရိုက်ဆယ်ပါးတရားတို့ကို ပြုလုပ်လေ့ရှိသည်။ ထိုသူတို့သည် သေသောအခါ ပြိတ္တာဘုံသို့ ရောက်ကြရ၏။ ထိုပြိတ္တာတို့သည် လူ့ဘဝရှိ ဆွေမျိုးစသည်တို့က အလှူဒါနပြု၍ အမျှပေးဝေလျှင် ကုသိုလ်အဖို့ကို ခံစားရသည်။

**ပုဏ္ဏား** - အရှင်ဂေါတမ…ဆွေမျိုးစသည်တို့က ပေးလှူအမျှဝေသော်လည်း ထိုပြိတ္တာတို့ မကပ်ရောက်၊ မသိရှိသော် အဘယ်သူတို့ ထိုကုသိုလ်အဖို့ဘာဂကို ခံစားရပါသနည်း။

**ဘုရားရှင်** - အသင်ပုဏ္ဏား…ထိုအလှူသို့ ကပ်ရောက်ကြုံကြိုက်သော အခြားပြိတ္တာတို့သည်လည်း ခံစားနိုင်ပါသည်။

**ပုဏ္ဏား** - အရှင်ဂေါတမ…ဆွေမျိုးပြိတ္တာတို့သည်လည်း ရောက်မလာ၊ အခြားပြိတ္တာတို့လည်း ရောက်မလာသည်ရှိသော် အဘယ်သူတို့သည် ကုသိုလ်အဖို့ကို ခံစားကြရပါသနည်း။



စောမိမင်းသား ငရဲ၏ဆင်းရဲခြင်းမျိုးစုံအား မြင်ရပြီး ထိတ်လန့်၍ စကားမပြောပဲနေပုံ

**ဘုရားရှင်** - အသင်ပုဏ္ဏား…ဤမျှရှည်လျားလှသော သံသရာအစွန့်ကာလဝယ် အလှူကို ပေးလှူသူ၏ ဆွေမျိုးဉာတိကင်းဆိတ်ရာသည် မရှိသည်သာတည်း။ အနှစ်နှစ် ဘဝအသီးသီးက ဆွေမျိုးဉာတိတို့သည် ရှိသည်သာတည်း။ အသင်ပုဏ္ဏား…စင်စစ်သော်ကား ပေးလှူသော အလှူဒါယကာသည်လည်း အကျိုးမဲ့သည်မဟုတ်။ အကျိုးရှိသည်။ အကျိုးခံစားရသည်သာ ဖြစ်ပါသည်။

ဤဘုရားဟောသာဝကေအရ သေသူအတွက် အလှူဒါနသည် ပေးလှူသူ၏ စေတနာ၊ သဒ္ဓါနှင့် လှူနည်းမှန်ကန်သည်နှင့်အမျှ အကျိုးဖြစ်သည်တည်း။



## အဇာတသတ်မင်းနှင့်ကောင်းကင်ပျံပြိတ္တာ

ဤလောက၌ လူတို့သည် အပေါင်းမှားလျှင် ဒုက္ခကြုံသည်မှာ ဓမ္မတာဖြစ်သည်။ မှန်သည်။ လူသည် အပေါင်းအသင်းကြောင့် ဂုဏ်ပျက်တတ်သလို ဆရာတင်မှားခဲ့လျှင်လည်း ကြေကွဲစရာအဖြစ်များနှင့် ကြုံရသည်မှာ ဓမ္မတာ ဖြစ်သည်။

အဇာတသတ်မင်းသည် ဒေဝဒတ်တည်းဟူသော ရဟန်းမိုက်အား ဆရာတင်မှားခဲ့သဖြင့် ရာဇဝင်၌ အဖသတ်သားအဖြစ် အမည်ဆိုးနှင့် ထင်ရှားခဲ့သည်။

'နောင်တ'ဟူသည် နောင်အခါမှရတတ်ပြီး နောင်တနှင့်အတူ ပူဆွေးသောကဖြစ်ရသည်မှာလည်း ဓမ္မတာ ဖြစ်သည်။ အဇာတသတ်မင်းသည် ဖခင်ကို သတ်မိပြီးသည့်နောက်ပိုင်း ညစဉ်ညတိုင်း အိပ်မရ ဖြစ်ရသည်။

### ကိုယ်စောင့်နတ်

လူတို့၏ကိုယ်တွင် စောင့်သည့်နတ်ရှိကြောင်း ဗုဒ္ဓပိဋကတ်စာပေများက ပြဆို၏။

ကိုယ်စောင့်နတ်နှင့်စပ်လျဉ်း၍-

မည်သူမဆို မိမိမကောင်းမှုပြုသည်ကို မိမိသာလျှင် အသိဆုံးဖြစ်သည်။ မိမိ၏မကောင်းမှုအား ဒုတိယသိသူမှာ ကိုယ်စောင့်နတ် ဖြစ်သည်။

ထို့ကြောင့် မိမိ မကောင်းမှုပြုခြင်းနှင့်ပတ်သက်၍ မိမိကို လိမ်၍မရသလို ကိုယ်စောင့်နတ်အားလည်း လိမ်၍မရပေ။

လူကိုယ်တိုင်က တရားမစောင့်လျှင် ကိုယ်စောင့်နတ်လည်း တရားစောင့်မည်မဟုတ်။ ထို့ကြောင့် မိမိအား ကိုယ်စောင့်နတ် စောင့်ရှောက်သည်ကိုလိုလျှင် ကိုယ်ကိုယ်တိုင်က တရားရှိဖို့ တရားစောင့်ဖို့လိုသည်ဟု သိမှတ်ဆင်ခြင်ရမည်။

(သုတ်မဟာဝါ အဋ္ဌကထာ၊ မဟာပဒါနသုတ်အဖွင့်)

လူလူချင်း အငြင်းအခုံ၊ ခိုက်ရန်ဖြစ်ပွားရာ၌ ထိုသူအားစောင့်သည့် ကိုယ်စောင့်နတ်တို့သည်လည်း တစ်ဦးနှင့်တစ်ဦး အငြင်းအခုံ (ခိုက်ရန်) ဖြစ်ပွားကြကြောင်း ကျမ်းစာအထောက်အထားအရ သိရသည်။

(ဓမ္မပဒအဋ္ဌကထာ)

စနဥ္စယ လောကဗျမင်းနှင့် ပုဏ္ဏကနတ်စစ်သူကြီးတို့ ကြွေအန်ကစားကြ
သည်။ လူနှင့်နတ်ကစားကြခြင်း ဖြစ်သည်။
ထိုသို့ကစားရာ၌ စနဥ္စယကောရဗျမင်းကချည်း နိုင်ရလေ့ရှိ၏။
ထိုသို့ စနဥ္စယကောရဗျမင်းကချည်း နိုင်သောအခါ ပုဏ္ဏကစစ်သူကြီး
က စဉ်းစား၏။
သူချည်း ဘာကြောင့်နိုင်သနည်း။
သူ၏နည်းစနစ်ကို လေ့လာစဉ်းစားကြည့်လိုက်၏။ ထိုအခါ အဖြေပေါ်
လာ၏။ စနဥ္စယကောရဗျမင်းအား စောင့်ရှောက်နေသော ကိုယ်စောင့်
နတ်သမီးက တူညီနေသောကြောင့် ဖြစ်၏။

### ရုက္ခစိုး (သစ်ပင်စောင့်နတ်)

ရုက္ခစိုးနတ်ဆိုသည်မှာ သစ်ပင်စောင့်နတ် ဖြစ်သည်။ သစ်ပင်ကို အမှီပြု၍နေသော နတ် စသည်တို့အား ဆိုလိုသည်။

ရုက္ခစိုးနတ်တို့သည် သစ်ပင်ကိုမှီ၍ နေထိုင်ကြရာ နေထိုင်ပုံ၊ နေထိုင်နည်းသုံးမျိုး ရှိ၏။ ဗိမာန်သည်လည်း သုံးမျိုးသုံးစား ရှိ၏။

၁။ ရုက္ခဋ္ဌဗိမာန်

ရုက္ခဋ္ဌဗိမာန်ဆိုသည်မှာ သစ်ပင်၏ ပင်စည်ပင်မ၌ တည်ရှိသောဗိမာန် ဖြစ်သည်။

၂။ သာခဋ္ဌဗိမာန်

သာခဋ္ဌဗိမာန်ဆိုသည်မှာ အခက်အလက်တို့၌ တည်ရှိသောဗိမာန် ဖြစ်သည်။

၃။ မူလဋ္ဌဗိမာန်

မူလဋ္ဌဗိမာန်ဆိုသည်မှာ အမြစ်မှတည်ရှိသော ဗိမာန်ကို ဆိုလိုသည်။ ရုက္ခစိုးနတ်ခေါ် သစ်ပင်စောင့်နတ်များသည် သစ်ပင်နတ်များဖြစ်ပြီး ရှေးတုန်းအခါကသာ ရှိခဲ့သည်မဟုတ်။

ယခုကာလ၌လည်း ရုက္ခစိုးနတ်သည် ရှိနေကြသည်သာ ဖြစ်သည်။ ထို့ကြောင့် သစ်ပင်ခုတ်ရာ၌ ရဟန်းရှင်လူ မည်သူမဆို သတိနှင့်ဆင်ခြင် ခုတ်သင့်၏။ သစ်ပင်များအား နတ်ချင်တိုင် အရပ်နတ်ပြလျှင် ဒေါသကြီးသော ဆင်ခြင်တုံတရားနည်းသော ရုက္ခစိုးနတ်နှင့်တွေ့ကာ ဘေးဥပါဒ် ဖြစ်နိုင်၏။ ဒုက္ခတွေ့နိုင်၏။ အသက်ပါ သေစေနိုင်၏။

## တံခါးစောင့်နတ်၊ ခြံစောင့်နတ်

ခြံစောင့်နတ်ဆိုသည် အိမ်ခြံအိမ်ဝင်းကိုစောင့်သောနတ် ဖြစ်သည်။ ခြံဝင်းကြီးတစ်ခုလုံး၏ အဝင်အထွက်အား စောင့်သောနတ် ဖြစ်၏။

အိမ်တိုင်း၌ ခြံစောင့်နတ်၊ အိမ်ဝင်းစောင့်နတ်ရှိကြောင်း သတိပြုသင့်သည်။ ဆင်ခြင်သင့်သည်။

သတိပြုဆင်ခြင်ကာ မိမိတို့ ကုသိုလ်ပြုတိုင်း ခြံစောင့်နတ်၊ အိမ်ဝင်းစောင့်နတ်အား ကုသိုလ်အမျှ ပေးဝေသင့်၏။

ထို့ပြင် ညစဉ်ညတိုင်း ၎င်းနတ်အား မေတ္တာပို့ပေးသင့်သည်။

ထို့အတူ အိမ်စောင့်နတ်ရှိကြောင်းအားလည်း သတိပြုသင့်၏။

**နတ်များချစ်အောင် မဟာသမယသုတ် ရွတ်ဖတ်နည်း**

မဟာသမယသုတ်တော်သည် နတ်များ မြတ်စွာဘုရားရှင် နတ်များအား ဟောကြားသည့်သုတ်တော် ဖြစ်၏။ သို့ကြောင့် ထိုမဟာသမယသုတ်အား ရွတ်ဖတ်လျှင် နတ်များ၏ ချစ်ခင်ခြင်းကို ခံစားရနိုင်သည်။

အစီအစဉ်တကျ ရွတ်ဖတ်သင့်သည်။

ရွတ်ဖတ်နည်းကား-

၁။ ဩကာသဘုရားရှိခိုးကန်တော့ခြင်း

၂။ ငါးပါးသီလ သို့မဟုတ် ရှစ်ပါးသီလ စသည်ဖြင့် သင့်လျော်ရာ သီလဆောက်တည်ခြင်း

၃။ ဘုရားပင့်ခြင်း

၄။ နတ်ဗြဟ္မာများအား ဖိတ်ကြားခြင်း

၅။ မဟာသမယသုတ်တော် အမွှန်းရွတ်ဖတ်ခြင်း

၆။ မဟာသမယုတ်တော်များ ရွတ်ဖတ်ခြင်း

၇။ မဟာသမယသုတ်တော်များ ရွတ်ဖတ်အပြီးတွင် (ဖိတ်ကြားထားသည့် နတ်၊ ဗြဟ္မာများ ပြန်ပို့ရန်) နတ်ဗြဟ္မာပို့စာတမ်းဖတ်ကြားခြင်း

နတ်ပင့်၊ နတ်ဖိတ်နှင့် နတ်ပို့အား မမေ့ပါနှင့်။

မိမိအိမ်ဝင်းခြံ၌ မဟာသမယသုတ် (ခေါ်) နတ်ချစ်သုတ္တန်ဒေသနာအား မကြာခဏ ရွတ်ဖတ်ပေးခြင်း၊ ရွတ်ဖတ်သူတို့အား နတ်တို့က ချစ်ခင်မြတ်နိုးကြပေလိမ့်မည်။ စောင့်ရှောက်မစကြမည်။

ထိုသို့ စောင်မလျှင် လောကီ၊ လောကုတ္တရာအကျိုး တိုးတက်ကြီးပွားမည် ဖြစ်သည်။ ထို့အတူ လူအား အကျိုးပြုသည့်နတ်များ ရှိနေပြီ။ အန္တရာယ်ပြုသောနတ်များနှင့် ဝေးသွားမည်။

**နတ်နှင့်လူ မေတ္တာဆက်သွယ်ပါ။**

စတုမဟာရာဇ်နတ်မင်းကြီးလေးပါး၏ လက်အောက်ခံနတ်များစွာရှိသလို များပြားလှသည်။

ကောင်းကင်၌တည်သော အာကာသစိုးစနတ်၊ တောစောင့်နတ်၊ တောင်စောင့်နတ်၊ ရေစောင့်နတ်၊ နေစောင့်နတ်၊ လေနတ်၊ တိမ်နတ် နတ်အမျိုးမျိုး ရှိ၏။

**နတ်များချစ်အောင် မဟာသမယသုတ် ရွတ်ဖတ်နည်း**

မဟာသမယသုတ်တော်သည် နတ်များ မြတ်စွာဘုရားရှင် နတ်များအား ဟောကြားသည့်သုတ်တော် ဖြစ်၏။ သို့ကြောင့် ထိုမဟာသမယသုတ်အား ရွတ်ဖတ်လျှင် နတ်များ၏ ချစ်ခင်ခြင်းကို ခံစားရနိုင်သည်။

အစီအစဉ်တကျ ရွတ်ဖတ်သင့်သည်။

ရွတ်ဖတ်နည်းကား-

၁။ ဩကာသဘုရားရှိခိုးကန်တော့ခြင်း

၂။ ငါးပါးသီလ သို့မဟုတ် ရှစ်ပါးသီလ စသည်ဖြင့် သင့်လျော်ရာ သီလဆောက်တည်ခြင်း

၃။ ဘုရားပင့်ခြင်း

၄။ နတ်ဗြဟ္မာများအား ဖိတ်ကြားခြင်း

၅။ မဟာသမယသုတ်တော် အမွှန်းရွတ်ဖတ်ခြင်း

၆။ မဟာသမယသုတ်တော်များ ရွတ်ဖတ်ခြင်း

၇။ မဟာသမယသုတ်တော်များ ရွတ်ဖတ်အပြီးတွင် (ဖိတ်ကြားထားသည့် နတ်၊ ဗြဟ္မာများ ပြန်ပို့ရန်) နတ်ဗြဟ္မာပို့စာတမ်းဖတ်ကြားခြင်း

နတ်ပင့်၊ နတ်ဖိတ်နှင့် နတ်ပို့အား မမေ့ပါနှင့်။

နတ်ပင့်၊ နတ်ဖိတ်နှင့် နတ်ပို့အား မမေ့ပါနှင့်။ မိမိအိမ်ဝင်းခြံ၌ မဟာသမယသုတ် (ခေါ်) နတ်ချစ်သုတ္တန်ဒေသနာအား မကြာခဏ ရွတ်ဖတ်ပေးခြင်း၊ ရွတ်ဖတ်သူတို့အား နတ်တို့က ချစ်ခင်မြတ်နိုးကြပေလိမ့်မည်။ စောင့်ရှောက်မစကြမည်။

ထိုသို့ စောင်မလျှင် လောကီ၊ လောကုတ္တရာအကျိုး တိုးတက်ကြီးပွားမည် ဖြစ်သည်။ အန္တရာယ်ပြုသောနတ်များနှင့် ဝေးသွားမည်။

**နတ်နှင့်လူ မေတ္တာဆက်သွယ်ပါ။**

စတုမဟာရာဇ်နတ်မင်းကြီးလေးပါး၏ လက်အောက်ခံနတ်များစွာရှိသလို များပြားလှသည်။

ကောင်းကင်၌တည်သော အာကာသစိုးစနတ်၊ တောစောင့်နတ်၊ တောင်စောင့်နတ်၊ ရေစောင့်နတ်၊ နေစောင့်နတ်၊ လေနတ်၊ တိမ်နတ် နတ်အမျိုးမျိုး ရှိ၏။

ထိုနတ်အားလုံးသည် စတုမဟာရာဇ်အနွယ်ဝင်နတ်များ ဖြစ်၏။

တောတောင်၌ နေထိုင်လေ့ရှိသူက တောစောင့်နတ်၊ တောင်စောင့်နတ်ကို မေတ္တာပို့ရမည်။ ချစ်ခင်အောင်လုပ်ရမည်။

ရေကြောင်းခရီး၊ လေကြောင်းခရီးသွားလျှင် လေ၊ ရေနှင့်ဆိုင်သော နတ်ကို ချစ်ခင်အောင် ဆောင်ရွက်ရမည်။

ကောင်းကင်ခရီးသွားလျှင် အာကာစိုးနတ် (ကောင်းကင်၌တည်သောနတ်) အား သတိရစေရမည်။ သတိရရန် လိုသည်။

ထို့အပြင် ရေလမ်းခရီးသွားလျှင်လည်း နတ်တို့အား မေတ္တာပို့ပါ။ အမျှဝေပါ၊ သာဓုခေါ်ပါ။

ဤသို့ပြုလျှင် ကောင်းသောတုန့်ပြန်မှု မုချရမည်ဖြစ်သည်။

**တာဝတိံသာနတ်ဘုံ**

တာဝတိံသာဟူသည့်စကားသည် 'တေတ္တိံသ' ဟူသည့်ပါဠိမှ ဆင်းသက်လာသည့်စကား ဖြစ်သည်။

'တေတ္တိံသ' သည် သုံးဆယ့်သုံးယောက်သောသူတို့ စတင်နေထိုင်ရာဟု အဓိပ္ပာယ်ရ၏။

**တာဝတိံသာမြို့တော်**

တာဝတိံသာမြို့တော်သည် နတ်မြို့တော်ဖြစ်ပြီး မဟာသုဒဿနမြို့တော် ဖြစ်၏။ ယူဇနာ ၁၀၀၀၀ (တစ်သောင်း) ကျယ်ဝန်း၏။ မြို့မျက်နှာစာတစ်ဖက်စီတွင် တံခါးပေါက် ၂၅၀ စီ ရှိ၏။

**စူဠာမဏိစေတီတော်**

* တည်ရာဌာန၊ တာဝတိံသာ

* တည်ထားခဲ့သည့်အကြောင်းအရာ- ဘုရားအလောင်းတော် သိဒ္ဓတ္ထမင်းသား ဆံတော်ယူ၍ တည်ထားခြင်း၊

* အမြင့်ယူဇနာ - သုံးယူဇနာ

* ဦးစီးတည်ထားသည့်ပုဂ္ဂိုလ် - သိကြားမင်း

* တည်ထားပုံ - ရတနာ (၇)ပါးနှင့် စီခြယ်ထားသည်။

* စူဠာမဏိစေတီ - ဘုရားအလောင်း၏ဆံတော်မြတ်စေတီ

အများအားဖြင့် စူဠာမဏိစေတီ၌ ဆံတော်ဌာပနာထားသည်ဟုဆိုသော်လည်း အမှန်စင်စစ် လက်ယာစွယ်တော်၊ လက်ယာညှပ်ရိုးတော်လည်း ဌာပနာထားကြောင်း ပါရာဇိကဏ် အဋ္ဌကထာ ဗာဟိရနိဒါန်း၌ မှတ်သားရ၏။

**အဘိဓမ္မာတရား ဟောကြားရာ-**

တာဝတိံသာသည် ဘုရားရှင် အဘိဓမ္မာတရားဟောရာဌာနလည်း ဖြစ်၏။

တာဝတိံသာ၌ အဘိဓမ္မာ (၇) ကျမ်း

**ဟောကြားရက်-**

၁။ ဓမ္မသင်္ဂဏီကျမ်းတရားတော် ၁၂ ရက်။

* ဝိဘင်္ဂတရားတော် ၁၂ ရက်
* ဓာတုကထာတရားတော် ၆ ရက်
* ပုဂ္ဂလပညတ် ၇ ရက်
* ကထာဝတ္ထု ၈ ရက်
* ယမိုက် ၂၀ ရက်
* ပဋ္ဌာန်းတရားတော် ၂၅ ရက်

စုစုပေါင်း တရားဟောရက် (၉၀) ရက်။

(မြတ်စွာဘုရားသည် တာဝတိံသာ၌ ဝါတွင်း (၃) လ တရားဟောပြီးနောက် လူ့ပြည်သို့ ကြွတော်မူသည်။ လူ့ဘုံ၊ သင်္ကဿနဂိုပြည်သို့ ကြွတော်မူခြင်း ဖြစ်သည်။)

**သုဓမ္မာ ဓမ္မာရုံကြီး**

တာဝတိံသာရှိ စတုမဟာရာဇ်နတ်များ၊ တာဝတိံသာနတ်များအတွက် ဂုဏ်ယူစရာဌာနကြီးပင်။ ကုသိုလ်ဖြစ်ရေးအတွက် အထောက်အကူပြုသောဌာနလည်း ဖြစ်၏။

ယင်းဓမ္မာရုံတော်ကြီးသည် မဟာသုဒဿန နတ်မြို့တော်ကြီး၏ အရှေ့မြောက်ဘက်၌ တည်ရှိသည်။ ပင်လယ်ကသစ်ပင်အရင်း၌ တည်သည်။

အလျားယူဇနာ (၃၀၀)၊ အနံယူဇနာ (၃၀၀)၊ အဝန်းယူဇနာ (၉၀၀) ကျယ်သည်။

ယင်းဓမ္မာရုံကြီး၌ နတ်သဘင်အစည်းအဝေး ကျင်းပသည်။ တရားသဘင်ဆင်ယင်ရာလည်း ဖြစ်သည်။

**တာဝတိံသာရှိ နတ်ဥယျာဉ်များ**

**၁။ နန္ဒဝန်ဥယျာဉ်**

မဟာသုဒဿနနတ်မြို့ကတော်၏ အရှေ့ဘက်၌ ရှိသည်။ ယူဇနာ (၁၀၀၀) ကျယ်လျက် နတ်တို့ပျော်ပါးရာဥယျာဉ်ကြီးတစ်ခု ဖြစ်သည်။

**၂။ ပရုသကတဥယျာဉ်**

မဟာသုဒဿနနတ်မြို့တော်၏ တောင်ဘက်၌ ရှိသည်။ ယူဇနာ (၇၀၀) ကျယ်သည်။ အဖျော်ယမကာများသောက်စားကာ အသုရာတို့အား ကြိမ်းဝါးရာ၊ ခြိမ်းခြောက်ရာဥယျာဉ်ကြီး ဖြစ်သည်။

**၃။ စိတ္တလတာဥယျာဉ်**

မြို့တော်၏အနောက်ဘက်၌ တည်ရှိသည်။ ယူဇနာ (၅၀၀) ကျယ်၏။ ယင်းဥယျာဉ်၌ ဟံသာဝတီနွယ်နီ နတ်ပင်းများ ရှိသည်။ နတ်ပန်းများ ခူးဆွတ်ပျော်ပါးရန်အတွက် ထူးခြားဆန်းကြယ်သော အဝတ်တန်ဆာများ၊ ယာဉ်ရထားများ ဝင်ထွက်သွားလာရာဥယျာဉ်ကြီး ဖြစ်သည်။

**၄။ ဖိဿကဥယျာဉ်**

မဟာသုဒဿနနတ်မြို့တော်၏မြောက်ဘက်၌ တည်ရှိသည်။ ယူဇနာ (၅၀၀) ကျယ်ဝန်းသည့်ဥယျာဉ်ကြီး ဖြစ်သည်။ ဤဥယျာဉ်က နတ်သား၊ နတ်သမီးများ ယှဉ်တွဲပျော်ပါးရာ ဥယျာဉ်ကြီး ဖြစ်သည်။

**၅။ မဟာဝန်ဥယျာဉ်**

မဟာသုဒဿနမြို့တော်၏ အရှေ့ဘက်၌ တည်ရှိ၏။ ယူဇနာ (၇၀၀) ကျယ်သော ဥယျာဉ်ကြီးတစ်ခု ဖြစ်သည်။ ဤဥယျာဉ်တွင် လှပဆန်းကြယ် နှစ်လိုဖွယ်တို့နှင့် ပြည့်စုံသော သုနန္ဒာရေကန်ကြီး ရှိသည်။ (သုတ်မဟာဝ အဋ္ဌကထာ)

**ပင်လယ်ကသစ်ပင်ကြီး**

ပင်လယ်ကသစ်ပင်ကြီးသည် တာဝတိံသာနတ်ပြည်၌ တည်ရှိ၏။ ယင်းအပင်ကြီးသည် ယူဇနာ (၁၀၀)၊ လုံးပတ် (၁၅) ယူဇနာ၊ အမြင့်ယူဇနာ (၁၀၀) ရှိကြောင်း ပိဋကတ်ကျမ်းက ပြဆို၏။

ပင်လယ်ကသစ်ပင်သည် သိကြားမင်း မာဃလုလင်ဘဝက ပင်လယ်ကသစ်ပင် လှူဒါန်းခဲ့သောကြောင့် သိကြားမင်းဖြစ်လာသည့်အခါ ပင်လယ်ကသစ်ပင်ကြီး ပေါ်ပေါက်ခဲ့ခြင်း ဖြစ်သည်။

**ဝေဇယန္တာနန်းပြာသာဒ်**

ဝေဇယန္တာနန်းပြာသာဒ်က သိကြားမင်းနေထိုင်ရာ နန်းပြာသာဒ် ဖြစ်သည်။ ယင်းပြာသာဒ်သည် တာဝတိံသာအလယ်၌ တည်ရှိပြီး ရတနာ (၇) ပါးနှင့် စီခြယ်ထား၏။

ယူဇနာ (၃၀၀) မြင့်သည့်ပြာသာဒ်၌ တံခွန်တိုင်များလည်း စိုက်ထူထား၏။

**ပဏ္ဍုကမ္ဗလာမြကျောက်ဖျာ**

သိကြားမင်းသည် မိဘလုပ်ကျွေးခြင်းဟူသည့် ကောင်းမှုကြောင့် ဤပဏ္ဍုကမ္ဗလာ မြကျောက်ဖျာ ရရှိခြင်းဖြစ်သည်။ မြကျောက်ဖျာသည် နီညိုရောင်ရှိပြီး အလျားယူဇနာ (၆၀)၊ အနံယူဇနာ (၅၀) ရှိပြီး ပင်လယ်ကသစ်ပင်အရင်း၌ တည်ရှိသည်။

**ဝေဇယန္တာနတ်ရထား**

သိကြားမင်းစီးသည့်နတ်ရထား ဖြစ်သည်။ ဦးပိုင်းမှ ပဲ့ပိုင်းထိ ယူဇနာ (၁၅၀) ရှိသည်။ အနံယူဇနာ (၅၀) ရှိ၍ အဝန်းယူဇနာ (၄၀၀) ရှိသည်။

နတ်ရထားအိမ်အလယ်၌ သိကြားစံဖို့ ရတနာပလ္လင် ရှိသည်။ ပလ္လင်ကြီး၌ ထီးဖြူစိုက်ထား၏။ နတ်ရထားတွင် တံပိုးတစ်ခုသာရှိသော်လည်း အာဇာနည်သိန္ဓောမြင်းပျံတစ်ထောင် ကရ၍ တပ်၍ မောင်းနိုင်သည်ဟု ကျမ်း၌ပြဆို၏။ ရထားထိန်းမှာ မာတလိနတ်သား ဖြစ်သည်။

**ရောဝဏ်ဆင်**

သိကြားမင်း၏ စီးတော်ဆင် ဖြစ်သည်။ ဦးခေါင်း (၃၃) လုံးပါဆင်ကြီး ဖြစ်သည်။ အလယ်တည့်တည့် ဦးကင်း (ဦးခေါင်း) ရတနာပလ္လင်၌ သိကြားမင်း ထိုင်ရ၏။

ထိုဆင်ကြီးသည် ယူဇနာ (၁၅၀) ရှိ၏။

ဦးခေါင်း (၃၃) လုံးအလယ်၌ သိကြားမင်းစီးပြီး အခြားဦးခေါင်းများ၌ နတ်မင်းကြီးများ စီးသည်။ သိကြားမင်းစီးသော ဦးခေါင်းတော်မှာ သုဒဿနဦးခေါင်းတော်ဟု အမည်ရ၏။



## သိကြားမင်းကြီး

**သိကြားဝေါဟာရ**

'သိကြား'၏ပုဒ်ရင်းမှ 'သက္က' ဖြစ်သည်။ 'သက္က' ဟူသောပါဠိသည် သက္ကတအနေနှင့် 'သကြ' ဟု ဖြစ်၏။

'သကြ' မှ 'သိကြား' ဖြစ်လာကြောင်း ပညာရှိများ ဖွင့်ဆို၏။

ရှင်မဟာရဋ္ဌသာရ ကိုးခန်းပျို့၌မူ-

"သက္က၊ သကြ၊ မာကစနှင့် သက္ကတဘာသာ၊ ဝေါဟာအပြား၊ ထိုနှစ်ပါးတွင်၊ ဣအားအက္ခရာ၊ လွဲကာလည်းပြု၊ မြန်မာမှုဟု ယခုလူတွင်၊ သိကြားတွင်သား" ဟု ပြဆို၏။

သိကြားမင်းသည် ဘုံစဉ်စံ သောတာပန်တစ်ဦး ဖြစ်၏။ နောက်ဆုံး၌ အဂကနိဋ္ဌ ဗြဟ္မာ့ဘုံတွင် ရဟန္တာဖြစ်၍ ခန္ဓာဓာတ်သိမ်းမည်။ ဘဝဓာတ်သိမ်းမည် ဖြစ်၏။

**သိကြားမင်း၏အမည်နာမ (၇) မျိုး**

၁။ လူ့ဘဝ၌ 'မာဃ' ဟူ၍ အမည်ရှိခဲ့ဖူးသဖြင့် သိကြားမင်းဖြစ်သည့်အခါတွင်လည်း ရှေ့ကအမည်စွဲ၍ 'မာဃာ' ဟု ခေါ်တွင်၏။

၂။ ရှေ့ဘဝလူဖြစ်စဉ်က အလှူများပေးခဲ့သူဖြစ်သောကြောင့် 'ပုရိန္ဒရ' ဟု ခေါ်တွင်၏။

၃။ အလှူကို ရိုသေစွာ ပေးလှူခဲ့သူဖြစ်၍ 'သက္က' ဟုလည်း ခေါ်တွင်၏။

၄။ လူအများ နေထိုင်တည်းခိုရန် ဇရပ်၊ တန်ဆောင်း စသည့်ဆောက်လုပ်လှူဒါန်းခဲ့သောကြောင့် 'ဝါသဝ' ဟုလည်း ခေါ်တွင်၏။

၅။ တစ်ထောင်သောအကြောင်းအရာကို တစ်ပြိုင်နက်တည်းမေးရာ တစ်ခဏချင်းမှာပင် ပြန်လည်ဖြေဆိုနိုင်၊ အဆုံးအဖြတ်ပေးနိုင်သောကြောင့် နတ်သား (၅၀၀) တို့၏ မျက်စိမျက်လုံး ၁၀၀၀ ရှိသောအမြင်အား လွန်၍မြင်နိုင်သောကြောင့် သဟဿက္ခဟုလည်း ခေါ်သည်။

၆။ အသုရာနတ်တို့၏ နတ်ဘုရင် ဝေပစိတ္တအသုရာနတ်မင်းကြီး၏ သမီးတော် သူဇာနတ်သမီး၏ လင်ယောကျ်ားဖြစ်၍ သုဇမ္ပတိဟူ၍လည်း ခေါ်တွင်၏။

၇။ တာဝတိံသာနတ်တို့၏ ဘုရင်မင်း၊ အရှင်သခင်ဖြစ်သောကြောင့် ဒေဝါနမိန္ဒ ဟုလည်း ခေါ်၏။

(သက္ကသံယုတ်၊ သက္ကနာမသုတ်)

**သိကြားမင်းဖြစ်ရန် ကျင့်ဝတ် (၇) ပါး**

၁။ မိဘနှစ်ပါးတို့အား တစ်သက်လုံး လုပ်ကိုင်ကျွေးမွေးခြင်း

၂။ မိဘဘက်ကရော၊ ဖခင်ဘက်ကပါ ရှိနေသည့် သက်ကြီးရွယ်အိုအမျိုးများအား တစ်သက်လုံး ရိုသေလေးစားခြင်း။

၃။ တစ်သက်တာကာလပတ်လုံး ယဉ်ကျေးလိမ္မာ ချိုသာသောစကားများကိုသာ ပြောဆိုရခြင်း။

၄။ နှစ်ဦးနှစ်ဖက်သောသူတို့အား တစ်ဦးနှင့်တစ်ဦး အချစ်အခင်ပျက်အောင် မေတ္တာပျက်အောင် ကုန်းတိုက်စကားမပြောကြားခြင်း။

၅။ တစ်သက်တာကာလပတ်လုံး လှူဒါန်းပေးကမ်းနေလေ့ရှိခြင်း။

၆။ တစ်သက်တာကာလပတ်လုံး မှန်သောစကားကိုသာ ပြောဆိုမှုရှိခြင်း။

၇။ အမျက်ဒေါသထွက်ရအောင် တစ်သက်တာကာလပတ်လုံး ထိန်းသိမ်းစောင့်ရှောက်ရခြင်း၊ ဒေါသထွက်လာဖြစ်လာလျှင် တစ်ခဏချင်း ပယ်ပျောက်နိုင်အောင် ကြိုးစားရခြင်း

(သဂါထာဝဂ္ဂသံယုတ်)

**သိကြားမင်း၏ နတ်မိဖုရားများ**

သိကြားမင်း၌ ပဓာနအားဖြင့် နတ်မိဖုရားကြီးလေးပါး ရှိ၏။ ယင်းနတ်မိဖုရား

(၄) ပါးမှာ-

၁။ သုဓမ္မာ

၂။ နန္ဒာ

၃။ စိတ္တာ

၄။ သုဇာတာ စသည်တို့ဖြစ်သည်။

သို့သော် 'စိမာနဝတ္ထု' အဋ္ဌကထာအဆိုအရမူ သိကြားမင်း၌ အခြွေအရံ၊ ကချေသည် ပေါင်း နှစ်ကုဋေခွဲငါးသန်းရှိပြီး မိဖုရားကြီး (၁၆၀၀) ရှိကြောင်း ပြဆိုထားသည်။

**သိကြားမင်းနှင့်ဗုဒ္ဓဘာသာ**

ကူညီပေးခဲ့သူက များသည်။

သိကြားမင်းသည် အရာအားလျော်စွာ အရှင်မဟိန္ဒ အရှင်မြတ်၏ သာသနာပြုလုပ်ငန်း၌ သိကြား

သီဟိုသာသနာခေတ်အခါ၌ ဗုဒ္ဓဘာသာဝင်ဖြစ်အောင် သိကြားမင်း

မင်းက ပါဝင်ကူညီခဲ့ဖူး၏။ ဗြဟ္မဏဘာသာဝင်အချို့

ပြုလုပ်ခဲ့သည်။

(သဂါထာဝဂ္ဂသံယုတ် ပါဠိတော်)

သာသနာတော်နောက်ပိုင်း သာသနာတော် ဆုတ်ယုတ်အားနည်း

ကဿပဘုရားရှင်၏ သိကြားမင်းသည် မုဆိုးယောင်ဆောင်ကာ

ချိန်တွင် လူတွေ တရားပျက်ကြ၏။ ထိုအချိန် လောကကြီး ပျက်စီးနေပြီတကား၊ လောက

မာတလိနတ်သားက ခွေးနက်ကြီးယောင်ဆောင်၍ ခွေးနက်ကြီး၏ ခွေးဟောင်သံ

ကြီး ပျက်စီးနေပြီတကားဟု ဧရာမအသံနှင့် ကြွေးကြော်ကာ

သည်လည်း ဆူညံသွား၏။ ကြောက်လန့်နေကြ၏။ တရားမစောင့်သူ

ရှင်ဘုရင်အပါအဝင် ရဟန်းရှင်လူများ

ရဟန်းရှင်လူများအား ဤခွေးနက်ကြီးဖြင့် ကိုက်သတ်စေမည်ဖြစ်ကြောင်း သိကြားမင်း အယောင်ဆောင်မုဆိုးကြီးက ကြေညာ၏။

ရှင်ဘုရင်နှင့်တကွ ရဟန်းရှင်လူများ ကြောက်လန့်ကြကာ တရားနှင့်အညီ ကျင့်ကြံနေထိုင်လာကြသောကြောင့် သာသနာတော်ကြီး ပြန်လည်စည်ပင်လာကာ နှစ် (၁၀၀၀) အထိပင် တိုးတက်ရှည်ကြာခဲ့သည်။

(ဒွါဒသနိပါတ်၊ မဟာကဏှဇာတ်)

## သိကြားမင်းနှင့် သာသနာတွင်းကုသိုလ်၊ သာသနာပ ကုသိုလ်

ကုသိုလ်တွင် သာသနာတွင်းကုသိုလ်နှင့် သာသနာပကုသိုလ်သည် မတူညီပေ။ သာသနာတွင်းကုသိုလ်က အကျိုးပေးထက်သန်၍ သာသနာပကုသိုလ်က အကျိုးပေးညံ့၏။ နံ့၏။

သာသနာပတွင် ကုသိုလ်ပြုခဲ့သည့် သိကြားမင်းနှင့် သာသနာတွင် ကုသိုလ်ပြုခဲ့သော အချို့နတ်များ၏ ကိုယ်ရောင်ကိုယ်ဝါသည် မတူကြပေ။ သာသနာပတွင် ကုသိုလ်ပြုခဲ့သော သိကြားမင်း၏အရောင်ထက် သာသနာတွင်းကုသိုလ်ပြုခဲ့သော အချို့သော နတ်တို့၏အရောင်က သာလွန်တောက်ပနေ၏။

(ဥပါဒါန်၊ ပါဠိတော်၊ သက္ကဒါနသုတ်)



## ယာမာဘုံ

**ယာမာအဓိပ္ပာယ်နှင့်သက်တမ်း**

ယာမာနတ်ဘုံက ပူပန်မ၄၊ ဆင်းရဲမှုကင်းကာ ချမ်းသာခြင်းတို့ဖြင့် နေထိုင်ရသော နတ်ဘုံ ဖြစ်သည်။

ယာမာနတ်ဘုံသည် မြေနှင့်မစပ်သော ကောင်းကင်၌တည်သော နတ်ဘုံ ဖြစ်သည်။

ယာမာနတ်ဘုံသည် တာဝတိံသာနတ်ပြည်၏ အထက်ယူဇနာ ၄၂၀၀၀ မြင့်သော ကောင်းကင်၌ တည်ရှိသောနတ်ဘုံ ဖြစ်သည်။

ယင်းယာမာနတ်ပြည်အား အုပ်ချုပ်သူအကြီးအကဲနတ်မင်းမှာ သုယာမနတ်မင်း ဖြစ်သည်။

ယာမနတ်ပြည်၏သက်တမ်းမှာ နှစ် (၂၀၀၀) ဖြစ်သည်။ ယာမာနတ်တို့၏ ထိုသက်တမ်း (၂၀၀၀) သည် တာဝတိံနတ်တို့အရေအတွက်အားဖြင့် နှစ်ပေါင်း (၄၀၀၀) ဖြစ်သည်။

ထိုယာမာနတ်သက် နှစ်ပေါင်း (၂၀၀၀) သည် လူတို့အရေအတွက်အားဖြင့်နှစ်ပေါင်း (၁၄) ကုဋေ၊ (၄) သန်း ဖြစ်သည်။ ယာမာနတ်တို့၏ (၁)ရက်သည် လူတို့အရေအတွက်အား ဖြင့် နှစ်ပေါင်း (၂၀၀) ဖြစ်သည်။

၄။ တုသိတာနတ်ဘုံ

တုသိတာနတ်ဘုံ၏သက်တမ်းမှာ နှစ်ပေါင်း ၄၀၀၀ ဖြစ်သည်။ သို့သော် ယာမာနတ်တို့၏အရေအတွက်ဖြင့်ကြည့်သော် နှစ်ပေါင်း ၈၀၀၀ ဖြစ်သည်။

တုသိတာတို့ နှစ်ပေါင်း ၄၀၀၀ သည် လူအရေအတွက်အားဖြင့် နှစ်ပေါင်း ၅၇ ကုဋေ၊ ၆ သန်း ဖြစ်သည်။ လူတို့ နှစ်ပေါင်း ၄၀၀ သည် တုသိတာတို့အတွက် (၁) ရက် ဖြစ်၏။

တုသိတာသည် မယ်တော်မာယာဘဝမှ ကွယ်လွန်ပြီး 'သန္တုသိတ' နတ်သားအဖြစ် စံမြန်းသည့်နတ်ဘုံ ဖြစ်၏။

တုသိတာနတ်ပြည်သည် အရိယာပုဂ္ဂိုလ်ထူးများ၊ ဘုရားအလောင်းများ တုသိတာနတ်ပြည်၌ရှိကြောင်း အမှတ်အသားရှိ၏။

ယင်းကဲ့သို့ပင် လူ့လောကတွင်ရှိစဉ်က သူဌေးကြီးတစ်ဦးအဖြစ် နာမည်ကြီးခဲ့သော အနာထပိဏ်သူဌေးသည်လည်း အနာထပိဏ်နတ်သားအဖြစ်နှင့် တုသိတာနတ်ပြည်၌ ရှိနေ၏။

၅။ နိမ္မာနရတိနတ်ဘုံ

နိမ္မာနရတိနတ်ဘုံ၏သက်တမ်းမှာ အနှစ် ၈၀၀၀ ဖြစ်သည်။ ယင်းအနှစ် ၈၀၀၀ သည် တုသိတာနတ်တို့အရေအတွက်အားဖြင့် နှစ်ပေါင်း ၁၆၀၀၀ ဖြစ်သည်။

ယင်းနိမ္မာရတိနတ်တို့သက်တမ်း အနှစ် ၈၀၀၀ သည် လူတို့အရေအတွက်အားဖြင့် နှစ်ပေါင်း ၂၃၀၊ ကုဋေ ၄ သန်း ဖြစ်၏။ ထိုနိမ္မာနရတိနတ်ဘုံ၏ အကြီးအကဲသည် 'သုနိမ္မိတ' အမည်ရှိ နတ်မင်းကြီး ဖြစ်သည်။

နိမ္မာနရတိနတ်ဘုံသည် တုသိတာနတ်ဘုံ၏ အထက်ယူဇနာ ၄၀၀၀၀ ကွာဝေးသည့် အရပ်၌ တည်ရှိသည်။ ကောင်းကင်၌တည်သောဘုံ ဖြစ်သည်။

ထိုနတ်ဘုံသည် ကိုယ်ဖြစ်ချင်ရာအားဖြစ်စေလျက် ကိုယ်တိုင် ဖန်ဆင်းရသည့်နတ်ဘုံ ဖြစ်သည်။ လူ့ပြည်၌ ကျောင်းအမကြီး ဝိသာခါဟု အမည်သတင်းကြီးသည့် ဝိသာခါသည် ထိုနတ်ဘုံ၏ နတ်မင်းကြီး သုနိမ္မိတနတ်မင်းကြီး၏ နတ်မိဖုရား ဖြစ်သည်။

၆။ ပရနိမ္မိတ ဝသဝတ္တိနတ်ဘုံ

နတ်တို့သက်တမ်း

ပရနိမ္မိတဝသနတ်ဘုံ၏သက်တမ်းမှာ နှစ်ပေါင်း ၁၆၀၀၀ ဖြစ်၍ ထိုနတ်ဘုံ

အရေအတွက် ၁၆၀၀၀ သည် နိမ္မာနရတိနတ်ဘုံ၏ အရေအတွက်အားဖြင့် ၃၂၀၀၀ ဖြစ်၏။

လူတို့အရေအတွက်အားဖြင့် နှစ်ပေါင်း ၉၂၁ ကုဋေ၊ ၆ သန်း ဖြစ်သည်။

ယင်းပရနိမ္မိတ ဝသဝတ္တိနတ်ပြည်၏ အကြီးအကဲအုပ်ချုပ်သူမှာ ဝသဝတ္တိနတ်မင်းကြီး ဖြစ်သည်။

ထို့အတူ ထိုနတ်ဘုံ၌ မာန်နတ်မင်းကြီးလည်း နေထိုင်၏။

**နတ်ပြည်ရောက်လိုသူများ ကျင့်ကြံရန်**

နတ်ဖြစ်ရခြင်းအကြောင်း (၃)ပါး-

၁။ မှန်သည်ကိုသာ ပြောဆိုရာ၏။

၂။ အမျက်ဒေါသဖြစ်ခြင်း၊ စိတ်ဆိုးခြင်းမဖြစ်ရ။

၃။ တောင်းလာအလှူခံလာပါက နည်းနည်းဖြစ်ဖြစ် ပေးရသည်။

(အရှင်သြဘာသဘိဝံသ
သုတေသနသရုပ်ပြအဘိဓာန်)

**သိကြားမင်းထက် တန်ခိုးကြီးသော နတ်သုံးပါး**

၁။ စူဠရဋ္ဌနတ်

၂။ မဟာရဋ္ဌနတ်

၃။ အနေကဝဏ္ဏနတ်

ဤနတ်သုံးပါးသည် သိကြားမင်းထက် တန်ခိုးကြီး၏။

**နတ်တို့ စုတေခြင်း (၄) မျိုး**

၁။ သက်တမ်း (နတ်သက်)ကုန်၍သေခြင်း၊

၂။ ကံကုန်၍သေခြင်း၊

၃။ အာဟာရကုန်၍သေခြင်း

(အချို့နတ်များ အပျော်အပါးမက်၍ အစားစားချိန် မစားမိဘဲဖြစ်ကာ အာဟာရပြတ်၍ သေဆုံးရ၏။)

၄။ အမျက်ဒေါသထွက်၍ (အမျက်ထွက်၍) သေခြင်း၊

(အချို့နတ်တို့က အမျက်ဒေါသကြီး၍ သေသည်။)

**နတ်တို့ ကွယ်လွန် (စုတေ) ခါနီး ပုဗ္ဗနိမိတ် (ရှေ့ပြေးနိမိတ်) ၅ မျိုး**

၁။ ပန်ဆင်ထားသည့် နတ်ပန်းများညှိုးခြင်း
၂။ တောက်ပြောင်ဝင်းလက်နေသော နတ်ဝတ်တန်ဆာများ ညှိုးနွမ်းခြင်း
၃။ ချိုင်းကြားမှ ချွေးထွက်ခြင်း
၄။ ရုပ်အဆင်းဖောက်ပြန်ခြင်း
၅။ နတ်တို့ဘုံဗိမာန်တွင် မမွေ့လျော်၊ မပျော်ပိုက်တော့ခြင်း

**နတ်နှင့်သားသမီး**

နတ်သမီးများသည် လူအမျိုးသမီးများကဲ့သို့ ကိုယ်ဝန်မဆောင်ကြရပါ။ သားသမီးရထိုက်သူများအတွက် သားသမီးများ ရင်ခွင်ထဲ၌ ဘွားကနဲ ပေါ်လာသည်။

(သဂြိုလ်ဘာသာဋီကာ)

**သေခါနီးနတ်များ မှာထားချက်**

သေခါနီးနတ်များအား နတ်တို့သည်လည်း လူတို့ကဲ့သို့ မှာကြားတတ်၏။ ယင်းတို့ကား-

၁။ အို…အသင်နတ်၊ သင်သည် ဤနတ်ဘုံဘဝမှနေ၍ လူ့ဘုံ၊ လူ့ဘဝသို့သွားပါလေ။

၂။ လူ့ဘုံသို့ရောက်လျှင် ရတနာသုံးပါးအား ယုံကြည်သော သဒ္ဓါတရားအား ရအောင်ယူပါ။

၃။ သင်ရယူပြီးသော သဒ္ဓါတရားဆိုသော လာဘ်လာဘကြီး လာဘ်ကောင်ကြီးဖြင့် သင့်ဘဝ တည်တံ့ပါစေ။ နောက်မှ နတ်ပြည် ပြန်လာခဲ့ပါ။

(အပဒါန်ပါဠိတော်)



## ဗြဟ္မာဘုံ

၁။ ဗြဟ္မာဘုံ (၂၀)

(၃၁) ဘုံတွင်-

၁။ ငရဲမှ စတင်ရေတွက်ရာ ၂။တိရစ္ဆာန် ၃။ပြိတ္တာ ၄။အသူရကာယ် ၅။လူ့ဘုံ(လူ့ပြည်)၊ နတ်ပြည် ၆ ထပ်ဖြစ်သည့် ၆။စတုမဟာရာဇ် ၇။တာဝတိံသာ ၈။ယာမာ ၉။တုသိတာ ၁၀။နိမ္မာနရတိ စသည့်ဘုံပေါင်း (၁၁) ဘုံ ရှိသည်။

ယင်း (၁၁) ဘုံကို ကာမ (၁၁) ဘုံဟု ခေါ်၏။ လူ့ဘုံနှင့်နတ်ပြည် ၆ ထပ်၊ နတ်ဘုံ ၆ ဘုံ ပေါင်း (၇) ဘုံအား ကာမသုဂတိ (၇) ဘုံဟု ခေါ်သည်။

ထို (၁၁) ဘုံနှင့် ဗြဟ္မာဘုံ (၂၀) ပေါင်းလျှင် (၃၁) ဘုံ ဖြစ်၏။

နိဗ္ဗာန်ကား (၃၁) ဘုံအလွတ် ဖြစ်၏။

### ဗြဟ္မာမည်ပုံ

အကြင်ပုဂ္ဂိုလ်တို့သည် ဈာန်အစရှိကုန်သော ဂုဏ်ကျေးဇူးအထူးတို့ဖြင့် ကြီးပွားတတ်ကုန်၏။ ထို့ကြောင့် ဗြဟ္မာမည်၏။

ဗြဟ္မာတို့သည်-

ဗြဟ္မာတို့သည် မေတ္တာ၊ ကရုဏာ၊ မုဒိတာ၊ ဥပေက္ခာဟူသော ဗြဟ္မစိုရ်တရားလေးပါးအား ပွားများနေထိုင်ကြ၏။ ဈာန်ချမ်းသာဖြင့် နေထိုင်သော ဗြဟ္မာများရှိသလို အရိယာဖြစ်ပြီးသော ဗြဟ္မာကြီးများကတော့ ဖလသမာပတ်ကို ဝင်စားလျက်နေထိုင်ကြ၏။

ဗြဟ္မာပြည်၌ ယောကျ်ား၊ မိန်းမ မရှိသဖြင့် လင်ယူ၊ မယားယူခြင်း၊ ကိုယ်ဝန်ဆောင်ခြင်းမျိုးများ မရှိပေ။

(ဓိနာလင်္ကာရဋီကာ)

## ဗြဟ္မာဆိုင်ရာ သိမှတ်ဖွယ်ရာ

### ၁။ အမျိုးသမီးများနှင့်ဗြဟ္မာဘဝ

အမျိုးသမီးများသည် မဟာဗြဟ္မာအဖြစ် မဖြစ်နိုင်ကြ။ မဟာဗြဟ္မာတို့၏လက်အောက်ငယ်သား ဗြဟ္မာကလေးများသာ ဖြစ်နိုင်ခွင့်ရှိ၏။ ဗြဟ္မပါရိသဇ္ဇာ ဗြဟ္မာနှင့် ဗြဟ္မာပရောဟိတ်ဗြဟ္မာဟူသော ဗြဟ္မာနှစ်မျိုးအဆင့်သာ ရောက်နိုင်၏။

### ၂။ ဗြဟ္မာတို့အသံနှင့် ခန္ဓာကိုယ်

ဗြဟ္မာတို့၏အသံသည် အလွန်ပင် သာယာချိုမြိန်၍ အလွန်ပင် နှစ်သက်ဖွယ်ရှိကြောင်း၊ အပြစ်လည်း ကင်းစင်ကြောင်း ကျမ်းကပြဆို၏။.

ဗြဟ္မာတို့၏ခန္ဓာကိုယ်သည် အလွန်ပင် ဖြောင့်မတ်ကြောင်း၊ ကုန်းခြင်း၊ ကော့ခြင်းမရှိကြောင်း ကျမ်းက ပြဆို၏။ ထို့ကြောင့် ဗြဟ္မာဘုံရေးလျှင် သတိထားရမည်။

ထို့ပြင် ဗြဟ္မာများ၏ခန္ဓာကိုယ်မှာ လွန်စွာ နူးညံ့၏။ အထက်ဗြဟ္မာများ ခန္ဓာကိုယ်အား အောက်ဗြဟ္မာများ မြင်လိုလျှင် ယင်းဗြဟ္မာတို့၏ခန္ဓာကိုယ်များကို ရုပ်ကြမ်းဖန်ဆင်းပြရ၏။

(သုတ္တန္တမဟာဝဂ္ဂပါဠိ-စာ-၂၇)

## ဗြဟ္မာတို့၏အစာအာဟာရ

ဗြဟ္မာများ၏ခန္ဓာကိုယ်နှင့်အတူ နှာခေါင်း၊ လျှာတို့ ပါဝင်ကြ၏။ သို့ရာတွင် နှာခေါင်းရှိသည့်တိုင် အနံ့မခံစားနိုင်ကြပေ။ ထို့အတူ လျှာရှိသော်လည်း အရသာမခံစားနိုင်ကြပေ။ ခန္ဓာကိုယ်ကြီးရှိသော်လည်း ကောင်းကောင်းဆိုးဆိုး မည်ကဲ့သို့သော အထိအတွေ့မျိုးကို

မှ ခံစားနိုင်ခြင်း မရှိကြပေ။ အဘယ့်ကြောင့်ဆိုသော် ဗြဟ္မာများ၌ ခံစားနိုင်သော ကိုယ်အကြည်ရုပ်၊ နှာခေါင်းအကြည်ရုပ်၊ လျှာအကြည်ရုပ်များသည် ဘာဝနာကြောင့်ပါမလာခဲ့ကြ၍ ဖြစ်သည်။

ထို့ကြောင့် ဆိုးဆိုးကောင်းကောင်း အရသာဟူသမျှ မခံစားကြသဖြင့် ဗြဟ္မာများသည် အစားအသောက် စားသောက်ခြင်းလည်း မရှိကြပေ။ သို့သော် ဗြဟ္မာတို့၏ အစာအာဟာရက မရှိမဟုတ်။ ထိုအစာအာဟာရက ပီတိ၊ နှစ်သက်ခြင်းတည်း။

ဈာန်၌ နှစ်သက်ခြင်းပီတိ၊ ဈာန်ပီတိ ဖြစ်၏။ ယင်းဈာန်ပီတိသည်ပင် ဗြဟ္မာတို့၏ အာဟာရ ဖြစ်သည်။

(ဓိနာလင်္ကာရဋီကာ)

**ဗြဟ္မာဘုံသည် ဈာန်ဘုံ**

ဗြဟ္မာဘုံ (ဗြဟ္မာပြည်)သည် ဈာန်ဘုံ ဖြစ်သည်။ ဗြဟ္မာပြည်၌ ဈာန်ရသောပုဂ္ဂိုလ်များသာ နေထိုင်၏။ သို့သော် ဈာန်ရပုထုဇဉ်ဗြဟ္မာနှင့် ဈာန်အရိယာဗြဟ္မာဟု နှစ်မျိုးရှိ၏။ ဈာန်ရပုထုဇဉ်ဗြဟ္မာများမှာ အောက်ကာမဘုံများသို့ လျှောကျနိုင်ပြီး ဈာန်ရအရိယာဗြဟ္မာများမှာကား အထက်ဗြဟ္မာဘုံများသို့ တက်သွားပြီး ဘုံစဉ်စံလျက် ပရိနိဗ္ဗာန်စံရမည် ဖြစ်သည်။

**ဗကဗြဟ္မာကြီး**

ဗကဗြဟ္မာကြီးက ဗြဟ္မပါရိသဇ္ဇာ၊ ဗြဟ္မပုရောဟိတာ မဟာဗြဟ္မာဟူသော ပထမဈာန်သုံးဘုံတွင် မဟာဗြဟ္မာဘုံမှ မဟာဗြဟ္မာမင်းကြီး ဖြစ်သည်။

ယင်းသို့ ကာလကြာမြင့်ခဲ့သည်အားလျော်စွာ အတိတ်ဘဝများတွင် ဈာန်ရဗြဟ္မာကြီးများအဖြစ်နှင့် သူ့ဘဝတွေ အဆင့်ဆင့် ပြောင်းလဲခဲ့သည်ကို သူ မအောက်မေ့နိုင်တော့။ သတိမရနိုင်တော့။

ထို့ကြောင့် ဗကဗြဟ္မာကြီးသည် သူ၏အသက်ခန္ဓာသည်မြဲပြီး မအို၊ မနာ၊ မသေတော့ သူနေထိုင်ရာ ဗြဟ္မာဘုံကြီးသည်လည်း မြဲပြီး၊ ခိုင်ခန့်ပြီး ရွေ့လျောခြင်းသဘော မရှိတော့။

ဤဗြဟ္မာဘုံကြီး၌ မွေးဖွားသူ၊ အိုသူ၊ သေသူ တဖန်ပြန်ဖြစ်သူ မရှိပြီ။ ဤဗြဟ္မာဘုံအပြင် အခြားလွတ်မြောက်ရာနေရာမရှိဟူ၍ အယူမှားအား စွဲမှတ်ထား၏။

ဇကဗြဟ္မာကြီး စွဲယူထားသည့်အယူကား သဿတဒိဋ္ဌိပင် ဖြစ်တော့သည်။ မြဲသည်၊ ထာဝရတည်သည်ဟု စွဲသောအယူပင် ဖြစ်သည်။ ဇကဗြဟ္မာကြီး ယင်းသို့အယူမှားနေပုံအား မြတ်စွာဘုရား သိတော်မူပြီ ဖြစ်သည်။ ထို့ကြောင့် ဇကဗြဟ္မာကြီးနေထိုင်ရာ ပထမဈာန် မဟာဗြဟ္မာဘုံသို့ ကြွရောက်ပြီး ချေချွတ်တော်မူခဲ့ရသည်။

## သဟမ္ပတိဗြဟ္မာကြီး

သဟမ္ပတိဗြဟ္မာကြီးက ပထမဈာန် မဟာဗြဟ္မာဘုံမှ ဗြဟ္မာသြတစ်ဦး ဖြစ်သည်။ ဗုဒ္ဓမြတ်စွာဘုရား ဘုရားဖြစ်ပြီးကာလတွင် မြတ်စွာဘုရားအား တရားဟောရန် တောင်းပန်လျှောက်ထားသော ဗြဟ္မာကြီး ဖြစ်သည်။

သဟမ္ပတိဗြဟ္မာကြီးသည် မြတ်စွာဘုရား ဟစ်ဝါအရ ဥရုဝေဠတောအ္ဘ ရသေ့ညီနောင်ရှင် (၁၀၀၀) ချွတ်ပွဲ တန်ခိုးပြချိန်၌ မြတ်စွာဘုရားထံ တရားနာရန် သွားရောက်ခဲ့သည်။ ထို့ပြင် မြတ်စွာဘုရား ပရိနိဗ္ဗာန်စံသောအခါတွင်လည်း သဟမ္ပတိဗြဟ္မာကြီးသည် မြတ်စွာဘုရားထံ အလျင်အမြန်လာရောက်ကာ သံဝေဂဂါထာများ၊ သံဝေဂတရားများ ရွတ်ပွားခဲ့သည်။

(မူလပဏ္ဏာသ/မဟာဝဂ္ဂ)

## သနင်္ကုမာရဗြဟ္မာကြီး

သနင်္ကုမာရဗြဟ္မာကြီးသည် တာဝတိံသာနတ်ပြည်ရှိ သုဓမ္မာ ဓမ္မာရုံတွင် သွားရောက်တရားဟောလေ့ရှိသော ဗြဟ္မာကြီး ဖြစ်သည်။

ထိုဗြဟ္မာကြီးသည် ပထမဈာန်ဘုံမှ ဗြဟ္မာမင်းကြီးတစ်ဦး ဖြစ်သည်။

တာဝတိံသာတွင် သနင်္ကုမာရဗြဟ္မာမင်းက-

မြတ်စွာဘုရားသည် လောကလူများ အကျိုးငှာ၊ လောကကို စောင့်ရှောက်ခြင်းငှာ၊ နတ်လူတို့၏အကျိုးစီးပွားအလို့ငှာ၊ လွန်စွာကျင့်တော်မူကြောင်း၊ အကြင်သူတို့သည် ဘုရား၊ တရား၊ သံဃာတည်းဟူသော ရတနာသုံးပါးအား ဆည်းကပ်ကြကုန်၏။ အကျင့်သီလကျင့်သုံးဆောက်တည်ကြ၏။ ထိုသူတို့ ကွယ်လွန်သောအခါ နတ်ပြည်သို့ ရောက်ရကြောင်း တရားဟောပြ၏။

အသင်လူသား ဘယ်သွားမလဲ

လူ့ဘုံသည် မြတ်သောဘုံဖြစ်သကဲ့သို့ ကံဉာဏ်ဝီရိယအား အခြေခံသောဘုံ ဖြစ်သည်။ လူ့ပြည်၏အထက်တွင်ရှိသည့် နတ်ပြည် ၆ ထပ်အား မြင်နိုင်သလို အပါယ်လေးဘုံရှိ တိရစ္ဆာန်ဘဝအား မျက်ဝါးထင်ထင် မြင်နေရ၏။

ယင်းတိရစ္ဆာန်တို့သည် လူနှင့်အနီးကပ်ဆုံးဖြစ်သည့် အပါယ်လောကသားများ ဖြစ်၏။

လူ့ဘဝသည် လမ်းဆုံ ဖြစ်၏။

အထက်ကိုတက်မလား။

အောက်ကိုဆင်းမလား။

သွားလိုရာသွားနိုင်သည်။

အဘယ်ကြောင့်ဆိုသော် လူသားတို့အဖို့ မိမိလိုရာသွားနိုင်ဖို့ လမ်းကြောင်းနှစ်သွယ် ရှိနေသည်။

ယင်းတို့က အခြားမဟုတ်။

ကုသိုလ် (ကောင်းမှု)လမ်းကြောင်းနှင့် အကုသိုလ် (မကောင်းမှု) လမ်းကြောင်း ဖြစ်သည်။ စင်စစ် ကုသိုလ်၊ အကုသိုလ်ဟူသည် လူ့ဘဝ၌ အထက်နှင့်အောက်သွားရာလမ်းခွဲ ဖြစ်သည်။

ကုသိုလ်သည် အထက်လမ်းသွားရာဖြစ်ပြီး အကုသိုလ်သည် အောက်လမ်းသွားရာ ဖြစ်၏။

ကုသိုလ်ကံလမ်းကြောင်းလိုက်ကြမည်ဆိုလျှင် ဆိုင်ရာသုဂတိဘုံ (ကောင်းသောဘုံ) ကိုရောက်မည်။ ကုသိုလ်လမ်းကြောင်း၌ ကံလမ်း၊ ဈာန်လမ်း၊ ဉာဏ်လမ်းများ ရှိသည်။

ဘယ်လမ်း၊ ဘယ်သို့လိုက်လျှင် ဘယ်ကို ရောက်မည်ကို သဘောပေါက်ရန်သာ ဖြစ်သည်။

အသင်လူသား...

သင် ဘယ်သွားမည်နည်း။

လွတ်ငြိမ်းချမ်းသာခြင်းနိဒါန်း

(မေတ္တာ)

မေတ္တာ စသောသုံးပါးသည် ဒေါမနဿကြောင့်ဖြစ်သော ဗျာပါဒ၊ ဝိဟိံသ၊ အနဘိရတိမှ လွတ်မြောက်ကြောင်းတရားများ ဖြစ်သည်။

မေတ္တာသည် သတ္တဝါတို့အား ချစ်မြတ်နိုးလျက် အကျိုးလိုလားသည့်တရားတည်း။ ဗျာပါဒကား သတ္တဝါတို့၌ မုန်းတီးရွံရှာ ပျက်စီးရာပျက်စီးကြောင်း မကောင်းကြံသော တရားတည်း။ တရားကိုယ်မှာ ဒေါသတည်း။

ဒေါသမှန်လျှင် ဒေါမနဿနှင့် မကွေမကွင်း ယှဉ်ဘက်ဖြစ်၍ ဒေါမနဿကြောင့် ဖြစ်ရသည်ဆိုရ၏။ သို့ဖြစ်၍ ဒေါမနဿကြောင့်ဖြစ်သော ဒေါသ၊ ဗျာပါဒမှ လွတ်မြောက် သောမေတ္တာသည် ဧကန် သောမနဿနှင့်သာ ယှဉ်ထိုက်ပေသည်။

ထို့ကြောင့် မေတ္တာကမ္မဋ္ဌာန်းဖြင့် ဒေါမနဿ (သုခ)ယှဉ်ရာ အောက်ပါဈာန်လေးမျိုး အား ရရှိပေသည်။

## (ကရုဏာ၊ မုဒိတာ)

ကရုဏာသည် ဒုက္ခိတသတ္တဝါအား လွန်စွာ သနားတတ်၏။ ဝိဟိံသက မသနားသည့် အပြင် ညှဉ်းဆဲပင်ညှဉ်းဆဲချင်သေး၏။ တရားကိုယ်မှာ ဒေါမနဿကြောင့်ဖြစ်သော ဒေါသ ပင်တည်း။

ထို့ကြောင့် ထိုဝိဟိံသ၏ ဆန့်ကျင်ဘက်ဖြစ်၍ ဝိဟိံသမှ လွတ်ထွက်ရသော ကရုဏာ လည်း သောမနဿနှင့်ယှဉ်ရာ အောက်ရူပဈာန်ကိုသာ ရရှိနိုင်သည်။

မုဒိတာသည် သတ္တဝါတို့ သမ္ပတ္တိ ဖြစ်နေသည်ကို ဝမ်းမြောက်၏။ အနုရာဂိရတိကား သူတစ်ပါး၏စည်းစိမ်ချမ်းသာတို့ကို မကြည့်ရှုနိုင်၊ မမွေ့လျော်နိုင်သော ဒေါသတည်း။

ထို့ကြောင့် အနုရာဂိတ၏ ဆန့်ကျင်ဘက်ဖြစ်သည့် မုဒိတာသည် ဒေါသ၏ဆန့်ကျင် ဘက်ဖြစ်သော သောမနဿနှင့်သာ ယှဉ်သင့်ရကား အောက်ရူပဈာန်ဘုံလေးပါးကိုသာ မြင်နိုင်၏။

## (ဥပေက္ခာ)

သတ္တဝါတို့အပေါ် လျစ်လျူရှုနိုင်သော ဥပေက္ခာ ဗြဟ္မဝိဟာရသည် အပ္ပနာသို့ရောက် သောအခါ ဥပေက္ခာဝေဒနာနှင့်သာ ယှဉ်သင့်၏။

ထို့ကြောင့် ထိုဥပေက္ခာဗြဟ္မဝိဟာရဖြင့် ပဥ္စမဈာန်ကိုသာ ရနိုင်၏။ မေတ္တာ၊ ကရုဏာ၊ မုဒိတာ တစ်ပါးပါးဖြင့် အောက်ဈာန် (၄) ပါးကို ရနိုင်သော ယောဂီသာလျှင် ဤဥပေက္ခာ ဗြဟ္မဝိဟာရကို ကျင့်သင့်၏။ အားထုတ်သင့်၏။

အဘယ့်ကြောင့်ဆိုသော် သတ္တဝါ ပညတ်ချင်း အာရုံတူသောကြောင့်တည်း။ ကသိုကပ်

စသော ကမ္မဋ္ဌာန်းဖြင့် အောက်ဈာန်လေးပါးအား ရခဲ့သူမှာ အာရုံချင်းမတူသည့်အတွက် ဤဥပေက္ခာကို အားထုတ်သော်လည်း ပဥ္စမဈာန်ကို မရနိုင်။

အရှင်ဗုဒ္ဓဃောသ၊ သဂြိုလ်ဘာသာဋီကာ ကောက်နုတ်ချက်

**၃၁ ဘုံမှ လွတ်စေသော နိဗ္ဗာန်**

ဆင်းရဲဒုက္ခ ချုပ်ငြိမ်းရာသည် နိဗ္ဗာန် မည်၏။

နိဗ္ဗာန်သည် ၃၁ ဘုံမှ လွတ်၏။

စင်စစ် နိဗ္ဗာန်သည် ဘုံမဟုတ်။ အငြိမ်ဓာတ်တရားမျိုးသာ ဖြစ်သည်။

**နိဗ္ဗာန်ရရှိမှု (၂) မျိုး-**

၁။ ခန္ဓာအကြွင်းရှိသော နိဗ္ဗာန်ရရှိမှု၊ သက်ရှိထင်ရှားရှိစဉ်မှာပင် နိဗ္ဗာန်ရရှိခံစားရမှု

၂။ ခန္ဓာအကြွင်းမရှိ နိဗ္ဗာန်ရရှိမှု

နိဗ္ဗာန်တရားဟူသည်က လွန်စွာ နက်နဲသိမ်မွေ့သည့်တရား ဖြစ်သည်။ ပုထုဇဉ်ဘဝဖြင့် နိဗ္ဗာန်အရသာကို တိကျသေချာစွာ သိရန်မလွယ်။

သဘောတရား ရိပ်စားမိရန်မှု ပိဋကတ်စာပေ ဖတ်ရမည်။

**နိဗ္ဗာန်**

မကောင်းသောလားရာဂတိ၊ ကောင်းသောနတ်ပြည် စသောသုဂတိစွမ်းအားဖြင့်လည်းကောင်း၊ အယုတ်အမြတ်၏ အစွမ်းအားဖြင့်လည်းကောင်း၊ ကြီးသောဘဝအဖြစ်အား၏အဖြစ်ကြောင့် တပြောင်းပြောင်း တပြန်ပြန် အောက်အထက်ပြန်မည်၏။ အစွမ်းအားဖြင့် ချုပ်တတ်ဝပ်တတ် ဝါနဟုဆိုအပ်သော တဏှာမှ၊ အကြွင်းအသဉ်တ ဓာတ်တရားသည် လွတ်မြောက်၏။ ထို့ကြောင့် ထိုအသဉ်တဓာတ်ဟူသော (မပြုပြင်အပ်သော) ဓာတ်သည် နိဗ္ဗာန်မည်၏။

(အဘိဓမ္မတ္ထ သင်္ဂဟဋီကာ)



## နိဒါန်း

ဝိပါက်-'ဝိပါက်'ဟူသောစကားသည် ပါဠိဘာသာ 'ဝိပါက' မှ ဆင်းလက်လာသော မြန်မာစကား ဖြစ်သည်။ အဓိပ္ပာယ်မှာ 'ကုသိုလ်ကံ၊ အကုသိုလ်ကံတို့၏အကျိုးတရား' ဟု ဆိုလိုသည်။

ဝိပါက် ၂ မျိုး- ဝိပါက်သည် ၂ မျိုးရှိသည်။

၁။ ကုသလဝိပါက် ၂။ အကုသလဝိပါက်

**၁။ ကုသလဝိပါက်** - ရှေးကပြုခဲ့ဖူးသော ကုသိုလ်ကောင်းမှု၏အကျိုးဝိပါက်ကို ပါဠိလို 'ကုသလ ဝိပါက' မြန်မာလို 'ကုသလ ဝိပါက် = ကုသိုလ်၏ ဝိပါက်-ကုသိုလ်၏ အကျိုး = ကောင်းသောအကျိုး = ကောင်းကျိုး'ဟု ဆိုလိုပါသည်။

**၂။ အကုသလဝိပါက်** - ရှေးကပြုခဲ့ဖူးသော မကောင်းမှုအကုသိုလ်၏အကျိုးဝိပါက်ကို ပါဠိလို 'အကုသလ ဝိပါက' မြန်မာလို 'အကုသလဝိပါက်=အကုသိုလ်၏ဝိပါက်= အကုသိုလ်၏အကျိုး = မကောင်းသောအကျိုး = မကောင်းကျိုး = ဆိုးကျိုး' ဟု ဆိုလိုပါသည်။

**ဝိပါက်တော် ၁၂ပါး** - ဤကျမ်းငယ်၌ပါရှိသော ဘုရားရှင်၏ဝိပါက်တော် ၁၂ပါး မှာ ဘုရားရှင် နုစဉ်အခါက ပြုလုပ်ခဲ့ဖူးသော မကောင်းမှု အကုသိုလ်ကံများ၏အကျိုးဝိပါက် (ဝါ) ဆိုးကျိုးများ ဖြစ်ပါသည်။

နမော တဿ ဘဂဝတော အရဟတော သမ္မာသမ္ဗုဒ္ဓဿ

## ပထမဝိပါက်တော်

ဥရုဝေဠ တောဝမြိုင်ခွင်၊
၆-နှစ်ပတ်လုံး ကျင့်သုံးအရှင်၊
အားကုန်ခန်းလို့ ညှိုးနွမ်းငြိုငြင်၊
ပင်ပန်းရေး ဝဋ်ကြွေးဘယ့်ကြောင့်တင်၊
ကဿပဘုရား ထင်ရှားပွင့်သော်၊
ဇောတိပါလ နာမအကျော်၊
ပုဏ္ဏားမာန်တက် နှုတ်မြွက်အာဘော်၊
ဝစီပြင်း ရှေးရင်းဝိပါက်တော်။

**မေး** - အဘယ်ကြောင့် ဂေါတမဘုရားရှင်သည် အလွန်ပင်ပန်းဆင်းရဲစွာ ဒုက္ကရစရိယာကို ၆-နှစ်ကြာအောင် ကျင့်တော်မူခဲ့ရပါလဲ။

**ဖြေ** - ကဿပဘုရားရှင်သည် ဒုက္ကရစရိယာကို ၆-ရက်သာကျင့်ရုံဖြင့် ဘုရားဖြစ်တော်မူပြီဟု ကြားသိရသောအခါ ဘုရားအလောင်းတော် ဇောတိပါလပုဏ္ဏားက "၆ ရက် လောက်ကျင့်ရုံနဲ့ ဘုရားဖြစ်သတဲ့။ ဒီလို လွယ်လွယ်လေးနဲ့ ဘုရားဖြစ်နိုင်တယ်ဆိုရင် ငါဟာ ၆ နှစ်အထိ ကျင့်နိုင်ပါတယ်" ဟု ပြောဆိုခဲ့သည့် ဝစီကံအပြစ်ကြောင့် ဒုက္ကရစရိယာ ၆-နှစ်တိုင်တိုင် ကျင့်တော်မူခဲ့ရခြင်း ဖြစ်ပါသည်။

## ဒုက္ကရစရိယာ ကျင့်တော်မူပုံ

**အလောင်း**တော် သိဒ္ဓတ္ထမင်းသားသည် မဟာသက္ကရာဇ် (၆၈) ခုနှစ် ကဆုန်လပြည့်နေ့၌ **လောကစည်းစိမ်**အရပ်ရပ်ကို စွန့်ပယ်တော်မူကာ တောထွက်တော်မူခဲ့သည်။

**လူသူမနီး**သော ဥရုဝေဠတောအုပ်ကြီးထဲ၌ ကိုယ်တော်တစ်ပါးတည်း တရားအားထုတ်တော်မူသည်။ တရားအားထုတ်ရာ၌ ကိုယ်နှင့်အသက်ကို မငဲ့ကွက်ဘဲ အဆင်းရဲခံကာ အလွန်ကြီးမားပြင်းထန်သော ဇွဲလုံ့လတို့ဖြင့် ပြင်းပြင်းထန်ထန် ကြိုးစားအားထုတ်တော်မူသည်။

စောစောပိုင်းက တစ်နေ့မှ ဆွမ်းတစ်ထပ်သာ ဘုဉ်းပေးတော်မူသည်။ နောက် ဆွမ်းကိုပယ်တော်မူပြီး သစ်သီးတစ်လုံးမျှသာ ဘုဉ်းပေးတော်မူသည်။ တဖန် တစ်နေ့လျှင် ဆွမ်းတစ်လုတ်မျှသာ ဘုဉ်းပေးတော်မူသည်။ တဖန် ဆွမ်းဘုဉ်းမပေးတော့ဘဲ ရေမျှသာ ဘုဉ်းပေးတော်မူသည်။ တဖန် အစားအသောက်အတွက်နှင့် တရားအလုပ်ပျက်သည်ဟု ယူဆကာ ရေကိုပင် **မသောက်**တော့ဘဲ ပြင်းထန်စွာ တရားကျင့်တော်မူသည်။

**လုံး၀ အစာမစား**တော့သဖြင့် တဖြည်းဖြည်း ပိန်ချုံးပြီး အရိုးပေါ်အရေတင်မျှဖြစ်ကာ ခွန်အားဗလ**ကုန်ခန်းပြီး စင်္ကြံဦး**မှာ လဲကျတော်မူရှာသည်။ သတိများမေ့ပြီး မြောနေရှာသည်။ အနားမှာ **ကူညီမည့်သူ**လည်း တစ်ယောက်မျှမရှိ။

ဘုရားအလောင်းတော်၏ ပြင်းထန်လွန်းသော အကျင့်တော်ကြောင့် သိကြားမင်း၏ ပဏ္ဍုကမ္ဗလာ မြကျောက်ဖျာသည် မနေနိုင်အောင် ပူပြင်းမာကျောလျက် သိကြားမင်းကို သတိပေးရတော့သည်။ သိကြားမင်းသည် အလွန်တရာ အိစက်ညက်ညော၍ ထိုင်လို့ကောင်းလှသော ပဏ္ဍုကမ္ဗလာမြကျောက်ဖျာ၏ ပူပြင်းမာတင်းနေမှုကြောင့် အရေးအခင်းကို စုံစမ်းထောက်လှမ်းကြည့်ရာ စောင်းတန်းဦး၌ အလောင်းတော် လဲကျပြီး မေ့မြောနေသည်ကို တွေ့မြင်ရတော့သည်။

သိကြားမင်းသည် လုပ်စရာရှိသမျှ နတ်အလုပ်ကိစ္စအားလုံးကို ပစ်ထားခဲ့ပြီး သုတ်သီးသုတ်ပျာဖြင့် မှာစရာရှိသည်များကိုပင် နတ်မိဖုရားများအား မမှာကြားနိုင်တော့ဘဲ လျှပြည်သို့ အမြန်ဆုံးစံချိန်ဖြင့် တစ်ရှိန်ထိုး ဆင်းခဲ့ရတော့သည်။ သိကြားမင်းသည် အလောင်းတော်၏ အနီး၌ စောင်းကလေး ရင်မှာပိုက်လို့ အလိုက်သင့် နေရာယူလိုက်ပြီး စောင်းကြိုးကို အတင်းဆုံးထားကာ တီးလိုက်သည်။ ဒေါင်-ဒေါင်-ဒေါင်-ဒေါင်ဟုမြည်ကာ စောင်းကြိုးသည် တင်းလွန်းသဖြင့် ပြတ်ရှာတော့သည်။ တဖန် စောင်းကြိုးကို ကပျာကယာဆက်ပြီး လျော့လျော့ထားကာ တီးလိုက်ပြန်သည်။ စောင်းသည် ဗတ်-ဗတ်-ဗတ်-ဗတ်ဟုသာ မြည်နေလေသည်။

**အလောင်းတော်** - အလောင်းတော်သည် စောင်းတီးခါနီး၌ သတိပြန်ရလာကာ စောင်းသံ





ဒုက္ကရစရိယာ ခြောက်နှစ်ပတ်လုံး ကျင့်ကြံရသည့်(ပထမဝိပါတ်တော်)
ဇောတိပါလပုဏ္ဏားဘဝတွင် ကဿပဘုရားအားနှုတ်ဖြင့် ပြစ်မှားခဲ့ခြင်း

နှစ်မျိုး၏အခြေအမြစ်ကို စဉ်းစားလျက် "အို....အမောင်စောင်းသမား၊ စောင်းကို ပထမတီးစဉ်ကတော့လည်း စောင်းကြိုးဟာ တင်းလွန်းသဖြင့် ဒေါင်-ဒေါင်-ဒေါင်-ဒေါင်ဟု မြည်ကာ ပြတ်သွားခဲ့တယ်။ နောက်ထပ် တီးပြန်တော့လည်း ဗတ်-ဗတ်-ဗတ်ဟုသာ မြည်ခဲ့တယ်။ စောင်းသံအမှန်ကို မရခဲ့ဘူး။ ဒါကြောင့် စောင်းကြိုးကို မလျော့လွန်း၊ မတင်းလွန်း အလယ်အလတ် မဇ္ဈိမပဋိပဒါထားပြီးတီးမှသာ စောင်းသံအမှန်ကို ရမှာပေါ့" ဟု သိကြားမင်းကို သင်တန်းပေးတော်မူသည်။

**သိကြားမင်း** - "အလောင်းတော်၏သင်တန်းပေးမှုမှာ အကျွန်ုပ်အတွက်မဟုတ်ဘဲ အလောင်းတော်အတွက်သာ ဖြစ်ပါသည်။ အလောင်းတော်၏ ယခုကျင့်ကြံမှုမှာ အလွန်တင်းလွန်းသဖြင့် တင်းလွန်းသော စောင်းကြိုးကဲ့သို့ ပြတ်မှာ (ကံတော်ကုန်မှာ) စိုးရိမ်ရပါသည်။ လျော့လျော့လေး ကျင့်နေရင်လည်း လျော့လွန်းသော စောင်းကြိုးကဲ့သို့ ပတ်မှာ (ဘုရားမဖြစ်ဘဲနေမှာ) စိုးရိမ်ရပါသည်။ သို့ပါ၍ မလျော့မတင်း စောင်းကြိုးညှင်းသကဲ့သို့ ကျင့်ကြံအားထုတ်တော်မူပါ" ဟု သိကြားမင်းက သတိပေးစကား လျှောက်ထားလေမှ အလောင်းတော်သည် မလျော့မတင်း မဇ္ဈိမပဋိပဒါလမ်းစဉ်ဖြင့် ကျင့်ကြံကြိုးကုတ်အားထုတ်ရာ ဘုရားအဖြစ်သို့ ရောက်တော်မူသည်။

* * *

## ဇောတိပါလဝတ္ထု

ကဿပဘုရားရှင်လက်ထက်တော်အခါက ဂေါတမဘုရားလောင်းသည် ဗြဟ္မဝုဓုန
မည်သောမြို့၌ ပုဏ္ဏားတစ်ဦး ဖြစ်ခဲ့ဖူးသည်။ သူ၏အမည်မှာ ဇောတိပါလ ဖြစ်သည်။
ဗာရာဏသီပြည့်ရှင် ကိကီမင်းကြီး၏သားတော် ကဿပမင်းသားသည် တောထွက်
တော်မူ၍ ဒုက္ကရစရိယာ ၆ ရက်မျှကျင့်တော်မူပြီး ဘုရားအဖြစ်သို့ ရောက်တော်မူသည်။
ဗြဟ္မဝုဓုနမြို့၌ 'ကဿပဘုရား ပွင့်တော်မူပြီ၊ ကဿပဘုရား ပွင့်တော်မူပြီ' ဟု
ဟိုးလေးတကျော် အုတ်အော်သောင်းတင်း သတင်းစကားပြောသံသည် ဆူညံ၍နေတော့သည်။
ဇောတိပါလပုဏ္ဏားက ဗုဒ္ဓဝါဒနှင့် ဆန့်ကျင်ဘက်ကျသော ဝါဒများကို ရင်ဝယ်ပိုက်ထားသူ
ဖြစ်သည်။ ကဿပဘုရားရှင်၏ တန်ခိုးကြီးမားကျယ်ပျံ့မှုကို နည်းနည်းလေးမှ မရှုစိမ့်နိုင်။
သို့ဖြစ်၍ 'အလကားပါ၊ ဗေဒင်သုံးပုံကို သင်ယူရတာတောင်မှ ၁၀ နှစ်၊ ၁၅ နှစ်ကြာမှ
တတ်တာ။ ဘုရားဖြစ်ဖို့ဆိုရင်တော့ မပြောနဲ့တော့။ အခုတော့ ၆ ရက်မျှကျင့်ရုံနဲ့ ဘုရား
ဖြစ်သတဲ့။ ဒီလိုသာ လွယ်လွယ်လေးနဲ့ ဘုရားဖြစ်နိုင်တယ်ဆိုရင် ငါတို့တော့ ၆ နှစ်တောင်

ကျင့်နိုင်ပါရဲ့'' ဟု ဘုရား၏ဂုဏ်ကို သေးသိမ်အောင်၊ ဘုရားကို အကြည်ညိုနည်းသွားအောင် သွားပုပ်လေလွင့် ပြောဆိုတော့သည်။

သို့သော် ကဿပဘုရား၏ ဂုဏ်တော်၊ တန်ခိုးတော်တို့ကား သေးသိမ်မှေးမှိန်သွားမှု လုံးဝ မရှိရုံမျှမက တစ်နေ့တခြား ကြီးမားကျယ်ပြန့်၍ နယ်အနှံ့ကို ဖြန့်အုပ်လျက် ရှိလေသည်။ ဗုဒ္ဓဘာသာဝင် လူထုကြီးတစ်ရပ်လုံးကလည်း 'ဇောတိပါလလို လူယုတ်မာတစ်ဦးက ဘုရားရှင်ရဲ့ဘုန်းတန်ခိုးကို ချိုးနှိမ်လို့ဘယ်ရမလဲ။ ဇောတိပါလတော့ သနားစရာ သိပ်ကောင်းပါတယ်။ ဘုရားဂိုဏ်းသင့်တာ ငရဲကျပြီးတော့ ဘဝအဆက်ဆက် ဒုက္ခရောက်ရှာတော့မှာပဲ။ အတော်မိုက်မဲတဲ့ ဇောတိပါလပဲ။ ဘုရားကိုများ သူမို့ ပြစ်မှားရဲတယ်'' စသည်ဖြင့် အုံကြွပေါက်ကွဲပြီး အနည်းနည်းအဖုံဖုံ ပြောဆိုနေကြတော့သည်။

ဇောတိပါလပုဏ္ဏားသည် အကြောက်ကြီးကြောက်၊ အလန့်ကြီးလန့်နေရှာလေပြီ။ ဘုရားမှ တစ်ပါး ကိုးကွယ်ရာမရှိရှာတော့။ ပုဏ္ဏားဝါဒအားလုံးကို စွန့်လွှတ်ပြီး ဘုရားဝါဒကို ခံယူကာ ဘုရားရှင်ထံ အမြန်ဆုံးသွားပြီး ရဟန်းပြုရှာတော့သည်။ တရားအကျင့်ကို ကြိုးကြိုးစားစား ကျင့်ရှာတော့သည်။

ကဿပဘုရားရှင်သည် ဇောတိပါလရဟန်းတော်ကို 'နောင်တစ်ချိန်၌ ဘုရားဖြစ်လိမ့်ဦးမည်'' ဟု ဗျာဒိတ်ပေးတော်မူသည်။ သို့သော် နောင်တရမှုကား နောက်ကျခဲ့လေပြီ။ ဘုရားဂိုဏ်းကား သင့်ခဲ့လေပြီ။

သို့ဖြစ်၍ ဂေါတမဘုရားအလောင်းတော်သည် ဒုက္ကရစရိယာကို ၆ နှစ်ကြာအောင် ကျင့်တော်မူရခြင်း ဖြစ်သည်။



## ဒုတိယ ဝိပါက်တော်

စိဉ္စမာဏ မိန်းမစေကျွန်၊
ကိုယ်ဝန်ရှိသော ဆိုပြောအလွန်၊
လက်သည်ထားလို့ ဘုရားကိုညွှန်
စွပ်စွဲခဲ့ အဘယ့်ဝိပါက်ဝန်။
သောက်စားလွန်ကျူး ယစ်မူးပျော်ရွှင်
သေသောက်သမား ဖြစ်ကြွေးယခင်၊
ရဟန္တာမြတ် ဆွမ်းရပ်သည်မြင်၊
အကျင့်ယုတ် ဖွင့်ထုတ်စွပ်စွဲအင်။

**မေး** - စိဉ္စမာဏ မိန်းမယုတ်က ကိုယ်ဝန်ကိုပြပြီး ပရိတ်သတ်အလယ်မှာ ဘုရားရှင်ကို လက်သည်ပါပဲလို့ အစွပ်စွဲခံရခြင်းမှာ အဘယ့်ကြောင့်ပါလဲ။

**ဖြေ** - ဂေါတမဘုရားအလောင်းတော်သည် နုစဉ်အခါက ဗာရာဏသီပြည်တွင် ဆင်းရဲသား အရက်သမားတစ်ဦး ဖြစ်ခဲ့ဖူးသည်။ တစ်နေ့သောအခါ ဆွမ်းခံရပ်နေသော ရဟန္တာမြတ်တစ်ပါးကို အရက်မူးပြီး အမျိုးမျိုး ကဲ့ရဲ့စွပ်စွဲ ဆဲရေးတိုင်းထွာခဲ့သည်။ ထို့ကြောင့် စိဉ္စမာဏ မိန်းမယုတ်၏အစွပ်စွဲကို ခံတော်မူရသည်။

## စိဋ္ဌမာဏာ စွပ်စွဲပုံ

ဂေါတမဘုရားရှင်သည် သာဝတ္ထိပြည်မှန် ဇေတဝန်ကျောင်းတော်၌ သီတင်းသုံးနေထိုင်တော်မူသည်။ မြို့သူမြို့သားများသည် နေ့ရောညပါ အခါမလပ် ဘုရားရှင်ထံ ဆည်းကပ်ခစားကြသည်။ တရားနာကြသည်။ ဆွမ်းကျွေးအလှူပေးကြသည်။ ဇေတဝန်ကျောင်းတော်သည် လူသူလေးပါးတို့ဖြင့် အထူးပင် စည်ကားလှတော့သည်။

တိတ္ထိဆရာကြီးများမှာ လာဘ်လာဘနည်းသည်ထက် နည်းရှာကြတော့သည်။ လာဘ်လာဘပေါများလှသော ဂေါတမဘုရားရှင်ကို မနာလိုမရှုစိမ့်တော့ပြီ။ သူတို့ကို ကြည်ညိုမြဲကြသော ဒါယကာ၊ ဒါယိကာမများလည်း ဘုရားနောက်သို့ ပါကုန်ကြလေပြီ။ သူတို့သည် ယခင်ကလို အေးအေးဆေးဆေး မနေနိုင်ကြတော့ဘဲ ထိပ်သီးခေါင်းဆောင် တိတ္ထိဆရာကြီးများသည် တံခါးပိတ်၍ အထူးအစည်းအဝေးတစ်ရပ်ကို အမြန်ဆုံးကျင်းပကြတော့သည်။

**ဥက္ကဋ္ဌ**-

"အားလုံး သိကြတဲ့အတိုင်း ဂေါတမဘုရားတော့ သိပ်တန်ခိုးတောက်နေပြီ။ ဂေါတမကို သာဝတ္ထိပြည်က ထွက်ပြေးရအောင် တို့ မလုပ်နိုင်ရင်တော့ တို့တော့ ချောက်ပဲ။ အဲဒီတော့ ဒီအစည်းအဝေးမှာ ဂေါတမ သာဝတ္ထိပြည်ကထွက်သွားအောင် လုပ်နိုင်တဲ့နည်းလမ်းကို အစွမ်းကုန် တင်ပြဆွေးနွေးကြစေလိုပါတယ်"

**အတွင်းရေးမှူး**-

"ဒါကတော့ လွယ်ပါတယ်။ တို့ကို သိပ်ကြည်ညိုနေတဲ့ စိဋ္ဌမာဏာကို ခေါ်ပြီး ဘုရားရှင်ကို စွပ်စွဲလိုက်ရင် လူထုကြီးတစ်ရပ်လုံးက ဂေါတမကို ကြည်ညိုကြတော့မှာ မဟုတ်ဘူး။ စိဋ္ဌမာဏာဟာ အကျင့်သိက္ခာကောင်းတယ်။ မမှန်မကန်မလုပ်တူးလို့ သာဝတ္ထိတစ်မြို့လုံးက သိပါတယ်"

**အဖွဲ့ဝင်တစ်ဦး**-

"ဒီအကြံ သိပ်ကောင်းပါတယ်"

**ဆုံးဖြတ်ချက်**-လူထုပရိသတ်အလယ်မှာ တရားဟောနေတုန်း စိဋ္ဌမာဏာကို ကိုယ်ဝန်ရှိဟန်ဆောင်ပြီး စွပ်စွဲနိုင်းဖို့ အများသဘောတူ ဆုံးဖြတ်လိုက်ကြသည်။

ဆုံးဖြတ်ချက်အတိုင်း ငွေကြေးအမြောက်အမြားပေးပြီး စိဋ္ဌမာဏာကို စေခိုင်းလိုက်ကြတော့သည်။





စိဉ္စမာဏာက ကိုယ်ဝန်ရှိဟန်ဖြင့် မြတ်စွာဘုရားအား စွပ်စွဲသည့် (ဒုတိယဝိပါတ်တော်)
ရှေးနှစဉ်အခါက ရဟန္တာမြတ်ကို အကျင့်ယုတ်ဟု စွပ်စွဲခြင်း

တစ်နေ့သောအခါ ဇေတဝန်ကျောင်းတော်ကြီးအတွင်းမှာ ဘုရားရှင်သည် အလွန်စည်ကားလှသော ပရိသတ်လေးပါးအလယ်၌ ရောင်ခြည်တော်ခြောက်သွယ်ဖြင့် အလွန်တင့်တယ်သပ္ပါယ်လှစွာ တရားဟောတော်မူနေသည်။ ပရိသတ်ကြီးမှာ အထူးပင် ငြိမ်သက်စွာ တရားနာနေကြလေသည်။ ထိုစဉ်အခိုက် စိဥ္စမာဏ မိန်းမယုတ်က ကိုယ်လေးလက်ဝန်ရှိဟန် သစ်သားခေါက်ကို ကြိုးနှင့်ဖောက်ချည်ပြီး ကော့ကော့ကော့ကော့နှင့် ပရိသတ်အတွင်း မင်းလမ်းမအတိုင်း ဘုရားရှင်ဘက်သို့ ဟန်ပါပါနှင့် ဝင်လာတော့သည်။

ဘုရားအနားလည်းရောက်ရော ရဲရင့်တည်ငြိမ်တဲ့အမူအရာနဲ့ ပြောဆိုစွပ်စွဲတော့သည်။

**စိဥ္စမာဏ**- "အို…ဂေါတမ ရဟန်းကြီး…သင်ကတော့ အေးအေးဆေးဆေးနဲ့ အသံလေးသာသာယာယာနဲ့ တရားဟောလို့ သိပ်ကောင်းနေတာပေါ့။ ကျွန်မမှာတော့ ကိုယ်လေးလက်ဝန်ကြီးနဲ့ အလုပ်ကလည်း မအားရဘူး။ အခု နေ့စေ့လစေ့ အချိန်ရောက်နေပြီ။ သင့်နားမှာ တရားနာနေတဲ့ အနာထပိဏ်သူဌေးကြီး၊ ကောသလမင်းကြီးများကို မီးဖွားရေးအတွက် စောင့်ရှောက်ပေးဖို့ ပြောပေးပါလား"

စိဥ္စမာဏက ပြင်းပြင်းထန်ထန် ပြောဆိုစွပ်စွဲနေလေပြီ။ တရားနာသူများက အသံလာရာဘက်သို့ လှမ်းကြည့်ကြသောအခါ ကိုယ်လေးလက်ဝန်ကြီးနှင့် စိဥ္စမာဏကို တွေ့မြင်နေကြရပြီ။ ဘုရားရှင်၏ တရားသံလည်း ပြတ်စဲခဲ့ပြီ။ ဘုရားရှင်ဘက်သို့ ကြည့်ကြပြန်သောအခါ ဆိတ်ငြိမ်စွာထိုင်နေသော ဘုရားရှင်ကို တွေ့မြင်ကြရသဖြင့် တရားနာပရိသတ်မှာ အထူးပင် တအံ့တဩ ဖြစ်နေကြတော့သည်။ တချို့ကလည်း 'ကျိန်းသေဟုတ်နေလို့ အသာငြိမ်နေတာဖြစ်မှာပါ။ မဟုတ်ရင် ဘယ် ဒီလိုနေမလဲ' ဟု တီးတိုးစကား ပြောနေကြတော့သည်။ တချို့ကလည်း ပရိသတ်ကြီးကလည်း ဟုတ်များနေမလားဆိုပြီး သံသယဖြစ်နေကြတယ်။ သူတို့ မဝေခွဲနိုင်ကြဘူး။ တကယ်တော့လည်း ဒီကိစ္စကို သင်နှင့်ငါသာ အသိဆုံးပါ"

ဘုရားရှင် - "အို…စိဥ္စမာဏ လူထုရှေ့မှောက်မှာ သင် လာပြီးစွပ်စွဲပြောဆိုခဲ့တယ်။

**စိဥ္စမာဏ** - "အို…ရဟန်းကြီးဂေါတမ ဒီစကားကိုပြောဖို့ကို မလိုတော့ဘူး။ စောစောကတော့ ရှက်လို့ဖုံးထားခဲ့တယ်။ အခုတော့ အရှက်ကို အသက်နဲ့လဲရမယ့်ကိန်းရောက်နေလို့ လူသိရှင်ကြားဘဝ အထုပ်ကြီးကို ဖြည်ပြရခြင်းပဲ။ တောပြောတောင်ပြော ပြောမနေနဲ့။ အခုပဲ ပလ္လင်ပေါ်ကဆင်းပြီး လိုက်ခဲ့ပါ။ မလိုက်ရင် သင် ပိုပြီး အရှက်တကွဲအကျိုးနဲ့ဖြစ်ရလိမ့်မယ်"

ထိုအခါ လူထုကြီးမှာ မီး ရေနဲ့သတ်လိုက်သလို ငြိမ်ကျသွားသည်။ တချို့လည်း ကြက်သီးမွေးညင်း တဖြန်းဖြန်းထနေကြသည်။ အထူးပင် ဆန်းပြားနေသော ဖြစ်ရပ်တစ်ခုနှင့်

ကြဲ့နေကြရသည်။ ဘုရားရှင်နားမှာ ကျုံ့ကျုံ့ကလေး ထိုင်နေကြတဲ့ ကောသလမင်းကြီး အနာထပိဏ်သူဌေးကြီး စတဲ့အထက်တန်းလွှာများလည်း ကြက်သီးမွေးညင်းထကာ ဘာလုပ်ရ ဘာကိုင်ရမှန်းမသိ ဖြစ်နေကြလေသည်။

## လူမင်းဘုန်းကြီး နတ်မင်းမနေသာ

ထိုအခိုက် သိကြားမင်းသည် ပဏ္ဍုကမ္ဗလာမြကျောက်ဖျာ တင်းမာပူပြင်းမှုကြောင့် လူ့ပြည်သို့ သုတေသနပြုလိုက်ရာ ဘုရားရှင်နှင့် စိဉ္စမာဏတို့၏ ဖြစ်ကြောင်းရယ်မှကုန်စင် တွေ့မြင်ရှုစားရ၍ အနီးရှိ နတ်သားလေးယောက်ကိုခေါ်ကာ လူ့ပြည်သို့ အမြန်ဆုံး ခရီးနှင် ကြရတော့သည်။

လူ့ပြည် ဘုရားရှင်အနီးသို့ရောက်လျှင် သိကြားမင်းက ကိုယ်တိုင် ကြွက်ယောင်ဆော၍ စိဉ္စမာဏခါးမှာ ချည်ထားသောကြိုးကို ကိုက်ဖြတ်လိုက်တော့သည်။ နတ်သားလေးယောက က လေခပ်ပြင်းပြင်းတိုက်အောင် လုပ်လိုက်ရာ ကိုယ်ဝန်ဟန်ဆောင်ထားသော သစ်ခွံကြီး သည် 'ဂလောင်'ခနဲ မြည်ကာ စိဉ္စမာဏ ခြေဖမိုးနှစ်ဖက်ပေါ်သို့ ပြုတ်ကျလေတော့သည်။ စိဉ္စမာဏမိန်းမယုတ်၏ ခြေနှစ်ဖက်မှာ ပြင်းထန်စွာ အနာတရ ဖြစ်တော့သည်။

ထိုအခါ စိဉ္စမာဏ၏ ယုတ်မာသောအကြံကို ပရိသတ်ကြီး သိကြရပြီဖြစ်၍-

"ဟဲ့...အယုတ်တမာမ၊ ငါတို့ရဲ့ အတုမဲ့ဘုရားရှင်ကို မဟုတ်မတရား စွပ်စွဲရသလား နင့်ထက် ယုတ်မာသူ လောကမှာ ရှိသေးရဲ့လား" စသည်ဖြင့် အမျိုးမျိုး ပြောဆိုကြပြီ ဇေတဝန်ကျောင်းတော်၏အပြင်ဘက်သို့ ဆွဲထုတ်ပစ်လိုက်ကြတော့သည်။

## စိဉ္စမာဏမြေမျို

စိဉ္စမာဏမိန်းမယုတ်သည် ဘုန်းတော်အနန္တ၊ ကံတော်အနန္တ၊ ဉာဏ်တော်အနန္တ၊ တန်ခိုး တော်အနန္တတို့နှင့် ပြည့်စုံတော်မူသော ဘုရားမြတ်စွာကို ယုတ်ယုတ်မာမာ မဟုတ်မတရား ပြောဆိုစွပ်စွဲသဖြင့် ဇေတဝန်ကျောင်းတော်၏ အပြင်ဘက်သို့ ရောက်ရောက်ချင်း နှစ်သိန်း လေးသောင်းအထုရှိသော မဟာပထဝီမြေကြီးသည် (ကြီးမားလေးလံလှတဲ့ မြင်းမိုရ်တောင် ကြီးများ သူ့အပေါ်မှာ တင်ထားနိုင်သည်။ အလွန်ရွံဖွယ်ကောင်းသော မစင်ပုပ်များကိုလည်း မရွံမရှာ သူ့အပေါ်မှာ တင်ထားနိုင်သည်။) ဘုရားရှင်ကို ပြစ်မှားသော စိဉ္စမာဏ မိန်းမယုတ် ကိုတော့ သူ့အပေါ်မှာ တင်မထားနိုင်တော့ပြီ။ မြေကြီးနှစ်ခြမ်းကွဲ၍ အဝီစိငရဲကြီးမှ မီးတောက် မီးလျှံများတက်လာကာ စိဉ္စမာဏ မိန်းမယုတ်ကို အဝီစိငရဲသို့ ဆွဲယူခေါ်သွားကြတော့သည်။ (စိဉ္စမာဏသည် မြေမျိုပြီး ယခုတိုင် အဝီစိငရဲမှာ ခံရတုန်းပင် ဖြစ်သည်။)

## အရက်သမားဝတ္ထု

ရှေးအခါက ဘုရားအလောင်းတော်သည် ဗာရာဏသီပြည်တွင် အလွန်ဆင်းရဲသောအမျိုး၌ ပဋိသန္ဓေနေကာ ဖွားမြင်ပြီးနောက် လူလားမြောက်ချိန်ဝယ် အတတ်ပညာ မသင်ခဲ့ရခြင်း၊ ပတ်ဝန်းကျင်အသိုင်းအဝိုင်း အပေါင်းအသင်းမကောင်းခြင်းတို့ကြောင့် မိုးမလင်းအောင် သောက်စားသော အရက်သမားဘဝသို့ လှလှကြီးရောက်ရလေတော့သည်။

## ရဟန္တာကို ပြစ်မှားခြင်း

တစ်နေ့သောအခါ ဘုရားအလောင်း အရက်သမားသည် ဆွမ်းခံရပ်နေသော ရဟန္တာမြတ် ရှင်အာနန္ဒကိုမြင်လျှင်-

"သပိတ်ကလေးပိုက်ပြီး အမြဲတောင်းစားနေတဲ့ အို...ဖိုးကတုံး၊ သင်ဟာ သူများလို ခြေလက်အင်္ဂါစုံလင်ပါလျက် ဘာကြောင့် လုပ်ကိုင်မစားချင်ဘဲ အချောင် တောင်းစားနေချင်ရတာလဲ။ သက်သက် သူတစ်ပါးအပေါ် အညွှန့်ချိုးစားပြီး အချောင်တောင်းစားနေတယ်ဆိုတာ ဘယ်ကောင်းမလဲ၊ ကိုယ်ကျင့်သီလဆိုလို့လည်း မြူမျှပင်မရှိဘဲနဲ့ သိပ်ရှက်ဖို့ကောင်းတာပဲ" ဟ မူးမူးရူးရူးနှင့် ပြောဆိုစွပ်စွဲဆဲရေးတော့သည်။

## အရက်သမား ငရဲလားခြင်း

ဘုရားအလောင်း အရက်သမား သေလွန်သောအခါ၌ အမြဲသောက်စားသောအပြစ်၊ ရဟန္တာမြတ်ကို စွပ်စွဲဆဲရေးသောအပြစ်၊ ရဟန္တာမြတ်၏လာဘ်လာဘကို ပိတ်ပင်သောအပြစ်တို့ကြောင့် ငရဲသို့ ဒုတ်ဒုတ်ကျရောက်ရရှာတော့သည်။

ငရဲက လွတ်လာပြီးနောက် လူ့ဘဝ၊ နတ်ဘဝ အမျိုးမျိုးတို့၌လည်း သူတစ်ပါးတို့၏ မတရားစွပ်စွဲဆဲရေးမှုကို အကြိမ်ကြိမ် ခံရရှာသည်။

## နောက်ဆုံးဘဝ အစွပ်စွဲခံရ

နောက်ဆုံး ဂေါတမဘုရားဖြစ်သောအခါ၌လည်း အာနန္ဒအမည်ရှိသော ရဟန္တာမြတ်ကို စွပ်စွဲဆဲရေးခဲ့သော အကုသိုလ်ပြစ်ချက်သည် ပျောက်ပျက်မသွားသေးဘဲ စိဉ္စမာဏဝိကာမယုတ်၏ စွပ်စွဲဖျက်ဆီးမှုကို ခံယူတော်မူရရှာပါသည်။

ဒုတိယဝိပါက်တော် ပြီး၏။



## တတိယဝိပါက်တော်

တိတ္တိစေခိုင်း မိုက်ရိုင်းဒုဿီ၊
ထင်ယောင်ထင်မှား ပြုပြားသုန္ဒရီ၊
လူရှင်အပေါင်း ယုံကြောင်းပွေလီ၊
ရှင်တော်ထွက် ဘယ်ဝဋ်ရှေးကမှီ။

မုနာဠိဟု မည်ရှိလောင်းတော်၊
သောက်စားမောက်ကြွား မှောက်မှားရှင်ပျော်၊
ရှင်ပစ္စေက ဗုဒ္ဓမြင်သော်၊
ဒုဿီပဲ စွပ်စွဲဝဋ်ကြွေးပေါ်။

**မေး** - တစ်နေ့သောအခါ 'ဘုရားရှင်ဟာ သူ့လင်ပါပဲ' လို့ သုန္ဒရီမိန်းမယုတ်က စွပ်စွဲခဲ့ဖူးတယ်။ ဒီလိုစွပ်စွဲခံရတာဟာ ဘယ်တုန်းကပြုခဲ့လို့ ခံရတဲ့အကျိုးဝိပါက်လဲ ရှင်းပြပါ။

**ဖြေ** - ဘုရားအလောင်းတော်သည် 'မုနာဠိ' အမည်ရှိသော အရက်သမားဖြစ်စဉ်အခါက ဆွမ်းခံရပ်နေသော 'သုရဘိ' အမည်ရှိသော ရှင်ပစ္စေကဗုဒ္ဓါကို 'အချောင်သမား ဒုဿီလ ရဟန်းပဲ' ဟု စွပ်စွဲဆဲရေးခဲ့ဖူးလို့ ဖြစ်ပါတယ်။






သုန္ဒရီက မြန်စွာဘုရားအားစွပ်စွဲ၍ လူအပေါင်းအထင်မှားခံရသည့်(တတိယဝိပါက်တော်)
မုနာဠ္ဌအရက်သမားဘဝက ရှင်ပစ္စေကဗုဒ္ဓါအား ဒုဿီလဟု စွပ်စွဲပြောဆိုခဲ့ခြင်း

## သုန္ဒရီမဝတ္ထု

အခါတစ်ပါး၌ ဘုရားရှင်သည် သာဝတ္ထိပြည်မွှန် ဇေတဝန်ကျောင်းတော်၌ ကိန်းအောင်း မွေ့လျော် သီတင်းသုံးတော်မူစဉ် သာဝတ္ထိပြည်နှင့် ပတ်ဝန်းကျင်တစ်ဝိုက်၌ နေထိုင်ကြသော တိတ္ထိဆရာကြီးများမှာ ဘုရားတန်ခိုးတော်ကြောင့် လာဘ်လာဘနည်းပါးကာ ငတ်တစ်လှည့် ပြတ်တစ်လှည့် ဖြစ်ကြရပါသည်။ ထို့ကြောင့် သူတို့ကို အမြဲကြည်ညိုလေးစားနေသော တပည့်မ သုန္ဒရီကို ခေါ်ကာ-

"သုန္ဒရီ…ဂေါတမရဟန်းကြီးဟာ သိပ်ဘုန်းကြီးနေတယ်။ လာဘ်လာဘကလည်း သိပ်ပေါများနေတယ်။ သူရောက်လာတဲ့အချိန်ကစပြီး တို့ဟာ လာဘ်လာဘ ကြာလေနည်းပါး လေဖြစ်နေရတယ်။ ဒီတော့ သင် မိန်းမမာယာ သဲကိုးဖြာကို အိတ်သွန်ဖာမှောက် အစွမ်းကုန် အသုံးချပြီး ရဟန်းကြီးဂေါတမကို သာဝတ္ထိပြည်က ပြေးရအောင်လုပ်ပေတော့။ တာဝန်ယူ တယ်မို့လား" ဟု ဝိုင်းအုံပြောကြတော့သည်။

သုန္ဒရီမိန်းမယုတ်ကလည်း 'အာမဘန္တေ' ခံခဲ့ပြီး ဉာဏ်နီဉာဏ်နက်သာမက ဉာဏ် ရောင်စုံကိုပါ အသုံးချပြီး ကြံစည်ခဲ့ပေသည်။

တစ်နေ့တော့ အကြံရကာ ညနေမှောင်ရီရီအချိန်ကလေးမှာ ဘုရားရှင် သီတင်းသုံးတော် မူရာ ဇေတဝန်ကျောင်းတော်ထဲဝင်ပြီး အဆင်ပြေတဲ့ တစ်နေရာမှာအိပ်ကာ မနက်စောစော ထပြီး ဇေတဝန်ကျောင်းထဲက ထွက်လာခဲ့သည်။ သူ့ကိုမြင်သူများက "ဘယ်ကပြန်လာသလဲ" မေးကြသည်။

သုန္ဒရီမိန်းမယုတ်က-

"အို…ဘယ်ကလာရမှာလဲ၊ ဇေတဝန်ကျောင်းတော်ထဲကလာတာ မတွေ့ဘူးလား။ ဂေါတမဘုရားနဲ့ အတူတူအိပ်ပြီး ပြန်ခဲ့တာပါ။ ဂေါတမဘုရားဟာ ကျွန်မယောကျ်ားပေါ့။ ရှင်တို့ မသိကြဘူးလား" တဲ့။

ဒီသတင်းဟာ မကောင်းသတင်းဖြစ်လေတော့ ခဏချင်း ပျံ့နှံ့သွားတော့သည်။

တိတ္ထိတွေကလည်း "သိပ်အဆင်ပြေတာပဲ၊ ဂေါတမတော့ သာဝတ္ထိပြည်က ပြေးရ တော့မယ်" တဲ့။

တိတ္ထိတပည့်တွေက "သုန္ဒရီမရဲ့ အမှတ်မထင် ကြိုးစားအောင်မြင်ချက်ဟာ သိပ်ချီးမွမ်း ထိုက်ပါတယ်။ ဂေါတမရဟန်းကြီးတော့ ဒီတစ်ခါ ဒုက္ခလှလှကြီး ရောက်ရမှာမလွဲပါဘူး" တဲ့။

ဘာသာရေး နားမလည်သူများက-

"ဟုတ်များဟုတ်မလား မသိဘူး။ ဟိုးလေးတကျော်တော့ ဖြစ်နေတာပဲ။ ရှေ့ဆက်ပြီး နားထောင်ကြည့်ကြသေးတာပေါ့" တဲ့။

လူမိုက်များကတော့-

"မဟုတ်ဘဲနဲ့တော့ ဘယ်ပြောကြမလဲ။ ဟုတ်လို့ပြောကြတာပဲဖြစ်မှာပေါ့။ မပုပ်ရင် မပေါ်ဘူး၊ မဟုတ်ရင် မကျော်ဘူးဆိုတဲ့စကားအတိုင်းပေါ့" တဲ့။

ပညာရှိများကတော့-

"အရင်တစ်ကြိမ်ကလည်း စိဉ္စမာဏာမိန်းမယုတ်က မဟုတ်မတရား စွပ်စွဲဖူးပြီး အခု လည်း သုန္ဒရီမိန်းမယုတ်က မဟုတ်မတရား စွပ်စွဲခြင်းသာ ဖြစ်ပါတယ်။ တော်တော်ယုတ်မာ တဲ့ မိန်းမ၊ ကိလေသာ အာသဝေါကုန်ပြီးတဲ့ ဘုရားရှင်ကို သူ့လင်လို့ စွပ်စွဲတယ်။ သိပ်မိုက် တဲ့မိန်းမပဲ။ သနားပါတယ်။ ဘုရား၊ တရား၊ သံဃာကို ပြစ်မှားတယ်ဆိုတာ သိပ်အပြစ် ကြီးတာပဲ။ ဆူးပေါ်ဖက်ကျလည်း ဖက်ပဲပေါက်တာပဲ။ ဖက်ပေါ်ဆူးကျလည်း ဖက်ပဲပေါက် တာပဲ။ မိုက်လိုက်ပါဘိတော့" တဲ့။

ဤကဲ့သို့ အမျိုးမျိုးအဖုံဖုံ ဂယက်ရိုက်စေခဲ့သော်လည်း နောက်ဆုံး၌ သုန္ဒရီမ၏လိမ်လည် ချက်မှာ ကွက်ကွက်ကွင်းကွင်း ပေါ်လာလေတော့သည်။

## မုနာဠိဝတ္ထု

လွန်လေပြီးသောအခါ ဘုရားအလောင်းတော်သည် မုနာဠိအမည်ရှိသော အရက်သမား ဖြစ်ခဲ့ဖူးရာ-

တစ်နေ့မှာ ဆွမ်းခံကြွနေသော သုရတိအမည်ရှိသော ပစ္စေကဗုဒ္ဓါကို လက်ညှိုးထိုးပြီး-

"သူ့အကြောင်း သိပ်သိတာပေါ့။ သူ့ကျောင်းမှာ မိန်းမတွေနဲ့ ပျော်ကာပါးကာ နေချင် သလိုနေပြီး အချိန်တန်တော့မှ သပိတ်လေးပိုက်၊ သင်္ကန်းလေးရုံ၊ စက္ခုန္ဒြေလေးချ၊ ဣန္ဒြေရရ နဲ့လိုက်တောင်း၊ မသိတဲ့လူတွေက ပေးကြကမ်းကြနဲ့၊ ဒီလို အလဇ္ဇီဒုဿီလပါပ ရဟန်းမျိုးကို မပေးကြ၊ မကမ်းကြနဲ့" ဟု ကဲ့ရဲ့ရှုတ်ချတော့သည်။

အရက်သမား မုနာဠိသည် ရှင်ပစ္စေကဗုဒ္ဓါကို စွပ်စွဲရှုတ်ချခဲ့သည့်အတွက် သေသည့်အခါ အဝီစိငရဲသို့ ကျရောက်ရှာတော့သည်။ အဝီစိငရဲမှ လွတ်လာပြီး လူနတ်ဘဝ အမျိုးမျိုးမှာ လည်း သူတစ်ပါးတို့၏ မတရားကဲ့ရဲ့ရှုတ်ချမှုကို အကြိမ်ကြိမ် ခံယူခဲ့ရသည်။ နောက်ဆုံး ဘုရားဖြစ်တဲ့အခါမှာလည်း သုန္ဒရီမိန်းမယုတ်၏ မဟုတ်မတရား စွပ်စွဲမှုကို ခံရလေသည်။

တတိယဝိပါက်တော် ပြီး၏။

## စတုတ္ထဝိပါက်တော်

သုန္ဒရီမိုက် သတ်လိုက်သေရာ၊
တိတ္ထိအင်း သတင်းလွှင့်ကာ၊
တပည့်များနှင့် ဘုရားကိုသာ၊
လူအများ ယုံမှားဘယ်တွက်တာ။
လောင်းတော်ရသေ့ ပျော်မွေ့စံရာ၊
ရသေ့တစ်ဦး ချာန်မြူးကွန့်လာ၊
မြူစိတ်ထား ပွားများလ္လသာ၊
အကျင့်ယုတ် ဖွင့်ထုတ်ခဲ့ပြစ်ပါ။

ဇေတဝန်ကျောင်းတော်၏ တံခါးမုခ်အနီး ပန်းပင်များ
မေး - မသုန္ဒရီကိုသတ်ပြီး ဘုရားရှင်နှင့်ရဟန်းတော်များ သတ်တာဖြစ်
ကြားထဲ၌ ပစ်ထားကြသည်။ အလောင်းတွေ့တော့ ဘာ့ကြောင့် အစွပ်စွဲခံရခြင်း ဖြစ်ပါသလဲ။
ရမယ်ဟု တိတ္ထိများက စွပ်စွဲကြသည်။

**ဖြေ** - ရှေးတုန်းက ဘုရားအလောင်းတော်သည် ဈာန်မရသော ရသေ့တစ်ပါး ဖြစ်ခဲ့ဖူးသည်။ သူ့အနားမှာ ဈာန်ရ ရသေ့တစ်ပါး ကောင်းကင်မှ ဈာန်ပျံလာနေစဉ် ဈာန်မရသော ဘုရားအလောင်းရသေ့က ကိုယ့်ထက်သာ မနာလိုဖြစ်ကာ အဘိဇ္ဈာဗ္ဗာသော မစ္ဆရိယ ပွားပြီး "အဲ...ဟိုရသေ့အကြောင်းတော့ ကောင်းကောင်းသိပါတယ်၊ သူဟာ အကျင့် သိပ်ယုတ် တာပဲ။ ဒီလိုအကျင့်ယုတ်ကို ကိုးကွယ်လို့တော့ အကျိုးမရှိပါဘူး။ အပြစ်ပဲရှိမှာပဲ" ဟု ကဲ့ရဲ့ရှုတ်ချတော့သည်။ ထို့ကြောင့် အစွပ်စွဲခံရခြင်းပင် ဖြစ်ပါသည်။

## မသုန္ဒရီဝတ္ထု

သုန္ဒရီအမျိုးသမီးမှာ ဘုရားလက်ထက်တော်က သာဝတ္ထိပြည်သူ အမျိုးသမီးတစ်ယောက် ဖြစ်၏။ သူမသည် မြတ်စွာဘုရား သာဝတ္ထိပြည်သို့ မကြွလာခင်အချိန်က တိတ္ထိဆရာကြီး များကို လေးစားကြည်ညိုသူ ဖြစ်၏။ တိတ္ထိဆရာကြီးများ၏ တပည့်ရင်းချာပင် ဖြစ်တော့ သည်။ သူ့ဆရာတိတ္ထိကြီးများ၏ ခိုင်းစေချက်ဖြင့် ဘုရားရှင်ကို သူ့လင်ပါဟု ရဲရဲတင်းတင်း စွပ်စွဲခဲ့သူလည်း ဖြစ်ပေသည်။ ဘုရားရှင်ကို သူ့လင်ပါပဲလို့ စွပ်စွဲသောအပြစ်ကြောင့် သူ့ဘဝ ဇာတ်သိမ်းပုံမှာ အတော်ပင် သံဝေဂရဖို့ ကောင်းလှပါသည်။

## မသုန္ဒရီ ဇာတ်သိမ်း

တိတ္ထိဆရာကြီးများမှာ မြတ်စွာဘုရား သာဝတ္ထိမြို့သို့ ကြွရောက်လာတော်မူစဉ်ကစပြီး လာဘ်လာဘ နည်းပါးရာကြကာ တန်ခိုးအာဏာ ပါဝါများလည်း အထူးပင် သေးသိမ်မှေးမှိန် ကြရတော့သည်။ သို့ဖြစ်၍ မြတ်စွာဘုရားကို မလိုမုန်းထားစိတ် ပြင်းထန်ကြလေသည်။ မြတ်စွာဘုရား ပျက်စီးရာပျက်စီးကြောင်းကို နည်းမျိုးစုံဖြင့် ကြိုးစားကြတော့သည်။ ပထမ အကြိမ် မသုန္ဒရီကို အစွပ်စွဲခိုင်းခဲ့ကြရာ အောင်မြင်မှု မရခဲ့ပေ။ ယခု ဒုတိယအကြိမ် မီးကုန်ယမ်းကုန် ကြံစည်ကြိုးပမ်းကြပြန်သည်။ သူတို့၏အကြံကား ပက်စက်လွန်းလှသည်။

သူတို့ကို အမြဲကြည်ညိုလေးစားပြီး သူတို့ကျောင်းကို အမြဲဝင်ထွက်သွားလာနေသော တပည့်မ သုန္ဒရီကို ညဘက်မှာသတ်ပြီး ဇေတဝန်ကျောင်းတော်အနီး ပန်းပင်များအကြား၌ သွားပစ်ထားကြသည်။ မနက်ကျတော့ မသုန္ဒရီ ပျောက်ခြင်းမလှ ပျောက်ရပါပြီဟု ဘုရင့် နန်းတော်သွားပြီး တိုင်ချက်ဖွင့်ကြသည်။

ဘုရင့်အမိန့်ဖြင့် သာဝတ္ထိတစ်မြို့လုံး ရှာဖွေကြပေမယ့် မသုန္ဒရီကို မတွေ့၍ မြို့ပြင်ထွက်





သုန္ဒရီမကို တတ္ထိမျှားကသတ်ပြီး မြတ်စွာဘုရားအား စွပ်စွဲသည့် (စတုတ္ထဝိပါက်တော်)
နစဉ်ဘဝက ရသေ့တစ်ဦးအားအကျင့်ယုတ်ဟု စွပ်စွဲပြောဆိုခဲ့ခြင်း

ကာ ရှာကြတော့မှ ဇေတဝန်ကျောင်းတော်အနီး ပန်းပင်များကြားမှာ ဒဏ်ရာများနှင့် သေဆုံးနေသော မသုန္ဒရီကို တွေ့ကြတော့သည်။ သုန္ဒရီအလောင်းကို တွေ့ပြီဖြစ်ကြောင်း ဘုရင်အား သံတော်ဦးတင်ကြလျှင် တိတ္ထိဆရာကြီးများက-

"ကြည့်ပါလား တကာတော်မင်းမြတ်၊ ကျုပ်တို့ရဲ့တပည့်မကို သတ်သူဟာ ဂေါတမ ရဟန်းကြီးနဲ့ သူ့တပည့်များပဲ ဖြစ်ရမှာပေါ့။ ဘာဖြစ်လို့လဲဆိုတော့ သူ့ကျောင်းနားမှာ အလောင်းတွေ့တာကလည်းတစ်ချက်၊ ပြီးတော့ တစ်ချိန်ကလည်း မသုန္ဒရီက ဘုရားဟာ သူ့လင်ပါလို့ စွပ်စွဲခဲ့ဖူးလို့ အခဲမကြေ ဖြစ်နေတာကလည်းတစ်ချက်ဆိုတော့ ဂေါတမရဟန်းကြီး သတ်တာ ကျိန်းသေပေါ့။ အဲဒီတော့ တစ်နံပါတ် တရားခံဟာ ဂေါတမရဟန်းကြီးပဲဖြစ်မှာပဲ" ဟု ဝင်ပြောကြတော့သည်။

## တရားခံအစစ်ပေါ်ပြီ

ဘုရင်မင်းမြတ်သည် အမှုကိုလက်ခံကာ တရားခံအစစ်ကို အပူတပြင်း ရှာဖွေစေရတော့သည်။ စုံထောက်များမှာ ဘုရင့်အမိန့်ဖြင့် သာဝတ္ထိပြည်လုံး အနှံ့စုံစမ်းထောက်လှမ်းကြစဉ် စကားများနေကြသော အရက်သမားများ၏အသံကို ကြားလိုက်ကြရသည်။

"ငါက သတ်တဲ့လူ၊ ငါ ပိုရထိုက်တာပေါ့"

"ငါက အလုပ်လက်ခံလာတာ၊ ငါက ပိုရထိုက်တာပေါ့"

စသည်ဖြင့် သုန္ဒရီကို သတ်ခဲ့ကြသော အရက်သမားတစ်စုမှာ ငွေအဝေမတည့်ဖြစ်ကာ စကားများနေကြစဉ် စုံထောက်များရောက်လာပြီး လက်ထိပ်ခတ်ကာ ဖမ်းဆီးသွားကြတော့သည်။

ဤသို့ဖြင့် သုန္ဒရီ အသေဆိုးနှင့်သေရပုံ၊ မြတ်စွာဘုရား လူသတ်မှုဖြင့် အစွပ်စွဲခံရပုံ၊ သတ်သူတရားခံ အစစ်အမှန်များပေါ်လာပုံမှာ ထင်ရှားပေပြီ။

စတုတ္ထဝိပါက်တော် ပြီး၏။



## ပဥ္စမဝိပါက်တော်

ဂိစ္ဈတောင်စောင်း ကျောက်မောင်းဆင်ကာ၊
ဒေဝဒတ်ယုတ် ခလုတ်အသာ၊
သူဖြုတ်ချလို့ ဗုဒ္ဓခြေမှာ၊
ကျောက်လွှာငြိ ဒဏ်ထိ ဘယ်ဝိက်ပါ။

သူကြွယ်မျိုးဇာတ် ဖြစ်လတ်ခါလေ၊
ညီကိုလှည့်ဖျား ခေါ်သွားခဲ့ပေ၊
ကျောက်ခဲနှင့်ညှပ် ထုသတ်ကြိတ်ချေ၊
ရှေးဝိပါက် အဆက်ပါခဲ့ပေ။

**မေး** - မြတ်စွာဘုရား ဂိစ္ဈကုဋ်တောင်ခြေရင်းမှ ရာဇဂြိုဟ်မြို့ထဲသို့ ဆွမ်းခံကြွ တော်မူစဉ် ဒေဝဒတ်က ဂိစ္ဈကုဋ်တောင်ပေါ်မှ ကျောက်မောင်းဆင်ကာ ထုချလိုက်သ ဘုရားရှင်၏ခြေမတော်မှာ ကျောက်လွှာထိမှန်ခဲ့ရပါသည်။ အဲဒါ ဘယ်အတွက်ကြောင့်ပါ

**ဖြေ** - ဘုရားအလောင်း နုစဉ်အခါက ညီငယ်ကို တောထဲခေါ်သွားပြီး ကျောက်ခဲ ထုသတ်ခဲ့ဖူးပါသည်။ ထို့ကြောင့် ဒေဝဒတ်က ကျောက်မောင်းဆင်ပြီး ထုမှုကို ခံယူ မှုရခြင်း ဖြစ်ပါသည်။





ဂိဇ္ဈကုဋ်တောင်စောင်းတွင် ဒေဝဒတ်၏ ကျောက်မောင်းဆင်ခြင်းကိုခံရသည့်(ပဋ္ဌမဝိပါက်တော်)
ညီကိုလုည့်ဖြား၍ ကျောက်တုံးဖြင့်ထုသတ်ခဲ့ခြင်း

## ဒေဝဒတ် ကျောက်မောင်းဆင်ထုစန်း

အခါတစ်ပါး ဘုရားမြတ်စွာသည် ရာဇဂြိုဟ်ပြည်အနီး ဂိဇ္ဈကုဋ်တောင်ခြေရင်းရှိ ကျောင်းတော်၌ သီတင်းသုံးနေထိုင်တော်မူပါသည်။ တစ်နေ့သောအခါ ဘုရားမြတ်စွာသည် ဂိဇ္ဈကုဋ်တောင်ခြေရင်းမှ ရာဇဂြိုဟ်မြို့တွင်းသို့ ဆွမ်းခံကြွတော်မူရာ ဒေဝဒတ်က ဘုရားကို သတ်ရန် အသင့်ပြင်ဆင်ထားသော ကျောက်မောင်းကိုဖြုတ်ချကာ ဘုရားရှင်အား သေကြောင်းကြံစည်ခဲ့ပါသည်။ ကျောက်တုံးကျောက်ခဲများ ကစဉ့်ကလျား အားနှင့်လိမ့်ကျလာသော်လည်း ဘုရားရှင်၏တန်ခိုးတော်ကြောင့် ကြီးမားသော ကျောက်ခဲများမှာ ဘုရားအနီးသို့ မကျရောက်ပါ။ ကျောက်တုံးကျောက်ခဲချင်း ထိခိုက်ပြီး ပဲ့ထွက်လွင့်လာသော ကျောက်လွှာကလေးသည် ဘုရားရှင်၏ ခြေမတော်ကို ခပ်ပြင်းပြင်း ထိမှန်လာပါသည်။ အခြား ဘာမျှမဖြစ်ပါ။ ဒေဝဒတ်၏ ယုတ်မာလှသော အကြံအစည်သည် အချည်းနှီးသာ ဖြစ်ရှာပါသည်။

## ဘုရားအလောင်း သူဌေးသားဝတ္ထု

ဂေါတမဘုရားအလောင်း နစဉ်အခါက သူဌေးသားတစ်ဦး ဖြစ်ခဲ့ဖူးပါသည်။ သူ့မှာ ညီငယ်တစ်ယောက်သာရှိပြီး မိဘနှစ်ဦး ဆုံးပါးသွားသောအခါ အမွေပစ္စည်းများကို တစ်ဝက်စီ ခွဲဝေယူကြသည်။

အစေခံကျေးကျွန်များစွာရှိရာ အစေခံများကို ညီငယ်အား လုံးဝမပေးဘဲ သူတစ်ဦးတည်းသာ လိုချင်သည်။ ညီငယ်ကလည်း အစေခံများကို တစ်ဝက်လိုချင်နေရှာသည်။ ဒါနဲ့ ဘုရားအလောင်းအစ်ကိုကြီးက တစ်ဝက်စီ ခွဲပေးလိုက်ရသည်။ စိတ်ထဲမှာတော့ နည်းနည်းလေးမှ မကျေနပ်ပါ။

ဒါနဲ့ တစ်နေ့တော့ ညီငယ်ကို အယုံသွင်းပြီး တောထဲခေါ်သွားခဲ့တယ်။ ကံဆိုးရှာတဲ့ ညီငယ်ကလည်း အစ်ကိုကြီးရဲ့အကြံကိုမသိဘဲ လိုက်ပါသွားခဲ့တယ်။ တောထဲလည်းရောက်ရော ကျောက်ခဲတစ်လုံးကိုကိုင်ပြီး ညီငယ်ကို အသေထုသတ်တော့တာပါပဲ။

သို့ကလောက် ယုတ်မာလှတဲ့ ဘုရားအလောင်းအစ်ကိုကြီးဟာ သေတဲ့အခါမှာ ငရဲသို့ ကျရောက်ရတော့တယ်။ လူ့ဘုံလူ့ဘဝရောက်ပြန်တော့လည်း ဘဝများစွာ သူတစ်ပါးရဲ့ အသတ်အဖြတ်ကို ခံရရှာပါတယ်။ နောက်ဆုံး ဘုရားဖြစ်တဲ့ဘဝမှာလည်း ဒေဝဒတ် ကျောက်မောင်းဆင်ကာ ထုသတ်မှုကို ခံယူတော်မူရရှာပါတယ်။ ဘုရားရှင်ဖြစ်လို့ ကျောက်လွှာ သေးသေးထိမှန်ရုံပဲ ခံရတာပါ။

ပဌမပိုင်းပါက်တော် ပြီး၏။

## ဆဌမ ဝိပါက်တော်

ကျောက်လွှာထိပါး မြတ်ဖျားထွတ်တင်၊
တည်နေဝပ်ကိန်း သွေးစိမ်းအရှင်၊
ခြေမတော်ထဲ ကိုက်ခဲနာကျင်၊
ဝိပါက်ဟောင်း အကြောင်းဖော်စေချင်။
သူငယ်ဖြစ်ခိုက် လမ်း၌မြူးရွှင်၊
ရှင်ပဇွေက ဝေးမှမြင်လျှင်၊
ခဲနှင့်ပစ်လိုက် ထိခိုက်ခြေတွင်၊
သွေးယိုဆင်း ရှေးရင်းဝိပါက်ပင်။

**မေး** - ဒေဝဒတ်က ကျောက်မောင်းဆင်ပြီး ထုလိုက်ရာ ဘုရားခြေမတော်မှာ ထိမှန်ပြီး သွေးစိမ်းတည်ခဲ့ပါသည်။ နောက် မခံနိုင်အောင် နာကျင်ကိုက်ခဲခဲ့ပါသည်။ အဲဒါ အဘယ်မကောင်းမှုကြောင့်ပါလဲ။

**ဖြေ** - ဘုရားအလောင်း နစဉ်အခါက ကလေးသူငယ်ဖြစ်ခိုက် ရှင်ပဇွေကဗုဒ္ဓါ ဆွမ်းခံကြွလာသည်ကိုမြင်၍ ခဲနှင့်ပေါက်ခဲ့ဖူးပါသည်။ ရှင်ပဇွေကဗုဒ္ဓါ၏ ခြေမတော်ကို ထိမှန်ပြီး သွေးထွက်သံယို ဖြစ်ခဲ့ဖူးပါသည်။ ထို့ကြောင့် ခြေမတော်မှာ သွေးစိမ်းတည်ပြီး ကိုက်ခဲနေခြင်း ဖြစ်ရပါသည်။





ကျောက်သားဖြင့် ထိခတ်၍ခြေမတော်တွင် နာကျင်ခြင်းခံရသည့်(ဆင္ဒမဝိပါက်တော်)
ရှေးနစဉ်က ရှင်ပစ္စေကဗုဒ္ဓါကို ခဲဖြင့်ပစ်ပေါက်ခဲ့ခြင်း

## ဘုရားအလောင်း ကလေးငယ်ဝတ္ထု

ဂေါတမဘုရားအလောင်း နှစဉ်အခါက မထင်ရှားသော အမျိုးသားတစ်ယောက် ဖြစ်ခဲ့ဖူးသည်။ သူငယ်ရွယ်စဉ်ကလေးဘဝက ရှင်ပစ္စေကဗုဒ္ဓါ ဆွမ်းခံကြွလာတာကို မြင်ရလျှင် ဒီရဟန်းကြီး ငါဆော့နေတဲ့နေရာကို လာရှုပ်မလို့နဲ့တူတယ်၊ ငါ့နားမလာအောင် ငါ ခဲနဲ့ပေါက်မှ ပဲတော်မယ်လို့ ကြံပြီး ရှင်ပစ္စေကဗုဒ္ဓါကို ခဲနှင့်ပစ်တော့သည်။ ခဲမှာ ရှင်ပစ္စေကဗုဒ္ဓါ၏ ခြေမတော်ကို ထိမှန်ပြီး ခြေမတော်၌ သွေးစိမ်းတည်ကာ သွေးများ ယိုစီးထွက်ကျတော့သည်။

ဘုရားအလောင်းကလေးငယ်သည် စုတေပြီးနောက် ငရဲသို့ ကျရောက်ရတော့သည်။ နောက်ဆုံး ဘုရားအဖြစ်သို့ ရောက်တော်မူပြီးနောက် ဒေဝဒတ်က ခဲနှင့်ထုသဖြင့် ခြေမတော်မှာ သွေးစိမ်းတည်ကာ နာကျင်ကိုက်ခဲခြင်းဝေဒနာကို ခံစားတော်မူရရှာသည်။

ဆဋ္ဌမဝိပါက်တော် ပြီး၏။



## သတ္တမ ဝိပါက်တော်

ဆွမ်းခံကြွမြန်း ထိပ်ပန်းဘုန်းကြွယ်၊
မုန်းကျူဆင်ကြီး ခရီးအလယ်၊
ဒေဝဒတ်မိုက် လွှတ်လိုက်ပြန်တယ်၊
ရင်ဆိုင်တွေ့ ဆင်ဇွေ့ဘယ်ဝင့်နွယ်။
ဆင်ထိန်းဆင်ကျောင်း အလောင်းဖြစ်တုံ၊
ရှင်ပစ္စေက လမ်းဝအဆုံ၊
ဒေါသထားလို့ ပြစ်မှားသုံမှုန်၊
ဆင်နှင့်တိုက် ဝင့်လိုက်စေဖို့ကြုံ။

**မေး** - မြတ်စွာဘုရား ဝေဠုဝန်ကျောင်းတော်မှ ရာဇဂြိုဟ်ပြည်သို့ ဆွမ်းခံကြွတော်မူစဉ် ခရီးအကြား၌ ဒေဝဒတ်က နာဠာဂီရိဆင်ဖြင့် တိုက်တော့သည်။ ထိုကဲ့သို့ ဆင်နှင့်တိုက်ခံရခြင်းမှာ ဘယ်အတွက်ကြောင့်ပါလဲ။

**ဖြေ** - ဘုရားအလောင်း နစဉ်အခါက ဆင်ထိန်းတစ်ဦး ဖြစ်ခဲ့ဖူးပါသည်။ ထိုစဉ်က ရှင်ပစ္စေကဗုဒ္ဓါကို ဆင်နဲ့တိုက်ဖူးလို့ ယခုကဲ့သို့ ဆင်နှင့်အတိုက်ခံရခြင်း ဖြစ်ပါသည်။





ဒေဝဒတ်မိုက် ဆင်နှင့်တိုက်ခြင်းကို ခံရသည့်(သတ္တမဝိပါက်တော်)
ဘုရားလောင်းနစဉ်က ရှင်ပစ္စေကဗုဒ္ဓါအား ဆင်နှင့်တိုက်ခဲ့ခြင်း

## ဒေဝဒတ်က ဆင်နှင့်တိုက်ပုံ

တစ်နေ့သောအခါ မြတ်စွာဘုရားသည် ဝေဠုဝန်ကျောင်းတော်မှ ရာဇဂြိုလ်မြို့တွင်းသို့ ဆွမ်းခံကြွတော်မူသည်။ ဒေဝဒတ်က ကျောက်တုံးဖြင့် လိမ့်ချကာ ဘုရားရှင်ကို သေကြောင်းကြံခဲ့ပေမယ့် မအောင်မြင်ခဲ့သဖြင့် ယခုတဖန် နာဠာဂိရိဆင်ကြီးကို အရက်မူးအောင်တိုက်ပြီး လမ်းခရီးက စောင့်နေသည်။ ဘုရားရှင်နှင့်သံဃာတော်များ ဆွမ်းခံကြွလာတာမြင်တော့ အရက်မူးနေသော နာဠာဂိရိဆင်ကြီးကို ဘုရားရှင်ထံ လွှတ်လိုက်တော့သည်။

နာဠာဂိရိဆင်ကြီးဟာ အသံကုန်အော်ဟစ်ပြီး ဘုရားအနီးသို့ ပြေးသွားတော့သည်။ တဖန် ဆင်ကြီးကိုမြင်လို့ ကလေးကိုပစ်ခဲ့ပြီး ထွက်ပြေးရာသော အမျိုးသမီးတစ်ဦးနောက်သို့ လိုက်ပြန်သည်။ ထိုစဉ် ဘုရားရှင်က-

"ချစ်သား နာဠာဂိရိ၊ အဲဒီမိန်းမကိုသတ်ဖို့ သင့်ကို ဒေဝဒတ်က အရက်တိုက်ပြီး လွှတ်တာမဟုတ်ဘူး။ ငါဘုရားဆီသို့ အမြန်ပြန်ခဲ့" ဟု မိန့်တော်မူလိုက်သည်။

ဘုရားရှင်၏အင်္ဂါရှစ်ပါးနှင့်ပြည့်စုံသော အသံတော်ကို ကြားရလျှင် ဆင်ကြီးသည် ပြန်လှည့်ကြည့်တော့သည်။ ပြန်လှည့်ကြည့်ကာမှ ရောင်ခြည်တော်ခြောက်သွယ်ဖြင့် အထူးပင် တင့်တယ်သပ္ပါယ်တော်မူလှသော ဘုရားရှင်ကို မြင်ရလေရာ ဆင်ကြီးမှာ အလွန်ပင် ဝမ်းမြောက်ဝမ်းသာဖြစ်ကာ မူးယစ်မှုကင်းပျောက်သွားပြီး ကြည်လင်ရွှင်ပျသော စိတ်ထားဖြင့် ဘုရားအနားတိုးလာကာ ကျူးလွန်မိခဲ့သော အပြစ်များကို ဝန်ချတောင်းပန်နေတော့သလို ဒူးတုပ်၍ ခစားရှာသည်။

ထိုအခါ ဘုရားရှင်က လိမ္မာယဉ်ကျေးအောင် တရားဓမ္မ ဟောပြတော်မူလေသည်။

ဒေဝဒတ်၏ ပက်စက်လှသောအကြံကို စောစောကတည်းက သတင်းရထားသောသူများက လာရောက်ကြည့်ရှုကြရာ ပရိသတ်ကြီးမှာ ကြိတ်ကြိတ်တိုး စည်ကားလှတော့သည်။ နောက်ဆုံး ဘုရားရှင်၏ တရားဓမ္မသြဝါဒကို ကြားနာကြရသဖြင့် တရားနာပရိသတ် ရှစ်ထောင်ခန့်မှာ သောတာပန်အဆင့်သို့ မြင့်တက်သွားခဲ့ကြပေသည်။

## ဘုရားအလောင်း ဆင်ထိန်းဝတ္ထု

ဂေါတမဘုရားအလောင်းတော် နစဉ်အခါက ဗာရာဏသီပြည့်ရှင် ဘုရင်ဗြဟ္မဒတ်မင်း၏ဆင်တော်ကို ထိန်းကျောင်းရသော အမျိုးသားတစ်ဦး ဖြစ်ခဲ့ဖူးသည်။

တစ်နေ့သောအခါက ဘုရားအလောင်းတော် ဆင်ထိန်းသည် တောစပ်တစ်ခုမှ ဗာရာဏသီမြို့ထဲသို့ ဆင်စီးပြီး ပြန်လာခဲ့သည်။ လမ်းခရီးကြား၌ ရှင်ပစ္စေကဗုဒ္ဓါတစ်ပါး

သည် ဗာရာဏသီမြို့ထဲသို့ ဆွမ်းခံဝင်ရန် ကြွမြန်းလာနေသည်။

ဘုရားအလောင်းဆင်ထိန်းက-

"အို…ရဟန်းကြီး၊ ဒီလမ်းက ဆင်လာမလို့ပါ။ ဘေးမှ ခပ်ဝေးဝေးဖယ်ပြီး ကြွတော်မူပါ"

ရှင်ပစ္စေကဗုဒ္ဓါသည် မတုန်မလှုပ် ကြွမြဲကြွနေသည်။

ဘုရားအလောင်းက ဒုတိယမ္ပိ-

"အို…ရဟန်းကြီး၊ ဒီလမ်းက ဆင်လာမလို့ပါ၊ ဘေးမှ ခပ်ဝေးဝေးဖယ်ပြီး ကြွတော်မူပါ"

ရှင်ပစ္စေကဗုဒ္ဓါသည် မတုန်မလှုပ် ကြွမြဲတိုင်းကြွနေသည်။

ဘုရားအလောင်းက နောက်ထပ်တစ်ဖန်-

"အို…ရဟန်းကြီး၊ ဒီလမ်းက ဆင်လာမလို့ပါ။ ဘေးမှ ခပ်ဝေးဝေးဖယ်ပြီး ကြွတော်မူပါ"

ရှင်ပစ္စေကဗုဒ္ဓါသည် မကြားသလို ကြွမြဲတိုင်း ကြွနေသည်။

ဘုရားအလောင်း ဆင်ထိန်းသည် စိတ်မရှည်တော့ဘဲ ငါ အထပ်ထပ်တောင်းပန်ပါလျက်နဲ့ မကြားသလိုဘဲဟု ဒေါသထွက်ကာ ဆင်ကို ချွန်းနှင့်နာနာပေါက်ပြီး တအားကုန်လိုက်တိုက်တော့သည်။

ထိုအခါ ရှင်ပစ္စေကဗုဒ္ဓါသည် ကပ္ပာကယာ ကောင်းကင်သို့ ပျံတက်တော်မူရာ အပေါ်ရုံသင်္ကန်းမှာ ကျွတ်ကျကျန်ခဲ့တော့သည်။ ဘုရားအလောင်းဆင်ထိန်းသည် ပစ္စေကဗုဒ္ဓါ ကျန်ရစ်ခဲ့သော သင်္ကန်းတော်ကို စိတ်ဆိုးဆိုးနှင့် ဖွတ်ဖွတ်ကြေအောင် ဆင်နှင့် နင်းချေဖျက်ဆီးပစ်လေတော့သည်။

ဘုရားအလောင်းဆင်ထိန်းသည် ထိုမကောင်းမှုကံကြောင့် ငရဲမှာ အကြိမ်ကြိမ် ကျခံရသည်။ နောက်ဆုံး ဘုရားဖြစ်တဲ့အခါမှာလည်း ဒေဝဒတ်က နာဠာဂိရိဆင်နှင့် တိုက်မှုကို ခံတော်မူရရှာသည်။

သတ္တမဝိပါက်တော် ပြီး၏။







ပဒေသရာဇ် မင်းဘဝမှူးယစ်သောက်စား၍ လူသတ်ခဲ့မှုကြောင့် ဘုရားရှင်ဘဝတွင်
ခြေမတော်တွင် သွေးစိမ်းတည်ခဲ့သည့်(အင္ဂမဝိပါက်တော်)

## အဋ္ဌမ ဝိပါက်တော်

ကျောက်လွှာထိချက် သွေးထွက်ဆူပူ၊
ခြေမတော်ဦး ထွက်ဖူးတစ်ဆူ၊
သွေးညိုကိန်းလို့ ကျိန်းစပ်တော်မူ၊
ဇီဝက ခွဲရ ဘယ်ဝဋ်ဟူ။

ပဒေသရာဇ် မင်းဖြစ်စဉ်ဝယ်၊
မူးယစ်သောက်စား ဖောက်ပြားမဖွယ်၊
လူရှင်လတ်လတ် သတ်ဖြတ်ပြန်တယ်၊
စားဝိပါက် အဆက် သူကနွယ်။

**မေး** - ဒေဝဒတ်က ကျောက်ခဲနှင့်လိမ့်ချသဖြင့် ဘုရားရှင်၏ခြေမတော်ဝယ် သွေးစိမ်းတည်ခဲ့ရပြီးနောက် နာကျင်ကိုက်ခဲနေသဖြင့် သမားတော်ဇီဝကက ဓားဖြင့် ခွဲစိတ်၍ ကုသခဲ့ရပါသည်။ ဘယ်ရှေးက ဝိပါက်ကြောင့်ပါလဲ။

**ဖြေ** - ဘုရားအလောင်း နုစဉ်အခါက သေသောက်ကြူးသော ပဒေသရာဇ်မင်းတစ်ပါး ဖြစ်ခဲ့ဖူးပါသည်။ တစ်နေ့မှာ အရက်များမူးကာ ကိုယ်တိုင်ဓားဆွဲပြီး နန်းတော်ထဲမှာပဲ အပြစ်မဲ့သူ မင်းမှုထမ်းတစ်ဦးကို ခုတ်သတ်ခဲ့ဖူးပါသည်။ သို့ဖြစ်၍ ဇီဝက၏ခွဲစိတ်ကုသမှုကို ခံယူတော်မူရခြင်း ဖြစ်ပါသည်။

## ခြေမတော်ကိုက်ခဲ၍ ဓားခွဲခံတော်မူရပုံ

တစ်နေ့သောအခါက ဂိဇ္ဈကုဋ်တောင်စောင်းမှ ကျောက်မောင်းဆင်ကာ ဒေဝဒတ် ထုချလိုက်သဖြင့် ဘုရားရှင်၏ခြေမတော်မှာ သွေးစိမ်းတည်ခဲ့ရပါသည်။ ထိုအနာမပျောက်ကင်းဘဲ သွေးပုပ်ပြည်ပုပ်များ နီအောင်းကာ တိုးပွားလာပါသည်။ သို့ဖြင့် သမားတော်ဇီဝက ရောက်လာပြီး ဘုရားရှင်၏ခြေမတော်ကို ဓားဖြင့်ခွဲစိတ်၍ ပျောက်ကင်းအောင် ကုသခဲ့ရပါသည်။

## သေသောက်ကြူးမင်းဝတ္ထု

ဘုရားအလောင်း နှစဉ်အခါက ပဒေသရာဇ်မင်းတစ်ပါး ဖြစ်ခဲ့ဖူးပါသည်။ သူ့ရဲ့မှူးမတ်များမှာ သေသောက်ကြူးများဖြစ်ကြပြီး ပဒေသရာဇ်မင်းကိုပါ သေသောက်ကြူးသမားအဖြစ် ရောက်အောင် ပို့ပေးကြပါသည်။

ဘုရားအလောင်းပဒေသရာဇ်မင်းသည် နေ့စဉ် သောက်စားမူးရူးပြီး ပျော်ပါးနေတတ်ပါသည်။ သူ့ရဲ့မိဖုရားကြီးနှင့် သားတော်၊ သမီးတော်များက အရက်မသောက်ဖို့ အမျိုးမျိုး တောင်းပန်ကြပေမယ့် အကျိုးမထူးဘဲ ရှိနေပါသည်။ တစ်နေ့တော့ အရက်ကလည်း အတော် မူးနေစဉ် အပြစ်မဲ့သော မင်းမှုထမ်းတစ်ဦးကိုခေါ်ပြီး နန်းတော်ထဲမှာပဲ သူကိုယ်တိုင် ဓားဖြင့် ခုတ်သတ်လိုက်ပါသည်။ ထို့ကြောင့် ဘုရားဖြစ်သောအခါ ဆရာဇီဝက၏ ခွဲစိတ်ကုသမှုကို ခံစားတော်မူရပါသည်။

အဋ္ဌမဝိပါက်တော် ပြီး၏။



## နဝမ ဝိပါက်တော်

သုံးလူ့ထွတ်ဖူး မြိုက်မှူးသျှောင်ကော၊
ရှံဖန်ခေါင်းထဲ ကိုက်ခဲရပေ၊
ဝေဒနာဝင်၍ မလွတ်ကုန်ချေ၊
ဘယ်ဝိပါက် အဆက်ဖော်ပါလေ။

ရှေးခါကပ်ပေါင်း မကောင်းကံဆော်၊
တံငါမျိုးဇာတ် ဖြစ်လတ်သနော်၊
ငါးများ ဦးခေါင်း ထုထောင်းလေသော်၊
ဝမ်းမြောက်မိ လိုက်ဘိဝိပါက်တော်။

မေး - ဘုရားရှင်သည် တစ်ခါတစ်ရံ ခေါင်းတော်ကိုက်ခဲခြင်းဝေဒနာကို ခံစားတော်မူရရှာပါသည်။ အဲဒါ ဘယ်ရှေးဝိပါက်ကြောင့်ပါလဲ။

ဖြေ - ဘုရားအလောင်း နုစဉ်ဘဝက တံငါမျိုးမှာ ဖြစ်ရဖူးပါသည်။ သူ၏မိဘဆွေမျိုးများ ငါးကို ထုသတ်နေကြသည်ကို မြင်ရ၍ ဝမ်းမြောက်ဝမ်းသာ ဖြစ်ခဲ့ဖူးသဖြင့် ခေါင်းတော်ကိုက်ခဲရခြင်း ဖြစ်ပါသည်။

## တံခါးသည်သား ကေဝဋ္ဋဝတ္ထု

ဘုရားအလောင်းတော်သည် နုစဉ်အခါက ကံမကောင်းအကြောင်းမလှသဖြင့် တံငါသည်မျိုး၌ ဖြစ်ခဲ့ရဖူးပါသည်။ သူ၏အမည်မှာ ကေဝဋ္ဋ = ကေဝဋ္ဋ ဖြစ်ပါသည်။ မိဘဆွေမျိုးများ ပင်လယ်ထဲသွားပြီး ငါးဖမ်းကြရာ ငါးတွေ များစွာရရှိခဲ့သည်။ ငါးများကို သတ်ဖြတ်ချက်ပြုတ်စားကြပြီး ငါးကြီးများကိုရောင်းရန် ခေါင်းကို ထုသတ်နေကြသည်။ ဘုရားအလောင်း ကေဝဋ္ဋက ငါးသတ်နေသည်ကို ရပ်ကြည့်ပြီး အလွန်ပင် ဝမ်းသာအားရ ဖြစ်နေရှာပါသည်။ သူကိုယ်တိုင်လည်း ငါးများကို ထုသတ်ခဲ့ဖူးရှာသည်။

သို့ဖြင့် တံငါသည် ကေဝဋ္ဋသည် ဘဝတစ်ပါးပြောင်းသွားခဲ့ရာ အဝီစိငရဲ၌ ကျရောက်ခဲ့ရရှာသည်။ ဘဝအဆက်ဆက်လည်း ခေါင်းထုပြီး အသတ်ခံရရှာပါသည်။ နောက်ဆုံးဘုရားဖြစ်သောဘဝ၌ ရံဖန်ရံခါ ခေါင်းတော်ကိုက်ခဲခြင်းဝေဒနာကို ခံစားတော်မူရပါသည်။

နဝမဝိပါက်တော် ပြီး၏။







တံငါဘဝက ငါးများကိုထုသတ်ခဲ့သဖြင့် ဘုရားရှင်ဘဝတွင် ခေါင်းတော်ကိုက်ခဲခြင်း
ဝေဒနာခံစားခဲ့ရသည်(နဝမဝိပါက်တော်)

## ဒသမဝိပါက်တော်

ဝေရဉ္စာတိုင်း သမိုင်းအကျော်၊
ဝါတော်ကပ်တော့ မာရ်နတ်နှိုးဆော်။
မုယောဆွမ်းမို့ ကြမ်းကြမ်းထော်ထော်၊
ဘုဉ်းပေးရ ရှေးက ဘယ်ဝဋ်တော်။
မထင်မရှား မျိုးသားဖြစ်တုံ၊
ရဟန်းတော်များ ဆွမ်းစားခိုက်ကြုံ။
ဆွမ်းကြမ်းစားလို့ ပြစ်မှားဆိုပုံ၊
ဝစီတွက် ဝိပါက်တော်လို့ယုံ။

မေး - မြတ်စွာဘုရား နောက်ပါရဟန်း ၅၀၀ နှင့် ဝေရဉ္စာပြည်အနီးမှာ ဝါဆိုတော်မူစဉ် တစ်ဝါတွင်းလုံး မုယောဆွမ်းကြမ်းကို ဘုဉ်းပေးတော်မူရရှာပါသည်။ အဲဒါ ဘယ်ရှေးက မကောင်းမှုကြောင့်ပါလဲ။

ဖြေ - ဘုရားအလောင်း နစဉ်အခါက မထင်ရှားသော အမျိုးသားတစ်ဦးဖြစ်စဉ် ရဟန်းများ ဆွမ်းစားနေကြသည်ကိုမြင်လျှင် "အဆင်မပြေ အချိုးမကျတဲ့ ဒီကတုံးတွေဟာ အလုပ်မရှိ၊ အကိုင်မရှိတဲ့ အချောင်သလေးဆွမ်းလို ကောင်းမွန်နူးညံ့တဲ့ဆွမ်းနဲ့ မတော်ပါဘူး။ မုယောဆွမ်းကြမ်းနဲ့ပဲ ထိုက်တန်ပါတယ်" စသည်ဖြင့် စွပ်စွဲရှုတ်ချဖူးတဲ့ အတွက် မုယောဆွမ်းကို ဘုဉ်းပေးတော်မူရခြင်း ဖြစ်ပါသည်။

## မုယောဆွမ်းကြမ်း ဘုဉ်းပေးတော်မူရပုံ

အခါတစ်ပါး မြတ်စွာဘုရားသည် ရဟန်း ၅၀၀ အခြံအရံနှင့်တကွ ဝေရဉ္စာပြည် ဒေသစာရီ လှည့်လည်တော်မူသည်။ ဝေရဉ္စာပြည်သား နာမည်ကြီး ဝေရဉ္စာပုဏ္ဏားကြီး ကယ်ချွတ်တော်မူရာ ဝေရဉ္စာပုဏ္ဏားကြီးဟာ သရဏဂုံတည်သော ဥပါသကာတစ်ဦး ဖြစ်လာသ

ဝေရဉ္စာပုဏ္ဏားကြီးဟာ ဘုရားရှင်ကို ကြည်ညိုလွန်းလို့ 'ဝေရဉ္စာပြည်မှာ တစ်ဝါဆို မူပါ' လို့ ဘုရားရှင်ကို တောင်းပန်ရှာသည်။ ဘုရားရှင်ကလည်း ဝါဆိုဖို့ ပဋိညာဉ်ပေး မူပြီး ဝေရဉ္စာပြည်မှာ ရဟန်းငါးရာနှင့်အတူ ဝါဆိုတော်မူသည်။

မြတ်စွာဘုရား ဝါဆိုတော်မူသောနှစ်ကျမှ ဝေရဉ္စာပြည်မှာ ငတ်မွတ်ခေါင်းပါး ဒုဗ္ဘိက္ခန္တရကပ်ကြီး ဆိုက်ရောက်လေတော့သည်။ မြတ်စွာဘုရားနှင့် ရဟန်းတော်များ ဝေရဉ္စာပြည် ဆွမ်းခံတော်မူကြရာ ဝလောက်အောင်ဆွမ်းမရဘဲ ရှိတော်မူကြသည်။ ထိုအခိုက် မာရ်နတ်မိ က အကွက်ကောင်းယူကာ ဝေရဉ္စာပုဏ္ဏားကြီးနှင့် တိုင်းသူပြည်သားများပါ ဘုရား သတိမရအောင် လှည့်ပတ်ထားလိုက်တော့သည်။

ထိုအခါမှာ ဥတ္တရာပထတိုင်းမှ မြင်းကုန်သည် ၅၀၀ တို့ရောက်လာကြပြီး သူတို့ပါ သော မုယောဆန်ကို ချက်ပြုတ်ကာ ဘုရားအမှူးရှိသော သံဃာတော်ာ ၅၀၀ ကို စေတ ထက်သန်စွာနှင့် တစ်ဝါတွင်းလုံး ဆက်ကပ်လှူဒါန်းကြပါသည်။

မြတ်စွာဘုရားနှင့် ရဟန်း ၅၀၀ တို့သည် ထိုခေတ်ထိုအချိန်က မည်သူမျှ မစားကြ အကြမ်းဆုံး မုယောဆွမ်းကို တစ်ဝါတွင်းလုံး ဘုဉ်းပေးတော်မူရှာကြပါသည်။

## ဘုရားအလောင်း အညတရ အမျိုးသားဝတ္ထု

ဘုရားအလောင်း နှစဉ်အခါက မထင်ရှားသော အမျိုးသားတစ်ယောက် ဖြစ်ဖူးပါသည် သူသည် တစ်နေ့သောအခါ ကဿပဘုရားရှင်နှင့် သံဃာတော်များ ဆွမ်းဘုဉ်းပေးနေကြ လက်ညှိုးကလေး တငေါ့ငေါ့နှင့် "အဆင်မပြေ အချိုးမကျတဲ့ ဒီကတုံးတွေဟာ သလေးဆွ လို ကောင်းမွန်တဲ့ဆွမ်းနဲ့ မတော်ပါဘူး။ အလုပ်မရှိ၊ အကိုင်မရှိတဲ့ အချောင်သမားတွေဆိုတေ မုယောဆွမ်းကြမ်းနဲ့ပဲ ထိုက်တန်ပါတယ်" စသည်ဖြင့် စွပ်စွဲရှုတ်ချတော့သည်။

ထိုသို့ ဘုရားရှင်နှင့် ရဟန်းတော်များကို အပြစ်ပြောဆိုခဲ့ခြင်း၊ ကဲ့ရဲ့ခဲ့ခြင်းကြော ဘုရားအလောင်း အညတရ အမျိုးသားသည် စုတေပြီးနောက် အဝီစိငရဲသို့ ကျရောက်ရှာ သည်။ နောက်ဆုံးဘဝ ဘုရားဖြစ်တဲ့အခါမှာလည်း အကြမ်းဆုံး မုယောဆွမ်းကို တစ်ဝါတွင် လုံး ဘုဉ်းပေးရရှာသည်။

ဒသမဝိပါက်တော် ပြီး၏။





နစဉ်ဘဝက ရဟန်းတော်များဆွမ်းစားပုံကို ပြစ်မှားမိခဲ့သဖြင့်
ဘုရားရှင်ဘဝတွင် ဆွမ်းကြမ်းများကို ဘုဉ်းပေးရသည်(ဒသမဝိပါက်တော်)

## ကောဒသမ ဝိပါက်တော်

အထွတ်ဆုံးဟု သုံးလူ့ထိပ်ပန်၊
ခါးတော်ကိုက်ခဲ အသည်းအသန်။
ဝေဒနာများ ခံစားရံဖန်၊
အဘယ်ကြောင်း ကံဟောင်းဖော်ထုတ်ရန်။
လက်ဝှေ့သတ်ကောင်း အလောင်းဖြစ်သော်၊
ပြိုင်ပွဲဆိုင်ပွဲ နိုင်မြဲအကျော်။
နိုင်လျှင်ခါးရိုး တိုးချိုးမြေပေါ်၊
အသတ်ကောင်း ဇာတ်ဟောင်းဝိပါက်တော်။

**မေး** - သုံးလောကထွတ်ထား ဘုရားသဗ္ဗညုသည် ရံဖန်ရံခါ ခါးတော်ကိုက်ခဲမှုဝေဒနာကို ခံစားတော်မူရရှာပါသည်။ အဲဒါ ဘယ်ကံဟောင်းကြောင့်ပါလဲ။

**ဖြေ** - ဘုရားအလောင်း နုစဉ်အခါတုန်းက လက်ဝှေ့ကျော်တစ်ယောက် ဖြစ်ခဲ့ဖူးပါသည်။ ပြိုင်ပွဲတိုင်းလိုလို အနိုင်ကြဲနိုင်ခဲ့ပါသည်။ သူနှင့်ထိုးသတ်သူများကို အမြဲတမ်းဆိုသလို ခါးရိုးကျိုးအောင် ထိုးသတ်ပြီး မြေပေါ်သို့ လဲကျစေခဲ့သည်သာများပါသည်။ ထို့ကြောင့် ခါးတော်ကိုက်ခဲရခြင်း ဖြစ်ပါသည်။

## လက်ဝှေ့ကျော်ချန်ပီယံ ဝါမနဝတ္ထု

ဘုရားလောင်းနုစဉ်အခါက ဗာရာဏသီပြည်၌ သူဌေးသားတစ်ဦး ဖြစ်ခဲ့ဖူးသည်။ နာမည်မှာ ဝါမန ဖြစ်သည်။ သူ့ကိုကြည့်ရသည်မှာ ခပ်ပုပု ဖြစ်တော့သည်။ သူ့ရဲ့ဝါသနာမှာ လက်ဝှေ့ဝါသနာပင် ဖြစ်သည်။ ငယ်ငယ်ကလေးတည်းက လက်ဝှေ့ထိုးသည်။ လက်ဝှေ့ဆရာကြီးများထံ နည်းနာခံယူသည်။ သို့ဖြစ်၍ ကြေးစားလက်ဝှေ့သမားဘဝသို့ ရောက်ရှိတော့သည်။ ဗာရာဏသီပြည်နှင့် အနီးတစ်ဝိုက်မှာ လက်ဝှေ့သမားမှန်သမျှကို သူက စိန်ခေါ်ပြီး ခါးရိုးကို ထိုးချိုးခဲ့သည်။ ယနေ့ ဝါမနသတင်းကား ဟိုးလေးတစ်ကျော် ဖြစ်နေလေပြီ။

အခြားပြည်မှ ဘုရင်၏အမှုတော်ထမ်း လက်သတ်မွေး လက်ဝှေ့ချန်ပီယံကြီး 'မလ္လက' မှာ လက်ဝှေ့ပွဲမှန်သမျှကို အနိုင်ရခဲ့သူ ဖြစ်သည်။ ဘုရင်ကိုယ်တိုင်က ချန်ပီယံတံဆိပ်ကို ပေးအပ်ထားသူ ဖြစ်သည်။ တိုင်းကြီးသောင္ဂသဒ္ဓ နေထိုင်ကြတဲ့ လက်ဝှေ့သမားတိုင်း 'မလ္လက' ဆိုတဲ့အသံကို ကြားရရုံနှင့် ကြောက်ဒူးတုန်ကြရသည်။

## မလ္လကနှင့် ဝါမန လက်ဝှေ့ပွဲကြီး

တစ်နေ့တွင် လက်ဝှေ့ချန်ပီယံ မလ္လကသည် ဘုရားအလောင်းရှိရာ ဗာရာဏသီပြည် မြေပေါ်သို့ ခြေချလာတော့သည်။ ဘုရားအလောင်း ဝါမနကလည်း အားကျမခံ ယှဉ်ပြိုင်မည်ဟု လေသံထွက်လာရာ ဗာရာဏသီပြည် ဗြဟ္မဒတ်မင်းကြီးနှင့် တိုင်းသူပြည်သားများ အထူးပင် စိတ်လှုပ်ရှားကာ အားပေးကြသည်။

လက်ဝှေ့ပွဲကြီး စပါပြီ။ လက်ဝှေ့ကြော်ငြာ ပိုစတာကြီးတွေ အနှံ့အပြား ကပ်ထားသဖြင့် ရွှေပွဲလာလူထုကြီးမှာ ကြိတ်ကြိတ်တိုးအောင် စည်ကားလှတော့သည်။ ဘုရားအလောင်း ဝါမနက ခပ်ပုပု၊ လက်ဝှေ့ချန်ပီယံ မလ္လကက အရပ်ရှည်ရှည် လက်ဝှေ့ကြိုးဝိုင်းထဲ ရောက်နေကြပေပြီ။ ဒိုင်လူကြီးရဲ့ အချက်ပေးမှုကို စောင့်မျှော်နေကြသည်။ လူထုကြီးမှာ အထူးပင် အာရုံစိုက်နေကြသည်။ အရှုံးအနိုင် လောင်းကြေးများလည်း မနည်းလှ။ ကြေးကြီးများလည်း ပါရှိပေသည်။ သိန်းသန်းချီပြီး လောင်းကြသူများလည်း အတော်များသည်။ သို့ဖြင့် ဒိုင်လူကြီးက အချက်ပေးလိုက်လေပြီ။ ဝါမနနှင့် မလ္လကတို့မှာ အစွမ်းကုန် ထိုးသတ်နေကြသည်။ ဝါမနက သွယ်ဝိုက်လက်သီးတစ်ချက် ပစ်သွင်းလိုက်ရာ မလ္လကခမျာ ဒယိမ်းဒယိုင် ဖြစ်သွားတော့သည်။

"ဗာရာဏသီပြည်ကို လာကျယ်လို့ရမလားကွ၊ ဝါမနဟေ့…ချကွ၊ တီးကွ" အစရှိသော





လက်ဝှေ့ကျော်ဘဝတွင် ပြိုင်ဘက်များကို ခါးချိုးအနိုင်ယူခဲ့သဖြင့်
ဘုရားရှင်ဘဝတွင် ခါးကိုက်ဝေဒနာစွဲကပ်ခဲ့ရသည်(ကောဒသမဝိပါက်တော်)

အသံဗလံများမှာ ဆူညံသွားတော့သည်။ တဖန် မလ္လကက ညာထောက်လက်သီးတစ်ချက် ခပ်ပြင်းပြင်း ပစ်သွင်းလိုက်ရာ ဘုရားအလောင်းဝါမနမှာ ငိုင်သွားသည်။

တဖန် ဝါမနက လက်သီးပြင်းနှစ်ချက်သုံးချက် ပစ်သွင်းပြန်သည်။ မလ္လကသည် မဟာန်နိုင်တော့ပြီ။ လဲကျတော့မည့်အခြေသို့ ရောက်လေပြီ။ ဘုရားအလောင်းဝါမနက ဒေါသကြီးကြီးဖြင့် လဲကျခါနီးဖြစ်သော မလ္လကကို ခါးကျိုးအောင် ထိုးချလိုက်ရာ မလ္လကမှာ ခါးကျိုးပြီး လဲရှာတော့သည်။ ဘုရားအလောင်းဝါမနသည် ဒိုင်ပွဲရပ်ဖြင့် အနိုင်ရရှိသွားလေသည်။

ကောဒသမ ဝိပါက်တော် ပြီး၏။



## ဒွါဒသမ ဝိပါက်တော်

ဆဒ္ဒန်ဆယ်စီး အားကြီးလျှင်မြန်၊
ဝမ်းတော်လွန်သွား ရွှေအားမသန်။
ခွေယိုင်နွမ်းလို့ မြန်းခဲ့နိဗ္ဗာန်၊
ပြောင်းစေကြောင်း ကံဟောင်းဘယ်သို့ဖန်။

ရောဂါကုစား သမားဉာဏ်ကျယ်၊
သူဌေးသားအား ဆေးဝါးကုတယ်၊
ခ,မပေးလို့ ဟိုရှေးဘုန်းကြွယ်၊
ဝမ်းသွားဆေး တိုက်ကျွေးဝဋ်ဟောင်းလည်း။

**မေး** - ဆဒ္ဒန် ၁၀ စီးအားကို ဆောင်နိုင်သော ရှင်တော်ဘုရားသည် မလ္လာမင်းတို့၏ အင်ကြင်းဥယျာဉ်ထဲ၌ ဝမ်းတော်လားကာ ပရိနိဗ္ဗာန် စံတော်မူရခြင်းသည် ဘယ်ကံဟောင်း ကြောင့်ပါလဲ။

**ဖြေ** - ဘုရားအလောင်း နစဉ်အခါက တတ်ကျွမ်းလိမ္မာသော ဆေးဆရာတစ်ဦး ဖြစ်ခဲ့ဖူးပါတယ်။ ဝမ်းသွားနေသော သူဌေးသားတစ်ယောက်ကို ကုသရာ ဝမ်းရောဂါ ပျောက်ကင်းသွားသော်လည်း ဆေးဖိုးဝါးခ မရသဖြင့် ဝမ်းလျှောဆေးကို တိုက်ခဲ့ပါတယ်။ သူဌေးသားလည်း ဝမ်းလျှောပြီး သေရရှာပါတယ်။ သို့အတွက်ကြောင့် ဝမ်းတော်လားပြီး ပရိနိဗ္ဗာန် စံတော်မူရခြင်း ဖြစ်ပါတယ်။





ဝမ်းရောဂါဖြစ်သူအား ဆေးဖိုးမရသဖြင့် ဝမ်းလျှောဆေးပေးခဲ့သဖြင့်
ဘုရားရှင်ဘဝတွင် ဝမ်းတော်လား၍ ပရိနိဗ္ဗာန်ပြုခဲ့ရသည်(ဒွါဒသမဝိပါက်တော်)

## မြတ်စွာဘုရား ဝမ်းတော်လားပုံ

တစ်နေ့သ၌ မြတ်စွာဘုရားသခင်သည် ပါဝါပြည် စုန္ဒအမည်ရှိသော ဒကာအိမ်၌ ဆွမ်းဘုဉ်းပေးတော်မူပြီး ကုသိနာရုံပြည်သို့ ကြွတော်မူပါသည်။ ကုသိနာရုံပြည် မလ္လာမင်းတို့ရဲ့ အင်ကြင်းဥယျာဉ်တော်ထဲရောက်လျှင် မြတ်စွာဘုရား ဝမ်းတော်လားပါတော့သည်။ ဝမ်းတော်လား လို့ သုံးလေးကြိမ်ရှိသောအခါ မြတ်စွာဘုရားသည် နေရာမှ မထနိုင်ရှာတော့ပါ။ အားတော် ဆယ်ပါး၊ ဉာဏ်တော်ဆယ်ပါးနှင့်ပြည့်စုံတော်မူပြီး နီလ၊ ပီတ၊ လောဟိတ၊ ဩဒါတ၊ မဉ္ဇိဋ္ဌ၊ ပဘဿရဟူသော ရောင်ခြည်တော်ခြောက်သွယ်တို့ဖြင့် အလွန်တင့်တယ်သပ္ပါယ်တော် မူလှသော ဘုရားရှင်သည် ရောင်ခြည်တော်များ မှေးမှိန်ပြီး အရိုးပေါ်အရေတင်ဖြစ်ကာ ဝမ်းတော်လားရာမှ အားယူပြီး ထတော်မူရှာသည်။ လက်ယာလက်ဖြင့် အားယူထောက်ကြည့် ရာ လက်ဝဲသို့ ယိမ်းတော်မူသည်။ အနီးရှိ ရဟန်းတော်များက ဝိုင်းအုံဖေးမပြီး တွဲယူခဲ့ကြရ သည်။ အနီးအနားမှာ အမြဲပြုစုလုပ်ကျွေးနေရတဲ့ ညီတော်အာနန္ဒာသည် မျက်ရည်ကို မဆည်နိုင် ရှာတော့ဘဲ တရှုံ့ရှုံ့ ငိုကြွေးရှာတော့သည်။ ပုထုဇဉ် သောတာပန် သကဒါဂါမ် ရဟန်းတော် အားလုံး ငိုကြီးချက်မ ဖြစ်ကြရပါသည်။

ဝမ်းသွားမှုကား လုံးဝမရပ်တော့ပါ။ သမားတော်ကြီးဇီဝက ရောက်လာပြီး အကောင်းဆုံး ဝမ်းပိတ်ဆေးကို ဘုရားရှင်အနီးတိုးပြီး ကပ်ရှာသည်။

“ဇီဝက…သင့်ဆေးတွေဟာ မစွမ်းတော့ဘူး။ သင့်ဆေးကိုသောက်ပေမယ့်လည်း အကျိုး မထူးတော့ဘူး။ ငါဘုရား ရှေးဝိပါက်ကြုံလာခဲ့ပြီ၊ မကပ်နဲ့တော့” ဟု ဘုရားရှင်က တားမြစ် တော်မူလိုက်သည်။

သမားတော်ဇီဝကသည် အလွန်တရာ ဝမ်းနည်းကြေကွဲဖြစ်ကာ ဆေးခွက်ကို အနီးရှိ ဂင်္ဂါမြစ်ထဲသို့ လွှမ်းပစ်လိုက်တော့သည်။ ဆေးတန်ခိုးကြောင့် ဂင်္ဂါမြစ်ရေများပင် ခေတ္တ ရပ်ဆိုင်းသွားခဲ့ရသည်။ ဘုရားမြတ်စွာသည် ဝမ်းသွားမှုဖြင့် ပရိနိဗ္ဗာန် စံလွန်တော်မူရရှာသည်။

## ဆေးသမားနှင့် သူဌေးသားဇာတ်လမ်း

ရှေးလွန်လေပြီးသောအခါက ဘုရားအလောင်းတော်သည် ကျွမ်းကျင်လိမ္မာသော ဆေးဆရာကြီးတစ်ဦး ဖြစ်ခဲ့ဖူးပါသည်။ ထိုစဉ်က အင်မတန် နှမြောတတ်သော သူဌေးသား တစ်ယောက်သည် အစားမှားပြီး ဝမ်းသွားနေရှာသည်။ ငွေကုန်မှာစိုးသဖြင့် ဘုရားအလောင်း သမားတော်ကြီးကိုမပင့်ဘဲ အရပ်ထဲက သူပြောငါပြော ဆေးနည်းများဖြင့် ကုသကြည့်သည်။ နောက်ဆုံး ဘုရားအလောင်းသမားတော်ကြီး ပင့်ရတော့ ဝမ်းသွားမှုမှာ ပိုမိုဆိုးလာသည်။

သည်။ ဘုရားအလောင်း သမားတော်ကြီးက ဝမ်းသွားပျောက်ဆေးကိုတိုက်ရာ ဝမ်းသွားမှု ပျောက်ကင်းခဲ့သည်။ ဘုရားအလောင်း သမားတော်ကြီးသည် ဆေးဖိုးဝါးခ ရလိမ့်မေ့ဖြင့် နောက်တစ်နေ့လာပြီး "ဘယ်လိုနေသေးသလဲ" လို့ မေးရာသည်။ သူဌေးသားက ပိုက်ဆံ မပေးလိုသဖြင့် "ဆရာရယ် သွားမြဲသွားတာပါပဲ" လို့ လိမ်ပြောတော့သည်။ ဘုရားအလောင်း က ဒီကောင် ပျောက်နေရက်နဲ့ ပိုက်ဆံပေးရမှာကြောက်လို့ လိမ်နေတာပဲလို့ သိလေတော့ အလွန်ပြင်းထန်သော ဝမ်းလျှောဆေးကို များများတိုက်ထားခဲ့ပြီး နောက်ထပ် မလာတော့ချေ။ ဝမ်းသွားနေသော သူဌေးသားသည် အကြီးအကျယ် ဝမ်းလျှောပြီး သေရရှာသည်။

ဒွါဒသမ ဝိပါက်တော်ပြီး၏။

**ဝိပါက်လိုက်မှာ ကြောက်စရာ**

ဝိပါက်ရောက်ရေး ကြောက်သွေးတုန်ဖွယ်၊
ဘုရားသော်လည်း ရှောင်လွှဲမလွယ်၊
ဝဋ်အမြဲမို့ တဝဲလည်လည်၊
သတိထား ရှောင်ရှားကြရမယ်။



## ရှင်မောဂ္ဂလ္လာန် ဝိပါက်တော်

လက်ဝဲရံသီး သားကြီးရတနာ၊
ကြမ်းတမ်းပါလှ ဓားပြငါးရာ၊
ဝိုင်းအုံရိုက်ကြ မွမွကြေရှာ၊
ကျမ်းလာညှို မည်သည့်ဝိပါက်ပါ။
မယားမိုက်ကြောင့် သားမိုက်ခမျာ၊
ကျေးရူးကြီးလှ မိဘနှစ်ဖြာ၊
ဒုက္ခိတများ ခေါ်သွားတောမှာ၊
ဓားပြလုပ် ရိုက်ပုတ်ခဲ့လို့ပါ။

**မေး** - မြတ်စွာဘုရား၏ လက်ဝဲရံ အဂ္ဂသာဝကဖြစ်သော ရှင်မောဂ္ဂလ္လာန်မထေရ်မြတ်သည် ဓားပြ ၅၀၀ တို့၏ ဝိုင်းအုံရိုက်နက်ခံရ၍ အရိုးများပါ ကြေမွပြီး ဆင်းရဲကြီးစွာခံစားတော်မူရပါသည်။ အဲဒါ ဘယ်ရှေးက ကံကြမ္မာကြောင့်ပါလဲ။

**ဖြေ** - ရှင်မောဂ္ဂလ္လာန်မထေရ်မြတ် နှစဉ်ဘဝက မယားမိုက်၏စေခိုင်းချက်ကြောင့်မြင်းမိုရ်မက ကျေးဇူးကြီးလှသော မျက်မမြင်ဒုက္ခိတ မိဘနှစ်ပါးကို လှည်းနှင့်တောထဲခေါ်သွားပြီး ဓားပြယောင်ဆောင်ကာ ပြင်းထန်စွာ ရိုက်နက်ခဲ့ဖူးသောကြောင့် ဖြစ်ပါသည်။

## ရှင်မောဂ္ဂလ္လာန်ဝတ္ထု

ရှင်မောဂ္ဂလ္လာန်မထေရ်မြတ်သည် ရာဇဂြိုဟ်ပြည်အနီး ဣသိဂိလိတောင်၏ တောင်ကမ်းပါးယံ ကာဠသိလာကျောင်းတော်၌ သီတင်းသုံးနေတော်မူစဉ် ဓားပြဗိုလ် သမဏဂုတ္တက ဦးဆောင်သော ဓားပြ ၅၀၀ တို့ ရောက်ရှိလာကြပြီးလျှင် ရှင်မောဂ္ဂလ္လာန်မထေရ်မြတ်ကို ဝိုင်းအုံရိုက်နှက်ကြပါသည်။ ရှင်မောဂ္ဂလ္လာန်မထေရ်မြတ်မှာ အရိုးများပင် ကြေမွကုန်ပါသည်။ ဆင်းရဲဝေဒနာကို ပြင်းထန်စွာ ခံစားတော်မူရရှာပါသည်။ ထိုဝေဒနာဖြင့်ပင် ပရိနိဗ္ဗာန်စံတော်မူရရှာပါသည်။

ဓားပြ ၅၀၀ တို့လည်း ရှင်မောဂ္ဂလာန်ကို ရိုက်နှက်ညှဉ်းပန်းပြီး ထွက်သွားကြရာ ကိုက် ၂၀၀ ခန့်အရောက်တွင် အားလုံး မြေမျိုခံရပြီး အဝီစိငရဲသို့ ကျရောက်ကြတော့သည်။

## သားမိုက်ဝတ္ထု

ရှင်မောဂ္ဂလ္လာန်မထေရ်မြတ် နှစဉ်အခါက မာဂဓရွာ၌ အမျိုးသားတစ်ဦး ဖြစ်ခဲ့ဖူးပါသည်။ ကံမကောင်းအကြောင်းမလှသဖြင့် သူ့မိဘနှစ်ပါးမှာ သူငယ်စဉ်ကပင် မျက်စိကွယ်ခဲ့ကြပါသည်။ ရှင်မောဂ္ဂလ္လာန်အလောင်း အမျိုးသားသည် အိမ်ထောင်ကျပြီးနောက် သားမယားနှင့် မိဘနှစ်ပါးကိုပါ ပြုစုလုပ်ကျွေးနေပါသည်။

"ရှင့်မိဘတွေဟာ အိမ်မှာလာပြီး ဒုက္ခပေးနေတာကြာပြီ၊ ကျုပ် သည်းမခံနိုင်တော့ဘူး။ ရှင့်မိဘတွေရှိနေရင် ကျုပ် ဆင်းသွားတော့မယ်" လို့ မယားမိုက်က အကြိမ်ကြိမ် ပြောတော့သည်။

ရှင်မောဂ္ဂလ္လာန်အလောင်းအမျိုးသားသည် မယားမိုက်၏ကုန်းတိုက်စကားကြောင့် မိဘနှစ်ပါးကို လှည်းနှင့်တင်ပြီး တောထဲကို ခေါ်သွားတော့သည်။

တောထဲရောက်တော့ သူကိုယ်တိုင် ဓားပြယောင်ဆောင်ပြီး မျက်မမြင်မိဘနှစ်ပါးကို ပြင်းထန်စွာ ရိုက်နှက်လေသည်။

"သားရေ...မေမေ ဖေဖေတို့တော့ ဓားပြအရိုက်အနှက်ကို ခံနေရပြီ။ သားလေး လွတ်ရာသို့ အမြန်ပြေးပေရော့ သားရေ။ အို...အမောင် ဓားပြတို့ရယ် ကျုပ်တို့ကို ကြိုက်သလို ရိုက်နှက်နှိပ်စက်ကြပါ။ ကျုပ်တို့သားလေးကိုတော့ ချမ်းသာပေးကြပါ"

ကျေးဇူးရှင်မိဘနှစ်ပါးတို့၏ ကြီးမားလှသော မေတ္တာစကားသံသည် သားမိုက်၏ အသည်းနှလုံးကို တိုက်ရိုက်ထိမှန်စူးဝင်သွားတော့သည်။ သားမိုက်သည် နောင်တကြီးစွာ ရရှာလေသည်။





ရှင်မောဂ္ဂလ္လာန် နစဉ်ဘဝက မိဘနှစ်ပါးကို ပြင်းထန်စွာ
ရိုက်နှက်ခဲ့သဖြင့် ခိုးသား ၅၀၀ တို့၏ အရိုက်ခံရခြင်း

သို့သော် လက်လွန်ခြေလွန်ကားဖြစ်ခဲ့ပြီ။ မိဘနှစ်ပါးမှာ သားမိုက်၏ရိုက်နှက်မှုဒဏ်ရာပြင်းထန်လွန်းသဖြင့် မကြာခင်မှာ ကွယ်လွန်ရှာကြတော့သည်။

ရှင်မောဂ္ဂလ္လာန်အလောင်းအမျိုးသားသည် သေလွန်ရာအခါ၌ ငရဲသို့ ရောက်ရှာတော့သည်။ လူ့ဘဝအဆက်ဆက်မှာလည်း အမျိုးမျိုး ရိုက်နှက်ညှဉ်းပန်းခြင်းကို ခံခဲ့ရရှာသည်။

နောက်ဆုံး ပစ္ဆိမဘဝဖြစ်သော ရှင်မောဂ္ဂလ္လာန်မထေရ်မြတ်ဘဝမှာလည်း ဓားပြ ၅၀၀ တို့၏ ပြင်းထန်စွာ ရိုက်နှက်မှုကို ခံတော်မူရကာ ပရိနိဗ္ဗာန် စံတော်မူရရှာပါသည်။

ရှင်မောဂ္ဂလ္လာန်ဝိပါက်တော် ပြီး၏။



## သာမာဝတီ ဝိပါက်တော်

မာဂဏ္ဍီယုတ် လူအုပ်ခေါ်ကာ၊
မိဖုရားမြတ် ပြာသာဒ်မဟာ၊
အလုံပိတ်လို့ မီးရှို့ကြရာ၊
ဝိပါက်ရင်း ဖြေရှင်းစေချင်တာ။

ပဉ္စကာမြတ် တောရပ်မြိုင်မှာ၊
သမာပတ်များ ဝင်စားနေရာ၊
ဝိုင်းအုံဆီးလို့ မီးရှို့ခဲ့တာ၊
အပြစ်တွက် ဝိပါက်ပေါ်ထင်လာ။

**မေး** - မာဂဏ္ဍီမိန်းမယုတ်က လူအုပ်ကိုခေါ်ကာ သာမာဝတီမိဖုရားကြီး၏ နန်းပြာသာဒ်ဆောင်ကို အလုံပိတ်ပြီး သာမာဝတီမိဖုရားကြီးနှင့် အခြံအရံ အမျိုးသမီး ၅၀၀ တို့ကို မီးရှို့သတ်ခဲ့ပါသည်။ အဲဒါ ဘယ်ကံကြမ္မာကြောင့်ပါလဲ။

**ဖြေ** - သာမာဝတီမိဖုရားနှင့် အခြံအရံအမျိုးသမီး ၅၀၀ တို့သည် ရှေးနှစဉ်ဘဝတုန်းကပဉ္စေကဗုဒ္ဓါအရှင်မြတ် သီတင်းသုံးတော်မူရာ တောတစ်ခုလုံးကို မီးတိုက်ခဲ့ဖူးပါသည်။ ဒါ့အပြင် ဒါမျှမက သမာပတ်ဝင်စားနေသော ပစ္စေကဗုဒ္ဓါအရှင်မြတ်ကိုလည်း ထပ်မံ၍ မီးတိုက်ကြဖူးပါသည်။ ထိုမကောင်းမှု အကုသိုလ်ကံကြမ္မာကြောင့် မာဂဏ္ဍီ၏ မီးတိုက်သတ်ဖြတ်ခြင်းကို ခံကြရခြင်း ဖြစ်ပါသည်။





သာမာဝတီနှင့် မင်းသမီး ၅၀၀ တို့ နှစ်ဦးဘဝက ရှင်ပစ္စေကဗုဒ္ဓါအား
မီးတိုက်ခဲ့ကြသဖြင့် မီးလောင်တိုက်သွင်း ခံရခြင်း

## သာမာဝတီ ပစ္စုပ္ပန်ဝတ္ထု

ဘဒ္ဒဝတီမြို့နေ ဘဒ္ဒဝတီသူဌေး၏သမီးဖြစ်သော သာမာဝတီသည် ဝဇ္ဇီတိုင်း ကောသမ္ဗီ ပြည့်ရှင် ဥတေနမင်း၏ မိဖုရားခေါင်ကြီး ဖြစ်ပါသည်။

သာမာဝတီမိဖုရားကြီးနှင့် အခြံအရံအမျိုးသမီး ၅၀၀ တို့သည် ခုဇ္ဇုတ္တရာထံမှတစ်ဆင့် မြတ်စွာဘုရား တရားတော်ကို နာရ၍ အားလုံး သောတာပန် တည်ကြပါသည်။

မိဖုရားငယ်တစ်ပါးဖြစ်သော မာဂဏ္ဍီက သာမာဝတီမိဖုရားကြီး၏အဆောင်ကို (ဥတေနမင်း မရှိခိုက်) အလုံပိတ်ပြီး မီးနှင့်တိုက်သဖြင့် သာမာဝတီမိဖုရားကြီးနှင့် အခြံအရံအမျိုးသမီး ၅၀၀ တို့ မီးလောင်ခံရပြီး ကွယ်လွန်အနိစ္စရောက်ကြရာသည်။

## သာမာဝတီ အတိတ်ဝတ္ထု

သာမာဝတီ မိဖုရားကြီးနှင့် အခြံအရံအမျိုးသမီး ၅၀၀ တို့သည် ရှေးနုစဉ်အခါက ဗာရာဏသီပြည် ဗြဟ္မဒတ်မင်း၏သမီးတော်နှင့် အခြံအရံအမျိုးသမီး ၅၀၀ ဖြစ်ခဲ့ကြဖူးသည်။

တစ်နေ့သောအခါ ပစ္စေကဗုဒ္ဓါအရှင်မြတ် သီတင်းသုံးတော်မူသောတောကြီးကို သာမာဝတီမင်းသမီးနှင့် အခြံအရံ ၅၀၀ တို့က မီးတိုက်ဖျက်ဆီးခဲ့ကြသည်။ မီးလောင်ပြင်ထဲ၌ သမာပတ်ဝင်စားနေသော ပစ္စေကဗုဒ္ဓါအရှင်မြတ်ကိုလည်း ထပ်မံပြီး မီးနှင့်ရှို့ကြပြန်သည်။

သာမာဝတီမင်းသမီးနှင့် အမျိုးသမီး ၅၀၀ တို့ သေလွန်ကြသောအခါ ငရဲသို့ ကျရောက်ကြတော့သည်။ လူ့ဘဝအဆက်ဆက်၌လည်း မီးရှို့သတ်ဖြတ်ခြင်းကို အကြိမ်ကြိမ် ခံခဲ့ကြရသည်။ သာမာဝတီမိဖုရားကြီးနှင့် အခြံအရံအမျိုးသမီး ၅၀၀ တို့သည် ယခုဘဝ၌လည်း မာဂဏ္ဍီ၏ မီးရှို့သတ်ဖြတ်မှုကို ခံကြရရှာသည်။

သောတာပန် အရိယာပုဂ္ဂိုလ်များဖြစ်ကြသော သာမာဝတီမိဖုရားကြီးနှင့် အခြံအရံ အမျိုးသမီး ၅၀၀ တို့ကို မီးရှို့သတ်ဖြတ်ခဲ့သော မာဂဏ္ဍီမှာ ဥတေနမင်းအမိန့်အရ ဓားဖြင့် နုတ်နုတ်စဉ်းကာ ဆီအိုးထဲထည့်ပြီး အကြော်ခံရရှာသည်။

သာမာဝတီ ဝိပါက်တော် ပြီး၏။



## ဘုရားရှိခိုး

ဒေါသကင်းစင်၊ ဘုရားကို
ကြည်လင်မြတ်နိုး၊ လက်စုံမိုးလို့
ရှိခိုးပါ၏ အရှင်ဘုရား...
ပူဇော်ပါ၏ အရှင်ဘုရား...။

နမော တဿ ဘဂဝတော အရဟတော သမ္မာသမ္ဗုဒ္ဓဿ။

## အခန်း (၁)

### (က) ကျိုးပြစ်ဆင်ခြင်

မေတ္တာဘာဝနာကို ပွားများခြင်းငှာ အလိုရှိသောယောဂီသည် ဖြတ်ပြီးသော ပလိဗောဓ ရှိသည့်ဆရာထံမှ ယူအပ်ပြီးသော ကမ္မဋ္ဌာန်းရှိသည်ဖြစ်၍ ဆွမ်းကိစ္စပြီး၍ ဆွမ်းဆီယစ်ခြင်းကို ဖျောက်လျက် ဆိတ်ငြိမ်ရာအရပ်ဝယ် ကောင်းစွာခင်းအပ်သောနေရာ၌ ထက်ဝယ်ဖွဲ့ခွေ ဖြောင့်မတ်စွာ (ထိုင်) နေ၍ ရှေးဦးစွာ အမျက်ထွက်ခြင်း (ဒေါသ) ၌ အပြစ်ကိုလည်းကောင်း၊ သည်းခံခြင်း (ခန္တီ)၌ အကျိုးကိုလည်းကောင်း ဆင်ခြင်အပ်၏။

### (ခ) အမျက်ထွက်ခြင်း (ဒေါသ)၏အပြစ်

ဒေါသဖျက်ဆီးအပ်သောသူသည် ကုသိုလ်ဖြစ်ခြင်း၏အခွင့်ကို မရသဖြင့် ထက်ဝန်းကျင် ဒေါသသည် လုယူအပ်သောစိတ်ရှိသည်ဖြစ်၍ သူ့အသက်ကိုမှုလည်း ရက်စက်စိမ်းကား မသနားမူ၍ နှိပ်စက်သတ်ဖြတ် ညှဥ်းဆဲတတ်၏။ ဤသို့ အစရှိသော အမျက် (ဒေါသ) ထွက်ခြင်း၏အပြစ်ကို သိအပ်၏။

(ဂ) သည်းခံခြင်း (ခန္တီ)၏အကျိုး

သူတစ်ပါးတို့ ကဲ့ရဲ့ခြင်း၊ အကျိုးမဲ့ကိုပြုခြင်း စသည်ကို သည်းခံနိုင်ခြင်းလက္ခဏာရှိသော မျက်မာန်ချုပ်တည်းသည်းခံခြင်း (ခန္တီ) ကို အလွန်မြတ်သော အကျင့်ကောင်းကို မြတ်စွာဘုရားတို့သည် ချီးမွမ်းတော်မူကြကုန်၏။ ဒေါသမာန်စောင့်ငြိမ်းခြင်းတရားကို အလွန်မြတ်သောတရားဟူ၍ မြတ်စွာဘုရားတို့သည် ချီးမွမ်းတော်မူကြကုန်၏။ သည်းခံခြင်းတည်းဟူသောအားဖြင့် ခန္တီအားရှိသောပုဂ္ဂိုလ်ကို ရဟန္တာပုဂ္ဂိုလ်ဟူ၍ ငါဘုရား ဟောတော်မူ၏။ သည်းခံခြင်း (ခန္တီ) ထက် လွန်မြတ်သောအကျိုးမဲ့ကို တားမြစ်နိုင်၍ အကျိုးစီးပွားကို ဆောင်နိုင်သော ကိုးကွယ်ရာသည်မရှိ။ ဤသို့ အစရှိသည်ဖြင့် ဟောအပ်သော သုတ်တို့၏ အစွမ်းဖြင့်လည်း သည်းခံခြင်း(ခန္တီ)၏အကျိုးအာနိသင်ကို သိအပ်၏။

(ဃ) အက္ခန္တိသုတ် (ပဉ္စကနိပါတ်အင်္ဂုတ္တိုရ်)

က။ သည်းမခံနိုင်ခြင်း အမျက်ဒေါသ၏ အပြစ်ငါးပါး

ချစ်သားရဟန်းတို့...သည်းမခံခြင်း (အမျက်ဒေါသ) ၏အပြစ်တို့သည်ကား ငါးပါးတို့ရှိကုန်၏။ ငါးပါးတို့မှာ (၁)များစွာသောလူအပေါင်းတို့ မချစ်နှစ်သက်ခြင်းတစ်ပါး (၂)ရန်သူပွားများခြင်းလည်းတစ်ပါး၊ (၃)အပြစ်ပေါများခြင်းလည်းတစ်ပါး၊ (၄)တွေတွေဝေဝေ စုတိသေလွန်ရခြင်းလည်းတစ်ပါး (၅)ကိုယ်ခန္ဓာပျက်ကြွေစုတေသည်မှ နောက်ကာလဝယ် ချမ်းသာကင်းရာ မကောင်းသောသူတို့လားရာ ဖရိုဖရဲကျရောက်ရာ အပါယ်ငရဲသို့ ဘဝပဋိသန္ဓေကျရောက်ရခြင်းလည်းတစ်ပါး၊ ချစ်သားရဟန်းတို့ သည်းမခံခြင်း (အမျက်ဒေါသ၏) အပြစ်တို့သည်ကား ဤဆိုအပ်ခဲ့ပြီးသောအတိုင်း ငါးပါးတို့ ရှိကုန်၏။

ခ။ သည်းခံခြင်း (ခန္တီ)၏အကျိုးငါးပါး

ချစ်သားရဟန်းတို့...ထိုမှတစ်ပါး သည်းခံခြင်း(ခန္တီ)၏ အကျိုးအာနိသင်တို့သည်လည်း ငါးပါးတို့ ရှိကုန်၏။ ငါးပါးတို့ဟူသည် (၁)များစွာသော လူအပေါင်းတို့ ချစ်ခင်နှစ်သက်ခြင်းလည်းတစ်ပါး၊ (၂)ရန်မရှိခြင်းလည်းတစ်ပါး၊ (၃)အပြစ်မရှိခြင်းလည်းတစ်ပါး၊ (၄)မတွေမဝေ စုတိရခြင်းလည်းတစ်ပါး၊ (၅)ကိုယ်ခန္ဓာပြတ်ကြွေစုတေသည်မှ နောက်ကာလဝယ် နတ်ပြည်လောကသို့ ဘဝပဋိသန္ဓေတည်နေခြင်းလည်းတစ်ပါး၊ ချစ်သားရဟန်းတို့ သည်းခံခြင်း(ခန္တီ)၏အကျိုးတို့သည်ကား ဤငါးပါးတို့ပင်တည်း။

(အက္ခန္တိသုတ် ပဉ္စအင်္ဂုတ္တိုရ်)

## (င) ဒေါသပယ်မှ ချမ်းသာရ

အရှင်ဘုရား ဤလောကဝယ် အဘယ်မည်သောတရားကို ဖြတ်တောက်လျှင် ချမ်းသာစွာ အိပ်ရပါသနည်း။ အဘယ်တရားကို ပယ်ဖျက်လျှင် စိုးရိမ်ခြင်းကင်းရပါသနည်း။ အဘယ်မည်သောတရားတစ်ခုကို ဖြတ်တောက်ပယ်ဖျောက်ခြင်းကို အရှင်ဘုရားသည် နှစ်သက်ပါသနည်းဟု မေးလျှောက်ခဲ့ပါသည်။ ထိုအခါ မြတ်စွာဘုရားက ဘာရဒွါဇအနွယ်၌ဖြစ်သော အို…ပုဏ္ဏား၊ ဤလောကဝယ် ယခုအခါ သင့်သန္တာန်၌ အကြိမ်ကြိမ်အဖန်ဖန် ဖြစ်ပွား၍နေသော သင်၏ခန္ဓာကိုယ်ကို လောင်မြိုက်၍နေသော အမျက်ဒေါသတည်းဟူသော ကောဓတရားကို ပယ်ဖျောက်လျှင်၊ ဖြတ်တောက်လျှင် ချမ်းသာစွာ အိပ်ရပေသည်။ အမျက်ဒေါသကောဓတရားကို ပယ်ဖျောက်လျှင် စိုးရိမ်ခြင်းကင်း၍ နေရပါပေသည်။ သူတစ်ဖက်သားအား လက်စားချေရမှ ကျေနပ်နှစ်သိမ့်အားရခြင်းလျှင် အဆုံးရှိသော အမျက်ဒေါသတည်းဟူသော ကောဓတရားကို ပယ်သတ်ခြင်းကို ဘုရားအစရှိသော အရိယာသခင် အရှင်သူမြတ်တို့သည် ချီးမွမ်းအပ်ပါပေသည်။ မှန်၏။ ထိုကောဓတရားကို ပယ်ဖျောက်ဖြတ်တောက်ပြီးသည်ရှိသော် စိုးရိမ်ခြင်းအလျှင်း မဲ့ပါတော့သည်ဟု သဗ္ဗညုမြတ်စွာဘုရား ဟောကြားခဲ့ပါသည်။

(ဓနဉ္စာနီသုတ်-သံယုတ်)



## အခန်း (၂)

**(က) ရှေးဦးစွာ မေတ္တာမပွားထိုက်သူ ၄ ဦး**

၁။ မစုံမက်လှ မုန်းကြသော အပ္ပိယပုဂ္ဂိုလ်၊

၂။ အလွန်ချစ်လှသော ပိယပုဂ္ဂိုလ်၊

၃။ မမုန်းမချစ် လျစ်လျူသာတည်သော မဇ္ဈတ္တပုဂ္ဂိုလ်၊

၄။ ရန်သူဖြစ်သော ဝေရီပုဂ္ဂိုလ်။

ဤလေးဦးသော ပုဂ္ဂိုလ်တို့၌ ရှေးဦးစွာ မေတ္တာကို အစထား၍ မပွားစေအပ်၊ အဘယ့်ကြောင့်နည်းဟူလျှင် မချစ်ခင်သော ပုဂ္ဂိုလ်အား ချစ်အပ်သောအရာ၌ထားခြင်းသည် ပင်ပန်း၏။ အလွန်ချစ်အပ်သောပုဂ္ဂိုလ်အား လျစ်လျူအရာ၌ ထားရခြင်းသည်လည်း ပင်ပန်း၏။ လျစ်လျူပုဂ္ဂိုလ်အား ဂရုအရာ၌ထားရခြင်းသည် ပင်ပန်း၏။ ဝေရီပုဂ္ဂိုလ်တို့အား ချစ်အပ်သော အရာ၌ထားရခြင်းသည် ပင်ပန်း၏။ သမာဓိကို ဖြစ်စေခြင်းငှာ စွမ်းနိုင်ခဲ၏။ ထို့ကြောင့် ဤလေးဦးသောပုဂ္ဂိုလ်တို့၌ ရှေးဦးစွာ အစထား၍ မေတ္တာမပွားရသတည်း။

**(ခ) သီးသန့်ပိုင်းခြား၍ မပွားထိုက်သူ**

အသွင်မတူသော မိန်းမတို့အား ရှေးဦးစွာ ပိုင်းခြားကန့်သတ်၍ မေတ္တာပွားမှု တပ်မက်သော ရာဂတရား ဖြစ်တတ်၏။

**(ဂ) လုံးဝ မပွားထိုက်သူ**

သေလွန်ပြီးသောပုဂ္ဂိုလ်အား အာရုံပြုကာ မေတ္တာပွားပါမူ ပရိဒေဝတရား ဖြစ်တတ်၏။

**(ဃ) ရှေးဦးစွာပွားထိုက်သူ**

အားလုံးသော ပုဂ္ဂိုလ်တို့၏ ရှေးဦးစွာ မိမိကိုယ်ကိုသာလျှင် မေတ္တာပွားများအပ်၏။

**(င) မေတ္တာပွားများပုံ**

ငါသည် ကိုယ်၏ချမ်းသာခြင်းနှင့် ပြည့်စုံစေသတည်း။ ငါသည် ဆင်းရဲခြင်းမှ ကင်းစေသတည်း။ ငါသည် ရန်သူအပေါင်း မကောင်းမှုအပေါင်းမှ ကင်းစေသတည်း။ ငါသည် ပျက်စီးခြင်း၊ နှလုံးပင်ပန်းခြင်း၊ အမျက်ထွက်ခြင်းမှ ကင်းစေသတည်း။ ငါသည် ဥပဒ္ဒဝေါအပေါင်းမှ ကင်းစေသတည်း။ ငါသည် ချမ်းသာလျက် မိမိကိုယ်ကို ကောင်းစွာ ရွက်ဆောင်နိုင်စေသတည်း။

**(စ) ကိုယ်နှင့်ချင်းစာ ပွားမေတ္တာ**

အနှစ်တစ်ရာ၊ အနှစ်တစ်ထောင်ပွားသော်လည်း အပ္ပနာကို မဖြစ်နိုင်၊ သူတစ်ပါးတို့အား ပွားစေအပ်သော မေတ္တာဘာဝနာသည်သာ အပ္ပနာကို ဖြစ်စေနိုင်၏။ ထို့ကြောင့် ဝိဘင်းပါဠိတော်၌ ဤသို့ မိမိကိုယ်ကို ရှေးဦးစွာ အဖန်ဖန် ပွားအပ်သော မေတ္တာဘာဝနာသည် အနှစ်သူတစ်ပါးတို့အား မေတ္တာပွားစေခြင်းကိုသာ ဟောတော်မူ၏။ မိမိကိုယ်ကို ပွားစေခြင်းကား မိမိ၏ချမ်းသာကို လိုလားခြင်း၊ ဆင်းရဲကို စက်ဆုပ်ခြင်း၊ အသက်ရှင်လိုခြင်း၊ မသေလိုခြင်းကို အလိုရှိသကဲ့သို့ မိမိကို သက်သေပြု၍ တစ်ပါးသော သတ္တဝါတို့၌ ချမ်းသာခြင်းကို အလိုရှိသည်၏အဖြစ်ကို ပြီးနိုင်၏။

**(ဆ) အစဉ်အတိုင်းပွားပါ**

မိမိကိုယ်ကို မေတ္တာပွားစေပြီးသည်၏ အခြားမဲ့၌ မငြိုမငြင် မေတ္တာဖြစ်လွယ်ခြင်း

အကျိုးငှာ မိမိ၏ ချစ်အပ်၊ အလိုရှိအပ်၊ ချီးမွမ်းအပ်သော ဆရာသည်လည်းကောင်း၊ သီလ စသည်ဖြင့် ဆရာပမာဏရှိသော သူသည်လည်းကောင်း၊ ဥပဇ္ဈာယ်ဆရာသည်လည်းကောင်း ဥပဇ္ဈာယ်ဆရာ ပမာဏရှိသော သူသည်လည်းကောင်းရှိသည်ဖြစ်အံ့၊ ထိုဆရာ အစရှိသော ပုဂ္ဂိုလ်တို့၏ ဆိုအပ်ပြီးသောဂုဏ်ကို အဖန်ဖန်တလဲလဲ အောက်မေ့ဆင်ခြင်၍-

ငါ၏ဆရာသည် ချမ်းသာနှင့်ပြည့်စုံစေသတည်း...စသည်ဖြင့် ပွားရာ၏။ (ဆိုခဲ့ပြီးသော နည်းကို မှီး၍ပွားပါ)။

ယင်းသို့ (ဆရာစ) သောပုဂ္ဂိုလ်၌ ပွားစေသောမေတ္တာဖြင့် မကြာမြင့်မီပင် ဉပစာရ သမာဓိ, အပ္ပနာသမာဓိတရားသည် ပြည့်စုံသည်သာ ဖြစ်၏။

ထိုသို့ ပြည့်စုံသော်လည်း ဤမျှဖြင့် ရောင့်ရဲခြင်းကို မပြုမူ၍ မိမိကိုယ်တည်း၊ ပိယပုဂ္ဂိုလ် တည်း၊ မဇ္ဈပုဂ္ဂိုလ်တည်း၊ ဝေရီပုဂ္ဂိုလ်တည်းဟု အပိုင်းအခြားကို ဖျက်ခြင်းငှာ အလိုရှိသော ယောဂီသည် ဉပဇ္ဈာယ်ဆရာ၌ ပွားအပ်သောမေတ္တာဖြင့် အပ္ပနာကို ရပြီးနောက်၌ အလွန် ချစ်အပ် ဆင်းရဲဖော် ချမ်းသာဖက်ဖြစ်သော သူငယ်ချင်းပုဂ္ဂိုလ်၌ မေတ္တာကို ပွားစေအပ်၏။

အလယ်အလတ်ပုဂ္ဂိုလ်၌ပွားပါ။ ထိုနောက်မှ လျစ်လျူရှုအပ်သော မဇ္ဈတ္တပုဂ္ဂိုလ်၌ မေတ္တာကို ပွားစေအပ်၏။

ထိုနောက်မှ ဆန့်ကျင်ဘက်ရန်သူ (ဝေရီ) ပုဂ္ဂိုလ်၏မေတ္တာကို ပွားစေအပ်၏။

မေတ္တာစိတ်ကို ဆောင်ပို့အပ်၏။ စိတ်ရောက်ဆောင်ပို့ပါ။ ရန်သူကို ပို့ရမည်ဆိုသော စကားသည် (ရန်စိတ်ရှိနေသူ) များအတွက် ပြောခြင်းသာဖြစ်ပါသည်။

ရန်သူမရှိ အကျိုးမဲ့ကိုပြုသော သူတစ်ပါး၌ ရန်သူအမှတ်သညာမဖြစ်သော ယောဂီ သည် မဇ္ဈတ္တပုဂ္ဂိုလ်၌ ငါ၏မေတ္တာစိတ် သည်းခံ၏။ ထိုမဇ္ဈတ္တပုဂ္ဂိုလ်ကို ဝေရီအဖြစ်ဆောင်အံ့ ဟု အားထုတ်ခြင်းကို မပြုအပ်။

## (ဃ) ရန်သူ၌ မေတ္တာစိတ်ရောက်အောင် အမျက်(ဒေါသ) ကို ပယ်ဖျောက်နည်းများ

မေတ္တာမဝင် ဒေါသထင်ခဲ့သော် ပိယစသော ပုဂ္ဂိုလ်သုံးပါးတို့တွင် တစ်ပါးပါးသို့ ပြန်၍ပွားပြီးလျှင် ထိုမေတ္တာစိတ်ကို ပေါင်းကြိတ်သွန်းဖြန့်၍ ဒေါသကြမ်းကို ပယ်ရမည်။

**မှတ်ချက်-**

မကျေ(နပ်)ညက်သေးပါက နောက်သို့ပြန်၍ အစဉ်အတိုင်း မေတ္တာပွားများပါ။

## အခန်း (၃)

### (က) ကကစူပမသုတ္တန် (မူလပဏ္ဏာသမဇ္ဈိမနိကာယ)

တစ်စုံတစ်ယောက်သောသူက သင်ချစ်သား၏
ချစ်သား ဖဂ္ဂုန၊ သင်ချစ်သားအား
မျက်မှောက်သို့ လာရောက်၍ ကျေးဇူးမဲ့စကားကို ပြောဆိုစေကာမူလည်းကောင်း အသင်ချစ်သား
အား တစ်စုံတစ်ယောက်သောသူက လက်ဖြင့်ဖြစ်စေ ခဲ၊ အုတ်ခဲတို့ဖြင့်ဖြစ်စေ တုတ်၊
လှံတံတို့ဖြင့်ဖြစ်စေ၊ ဓားလက်နက်ဖြင့်ဖြစ်စေ သင်ချစ်သားကို ရိုက်နှက်ပုတ်ခတ်စေကာမူ
သင်ချစ်သားသည် ထိုရိုက်နှက်ပုတ်ခတ်ခြင်းဟူသောအကြောင်းကြောင့် ငါ၏စိတ်သည်
ဖောက်ပြန်ထွေပြားမှုကို မဖြစ်စေရ။ ငါသည် ယုတ်မာသောစကားကို ထိုသူတို့၏အပေါ်ဝယ်
ပြန်ကြား၍ မပြောဆိုအံ့။ ထိုသူတို့အပေါ်ဝယ် မေတ္တာရှေ့ထား အမျက်ဒေါသစိတ်ကို ဖယ်ရှား
၍နေအံ့ဟူ၍ အသင်ချစ်သား ကျင့်ရမည်ဟု မဟာကရုဏာရှေ့ထား၍ ဩဝါဒစကား မိန့်ကြား
ခဲ့ပါသည်။ ချစ်သားရဟန်းတို့ ဤလောကဝယ် တစ်ပါးသော ပုဂ္ဂိုလ်တို့က သင်ချစ်သားတို့ကို
အချိန်ကာလဟုတ်၍လည်းကောင်း၊ အချိန်ကာလမဟုတ်ဘဲလည်းကောင်း၊ မှန်ကန်သောစကား
ဖြင့်လည်းကောင်း၊ မမှန်ကန်သောစကားဖြင့်လည်းကောင်း၊ နူးညံ့သောစကားဖြင့်လည်းကောင်း၊
ကြမ်းတမ်းသောစကားဖြင့်လည်းကောင်း အကျိုးနှင့်စပ်သောစကားဖြင့်လည်းကောင်း၊ အကျိုး

နှင့်မစပ်သောစကားဖြင့်လည်းကောင်း၊ မေတ္တာရှေ့ထား၍လည်းကောင်း၊ ဒေါသရှေ့ထ
လည်းကောင်း သင်ချစ်သားတို့ကို ပြောကြားကြပေလိမ့်မည်။ ထိုသို့ သင်ချစ်သားတို့
ပြောလာသောအခါ သင်ချစ်သားတို့သည် ဖောက်ဖောက်ပြန်ပြန် မဖြစ်စေလင့်။ ငါတို့သ
ထိုသူတို့အပေါ်ဝယ် တစ်ဖန် ယုတ်မာသောစကားကို မဖြစ်စေပါ။ ထိုသူတို့အပေါ်
မေတ္တာရှေ့ထား ဒေါသကိုဖယ်ရှား၍သာ မေတ္တာနှင့်ယှဉ်သောစိတ်ဖြင့် နေကြကုန်အံ့။ ထိုပုဂ္
ကိုလျှင် အကြောင်းရင်းခံ၍ သတ္တလောကကြီးတစ်ခုလုံးကို အပွနာမေတ္တာတရား ဖြန့်ဖြူးေ
ကုန်အံ့ဟူ၍ သင်ချစ်သားတို့ ကျင့်ကြံကြိုးကုတ်အားထုတ်ကြရမည်။

ချစ်သားရဟန်းတို့ ခိုးသူလူကြမ်းတို့သည် သင်ချစ်သားတို့၏ လက်ခြေအစရှိေ
အင်္ဂါကြီးငယ်ကို နှစ်ဖက်အရိုးရှိသောလွှဖြင့် ဝိုင်းဝန်း၍ ဖြတ်တောက်စေကာမူ ထိုဖြတ်တေ
သော ခိုးသူလူကြမ်းတို့အပေါ်ဝယ် သင်ချစ်သားတို့သည် အမျက်ဒေါသကို အကယ်၍ထား
ငါဘုရား၏အဆုံးအမဩဝါဒကို လိုက်နာသည်မမည်ပေ။

ထိုသို့လျှင် မိမိအပေါ်ဝယ် ရိုင်းရိုင်းပျပျ ရက်ရက်စက်စက် နှစ်ဖက်သော အရိုးရှိေ
လွှသွားဖြင့် အင်္ဂါကြီးငယ်ကို ဖြတ်တောက်သော ပုဂ္ဂိုလ်တို့၏အပေါ်၌ပင်သော်လည်း ငါ
စိတ်နှလုံးသည် ထိုသူတို့အပေါ်ဝယ် တစ်စုံတစ်ရာ ဖောက်ဖောက်ပြန်ပြန် ထွေထွေပြားပြ
မဖြစ်စေရ။ ငါတို့သည် ယုတ်မာသောစကားကို မပြောကြားကုန်အံ့။ ငါတို့သည် မေတ္တာ
ယှဉ်သောစိတ်ကိုသာလျှင် ဖြစ်ကြအံ့။ ဤပုဂ္ဂိုလ်၏အပေါ်ဝယ် မေတ္တာနှင့်ယှဉ်သောစိတ်
ဖြစ်စေပြီးလျှင် ဤပုဂ္ဂိုလ်လျှင် အကြောင်းရင်းခံ၍ လောကကြီးတစ်ခုလုံးကို မေတ္တာ
ယှဉ်သောစိတ်ဖြင့်နေပေအံ့ဟု သင်ချစ်သားတို့သည် ကျင့်ကြံပွားများလိုက်နာအားထုတ်ရမည်

ဤသို့ ကကစူပမာ ဩဝါဒဒေသနာကို အဖန်တလဲလဲ နှလုံးသွင်းသော သင်ချစ်သား
သန္တာန်ဝယ် သည်းမခံနိုင်ဖွယ်ရာ ရှန့်ရင်းသောစကား၊ သည်းမခံနိုင်ဖွယ်ရာ သေးသိမ်သေ
စကားဟူ၍ ရှိပါအံ့လော။

မရှိပါဘုရား။

ချစ်သားရဟန်းတို့ ထိုသို့ဖြစ်ရကား သင်ချစ်သားတို့သည် ဤယခု ငါဘုရား ဟောတေ
မှုပြီးသည့်အတိုင်း လွှနှင့်တိုက်သော ခိုးသူယောကျ်ားတို့ကို ဥပမာထားကာ ဟောကြားအ
သော ကကစူပမသုတ္တန်ဒေသနာ ဩဝါဒတရားတော်မြတ်ကို သင်ချစ်သားတို့သည် အမြ
မပြတ် နှလုံးသွင်းကြရန်ဟူ၍ မဟာကရုဏာတော် ပြဋ္ဌာန်းကာ သဗ္ဗညုမြတ်စွာဘုရားသည်
ရဟန်းတော်အရှင်သူမြတ်တို့အား ဩဝါဒစကား မိန့်ကြားခဲ့ပါသည်ဘုရား။

(ခ) ရန်သူ ဝမ်းမြောက်ကြောင်းတရား ၇ ပါး

ရဟန်းတို့ ရန်သူတို့ နှစ်သက်အပ်ကုန်သော ရန်သူတို့သည် ပြုအပ်ကုန်သော ဤ ၇ ပါးသောတရားတို့သည် (ဒေါသ) အမျက်ထွက်လေ့ရှိသော မိန်းမသို့လည်းကောင်း၊ ယောကျ်ားသို့လည်းကောင်း ရောက်လာကုန်၏။ အဘယ် ၇ ပါးတို့နည်းဟူမူကား-

၁။ အဆင်းမလှခြင်း အဆင်းမလှ (မူကောင်းလေစွ)
၂။ ဆင်းရဲခြင်းနှင့် ဆင်းရဲဒုက္ခကို မတွေ့ရမူ ကောင်းလေစွ၊
၃။ စင်ကင်းနေ များစွာ ဥစ္စာမရှိမူ ကောင်းလေစွ၊
၄။ ပျက်ဘောဂ အသုံးအဆောင်မရှိ ဆင်းရဲမွဲတေမူကောင်းလေစွ၊
၅။ ကင်းပကျော်မေတ္တာ ကျော်စောသတင်း ကင်းမဲ့မူ ကောင်းလေစွ၊
၆။ သုဂတိမလို သုဂတိဘဝသို့ မရောက်မူ ကောင်းလေစွ၊
၇။ အပါယ်ကိုလားလိုစေလားပါ အပါယ်သို့ရောက်မူ ကောင်းလေစွ။

ယုတ်တရား ၇-ပါး တင်စားဆုံးမရာ။

ဤ ၇-ပါးသော အယုတ်တရားတို့သည် အမျက်ထွက်လေ့ရှိသော ယောကျ်ား၊ မိန်းမတို့သို့ ထင်ရှားစွာဖြစ်လိမ့်မည်ဟု ဆင်ခြင်၍ အမျက်ဒေါသကို ပယ်သတ်ကုန်ရာ၏။

အို ရဟန်းတို့၊ ဥပမာအားဖြင့် နှစ်ဖက်သောအစွန်း၌ မီးလောင်သောအလယ်၌ မစင်ကျင်ကြီးဖြင့် လိမ်းကျံအပ်သော သူသေကောင် ပုတ်သောထင်း စသည်ရှာ၍ ထင်းကိစ္စကို မပြီးစေ၊ တော၌လည်း ထင်းအလို့ငှာ အသုံးမကျ။ အို ရဟန်းတို့၊ ဒေါသအမျက်ထွက်သော ပုဂ္ဂိုလ်ကို ထိုထင်းကုလားတုံးနှင့်တူသော ဥပမာရှိ၏ဟူ၍ ငါဘုရား ဟောတော်မူ၏ဟူ၍ ဟောတော်မူသည်မဟုတ်လော။

(ဂ) အက္ကောသသုတ်

ဘာရဒွါဇပုဏ္ဏား အကြင်သူသည် မိမိအပေါ် တစ်စုံတစ်ယောက်က အမျက်ထွက်၍နေသည်ကို တစ်ဖန် တုံ့ပြန်အမျက်ထွက်ခဲ့သည်ဖြစ်ပါအံ့ ထိုပုဂ္ဂိုလ်အားပင်လျှင် ထိုသို့တစ်ဖန်အမျက်ထွက်ခြင်းကြောင့် ထိုပုဂ္ဂိုလ်အောက်အတိုင်းထက် အလွန်ယုတ်မာခြင်း ဖြစ်လေရာ၏။ မိမိအပေါ် တစ်စုံတစ်ယောက်သောသူတို့ အမျက်ထွက်သည်ကို အမျက်တုံ့ပြန်မထွက်သော ပုဂ္ဂိုလ်သည် အောင်နိုင်ခဲလှစွာသော စစ်ပွဲကို အောင်သည်မည်ပါ၏။

ယောနိသောမနသိကာရ ခတ်ခံရှိသော အကြင်အမျိုးကောင်းသား၊ အမျိုးကောင်းသမီးတို့သည် သူတစ်ဖက်သား ပြင်းထန်စွာ အမျက်ထွက်သည်ကို ဉာဏ်ပညာဖြင့် ဆင်ခြင်သိမြင်

ပြီးလျှင် သတိကိုရှေ့ထား၍ အမျက်တရားကို ငြိမ်းစေပါ၏။ ထိုသို့သော အမျိုးကောင်းသား၊ အမျိုးကောင်းသမီးသည်လည်းကောင်း၊ ထိုအမျက်ထွက်သောသူ၏လည်းကောင်း နှစ်ဦးသား ဖြစ်သောပုဂ္ဂိုလ်တို့၏ အကျိုးစီးပွားကို ကျင့်ကြံပါပေသည်။

ထိုသို့ ဟောတော်မူသောကြောင့် ထိုသင်သည် ယခုအခါ ဤသို့ အမျက်ဒေါသထွက်မူကား မြတ်စွာဘုရား၏ အဆုံးအမကို လိုက်နာသည် မဖြစ်လတ္တံ့၊ ရန်သူက မိမိအပေါ်ပြုထိုက်သည်များကို မိမိကိုယ်တိုင် မိမိအား ပြုလုပ်သည်ဖြစ်လတ္တံ့၊ လူစည်းစိမ်လည်းဆုံးရှုံး၊ ရဟန်းကိစ္စမပြီးဖြစ်လတ္တံ့ဟူ၍ မိမိကိုယ်ကို အားထုတ်ခြင်းပြု၍ ဤသို့ဆင်ခြင်ကာ အမျက်ဒေါသကို ငြိမ်းစေရမည်။

## (ဃ) ကောင်းသောအကျင့်ကို အောက်မေ့ဆင်ခြင်၍ ဒေါသငြိမ်းစေပုံ

ဆိုခဲ့ပြီးသောနည်းဖြင့် ဆုံးမ၍ ဒေါသမငြိမ်းသေးသော် ရန်သူဖြစ်သောသူအား ကိုယ်ကျင့်သာကောင်း၍ နှုတ်စိတ်မကောင်းအံ့၊ မကောင်းသော နှုတ်စိတ်အမူအကျင့်ကို မအောက်မေ့ မကြံစည်မူ၍ ကောင်းသောကိုယ်အကျင့်ကိုသာ အဖန်ဖန် အောက်မေ့၍ ဒေါသကို ငြိမ်းစေရမည်။

ကိုယ်အကျင့်ကောင်းသူ၏အဖြစ်ကို ဝတ်ကို ဖြည့်ကျင့်ခြင်းတည်းဟူသော ကောင်းသောအမူကိုပြုသဖြင့် သိအပ်၏။

နှုတ်ကျင့်သာကောင်း၍ ကိုယ်စိတ်မကောင်းအံ့၊ မကောင်းသောကိုယ်စိတ်အမူအကျင့်ကို မအောက်မေ့ မကြံစည်မူ၍ ကောင်းသောနှုတ်အကျင့်ကိုသာ အဖန်ဖန် အောက်မေ့၍ ဒေါသကို ငြိမ်းစေရမည်။

နှုတ်ကျင့်ကောင်းသူ၏အဖြစ်ကို သဘောအားဖြင့် အစေ့အစပ်ပြုခြင်း၌ သည်းခံခြင်း (ခန္တီ) ဟုဆိုအပ်သော ပြေပြစ်သောအဖြစ်နှင့် ပြည့်စုံခြင်း၊ ချစ်ဖွယ်သာယာ နားချမ်းသာအောင် ဆိုမိန့်တတ်ခြင်း အစရှိသည်ဖြင့် သိအပ်၏။

မနောအကျင့်သာကောင်း၍ ကိုယ်နှုတ်မကောင်းအံ့၊ မကောင်းသော ကိုယ်နှုတ်အကျင့်ကို မအောက်မေ့ မကြံစည်မူ၍ ကောင်းသောစိတ်အကျင့်ကိုသာ အဖန်ဖန် အောက်မေ့၍ အမျက်ဒေါသကို ငြိမ်းစေရမည်။ စိတ်အကျင့်ကောင်းသည်၏အဖြစ်ကို ငြိမ်သက်သော စိတ်ရှိသည်ဖြစ်၍ စေတီဗောဓိပင် စသည်တို့ကို အရိုအသေပြု၍ ရှိခိုးခြင်း၊ တရားတော်ကို ရိုသေစွာ နားစိုက်၍နာခြင်း စသည်ဖြင့် သိအပ်၏။

ဒုစရိုက်လုံးစုံ အကုန်အစင်ပြုသည်ဖြစ်အံ့၊ ဤရန်သူအား ယခုလောက၌ ချမ်းချမ်းသာသာ

သွားလာနေထိုင်ရသော်လည်း နှစ်ရက် သုံးရက်လွန်ကာလ၌ ငရဲကြီးရှစ်ထပ် ဥဿဒငရဲ တစ်ဆယ့်ခြောက်လုံးကို ပြည့်စေသည်ဖြစ်လတ္တံ့ဟု သနားခြင်းကိုဖြစ်စေ၍ အမျက်ဒေါသကို ငြိမ်းစေရမည်။

သုစရိုက်သုံးပါးကို ကောင်းစွာကျင့်သည်ဖြစ်အံ့၊ ထိုသုစရိုက်တို့ကို အဖန်ဖန် အောက်မေ့၍ အမျက်ဒေါသကို ငြိမ်းစေရမည်။ ဤနေရာ၌ အာဃာတပဋိဝိနယသုတ်ကို တင်ပြပါမည်။

## (င) အာဃာတပဋိဝိနယသုတ် မြန်မာပြန် (အင်္ဂုတ္တိုရ်)

ရန်ငြိုးဖွဲ့ခြင်းကိုးမျိုးတို့ကို ငြိမ်းစေကြောင်း ကောင်းမြတ်သောတရားတို့သည် ငါးမျိုးတို့ ရှိကုန်၏။ ယင်းမျက်ကြွတ်ကိုးတန် ရန်ဖွဲ့ခြင်းငြိမ်းကြောင်းတရား ငါးပါးအာရုံ၌ ရဟန်းသည် မိမိသန္တာန်၌ ဖြစ်ပေါ်သော ရန်ငြိုးတရားကို အကြွင်းမဲ့ ပယ်ဖျောက်ရမည်။ ငါးပါးသော အာရုံအကြောင်းတို့ဟူသည်မှာ-

၁။ ချစ်သားရဟန်းတို့ အကြင်ပုဂ္ဂိုလ်အပေါ်၌ကို ရန်ငြိုးဖွဲ့မှုသည် ဖြစ်ပေါ်၏။ ထိုပုဂ္ဂိုလ် အပေါ်၌ မေတ္တာဘာဝနာကို အပွနာရျာန်ပေါက်ပွားများရမည်။ ဤမေတ္တာဘာဝနာကို ပွားများ ခြင်းဖြင့် ထိုရန်ငြိုးဖွဲ့ခံရသောပုဂ္ဂိုလ်၏အပေါ်၌ ဖြစ်ပေါ်သော ရန်ငြိုးတရားကို ပယ်ဖျောက် ရမည်။

၂။ ချစ်သားရဟန်းတို့ အကြင်ပုဂ္ဂိုလ်အပေါ် ဒေါသတရားဖြစ်ပွားအံ့၊ ထိုပုဂ္ဂိုလ်အပေါ်၌ ကရုဏာဘာဝနာကို အပ္ပနာရျာန် ပေါက်ရောက်သည်တိုင်အောင် ပွားများရမည်။ ဤနည်းဖြင့် ထိုပုဂ္ဂိုလ်အပေါ် ဖြစ်ပေါ်သော ရန်ငြိုးကို အကြွင်းမဲ့ ငြိမ်းစေရမည်။

၃။ ချစ်သားရဟန်းတို့ အကြင်ပုဂ္ဂိုလ်အပေါ်၌ ရန်ငြိုးတရား ဖြစ်ပေါ်၏။ ထိုပုဂ္ဂိုလ်အပေါ် ဗြဟ္မဝိဟာရတရားအပေါင်းတို့တွင် ဥပေက္ခာဗြဟ္မစိုရ်တရားကို အပ္ပနာရျာန်ပေါက်ပွားများ ရမည်။ ဤနည်းဖြင့် ထိုပုဂ္ဂိုလ်အပေါ်၌ ဖြစ်ပေါ်သော ရန်ငြိုးတရားကို ဖျောက်အပ်၏၊ ငြိမ်းစေအပ်၏။

၄။ ချစ်သားရဟန်းတို့ အကြင်ပုဂ္ဂိုလ်အပေါ်၌ ရန်ငြိုးတရား၊ ဒေါသတရားပြန့်ပွားပြီး ထိုပုဂ္ဂိုလ်၏အပေါ်၌ နှလုံးမသွင်းခြင်း၊ သတိမမူခြင်း၊ ထိုပုဂ္ဂိုလ်ကို တောင်ကြီးနံရံကြီးနှင့် ခြားထားသည့်ပမာ အမှတ်မရအောင် သတိမမူခြင်းဖြင့် နှလုံးမသွင်းခြင်းသို့ ရောက်အပ်၏။ ရောက်ရမည်။ ယင်းသို့ နှလုံးမသွင်းခြင်း၊ သတိမမူခြင်းဖြင့် ထိုပုဂ္ဂိုလ်အပေါ်၌ဖြစ်သော ရန်ငြိုးကို ဖယ်ရှားအပ်ပေ၊ ငြိမ်းအေးစေအပ်၏။

၅။ ချစ်သားရဟန်းတို့ အကြင်ပုဂ္ဂိုလ်အပေါ်၌ ရန်ငြိုးဖွဲ့ခြင်း၊ အမျက်ဒေါသတရား

ဖြစ်ပေ၏။ ထိုပုဂ္ဂိုလ်အပေါ်၌ ဤအရှင်ကား ကံသာလျှင် မိမိဥစ္စာ ရှိ၏။ ကံသာလျှင် အမွေခံရှိ၏။ ကံသာလျှင် အကြောင်းရင်းရှိ၏။ ကံသာလျှင် အဆွေအမျိုး ရှိ၏။ ကံသာလျှင် ပုန်းအောင်းလဲလျောင်းရာ ရှိ၏။ အကြင်ကောင်းမှု မကောင်းမှုကံကို ဤအရှင်သည် ပြုလုပ်အံ့၊ ထိုအရှင်ပြုလုပ်သော ကောင်းမှု မကောင်းမှုကံ၏အကျိုးဝိပါက်တို့ကို ထိုအရှင်သည်ပင် ခံရလိမ့်မည်ဟု ထိုရန်ငြိုးဖွဲ့ခံသော ပုဂ္ဂိုလ်အပေါ်၌ ကမ္မသကတ ကံသာလျှင် သူ့ဥစ္စာရှိကြောင်းကို ဆင်ခြင်အပ်၏။ ဆောက်တည်အပ်၏။

ချစ်သားရဟန်းတို့ ဤနည်းဖြင့် ထိုပုဂ္ဂိုလ်အပေါ်၌ဖြစ်သော ရန်ငြိုးတရားကို ပယ်ရှားရမည်၊ ငြိမ်းစေရမည်။

ချစ်သားရဟန်းတို့...ရန်ငြိုးကို ပယ်ဖျောက်ကြောင်း၊ ရန်ငြိုးကို ငြိမ်းစေကြောင်း ကောင်းမြတ်သော တရားတို့သည်ကား ဤဆိုအပ်ပြီးသောအတိုင်း မေတ္တာဘာဝနာကို ပွားများခြင်း၊ ကရုဏာဘာဝနာကို ပွားများခြင်း၊ ဥပေက္ခာဘာဝနာကို ပွားများခြင်း၊ ထိုပုဂ္ဂိုလ်၌ နှလုံးမသွင်းခြင်း၊ ထိုပုဂ္ဂိုလ်၏ ကံသာလျှင် မိမိဥစ္စာရှိကြောင်း၊ မိမိကံ၏အမွေကို မိမိသည်ပင် ခံပေလိမ့်မည်ဟု ဆင်ခြင်ခြင်း၊ ဤငါးပါးသောတရားတို့သည် ရန်ငြိုးဖျောက်ကြောင်း၊ ရန်ငြိုးငြိမ်းကြောင်း ကောင်းမြတ်သောတရားတို့ဖြစ်သည်ဟု ရန်ငြိုးဖျောက်ကြောင်း ကောင်းမြတ်သော တရားငါးပါးတို့ကို ဖော်ပြ၍ဖြစ်သော ဤပဋိဃဝိနယအမည်ရှိသော သုတ္တန်ဒေသနာတော်မြတ်ကို လျှောက်ဆိုအပ်ပြီးသော အချင်းအရာအားဖြင့် သဗ္ဗညုမြတ်စွာဘုရား ဟောကြားတော်မူခဲ့ပါသည်။

## (စ) လမ်းမှားမလိုက်နဲ့

ပညာရှိ အကျိုးမဲ့ကိုဖြစ်စေတတ်သော အမျက်ထွက်ခြင်းဟုဆိုအပ်သော ဒုဂ္ဂတိလမ်းမှားသို့ ရန်သူသွားအံ့၊ သင်သည် ထိုလမ်းမှားသို့ မလိုက်ပါလင့်ဟု ကိုယ်ကိုဆုံးမ၍ အမျက်ဒေါသကို ပယ်ရမည်။

## (ဆ) ကျွန်ကို ရန်မရှာပါနှင့်

ပညာရှိ ဒေါသအလိုသို့လိုက်၍ ရန်ပြုသောရန်သူသည် ကျွန်နှင့်တူ၏။ အမျက်ဒေါသသည် သခင်နှင့်တူ၏။ ရန်သူကို တဖန်ပြန်၍ အမျက်ထွက်သော် ကျွန်ကို ရန်တုံ့ပြန်သည် မည်ကုန်၏။ ရန်သူ ပစ်လွှတ်လိုက်သော (ခဲ) လုံတံ၊ အုတ်၊ ကျောက်ကိုသာလိုက်၍ ကိုက်သောခွေးမိုက်၏ ရန်မငြိမ်းခြင်းနှင့်တူ၏။ သခင်နှင့်တူသော အတွင်းမူလဖြစ်သော

အမျက်ဒေါသစိတ်ကို ပယ်ခြင်းသည်သာ အများသို့မလိုက်ဘဲ အမှုသည်နှင့် ပစ်လွှတ်သူကို ကိုက်သော ခြသေ့မင်းနှင့်တူ၏ဟု မိမိကိုယ်ကိုမိမိ ဆုံးမ၍ အမျက်ဒေါသကို ငြိမ်းသတ်စေရမည်။

(ဓ) ဖြစ်ပျက်ကိုမြင် ဒေါသစင်

ပညာရှိ၊ သင့်ကို ပြစ်မှားသောခန္ဓာအား ခဏိကအားဖြင့် ချုပ်လေပြီ။ ယခု အဘယ်ခန္ဓာကို ပြစ်မှားမည်နည်း။ သင့်ကို ပြစ်မှားသောခန္ဓာမှ တစ်ပါးသောခန္ဓာကို မပြစ်မှားသင့်ဟု မိမိကိုယ်ကို ဆုံးမ၍ အမျက်ဒေါသကို ပယ်သတ်ရာ၏။

(ၡ) စိတ်ချမ်းသာအောင်နေပါ

ပညာရှိရန်သူသည် ဆင်းရဲကိုပြုနိုင်လျှင် ကိုယ်၌သာပြုနိုင်ရာသည်။ သင်၏စိတ်၌ကား ရန်သူငမွဲ ဆင်းရဲပြုနိုင်အံ့သောအရာမဟုတ်၊ ထိုသို့ဖြစ်ပါလျက် ရန်သူကို အမျက်ထွက်၍ စေတသိကဒုက္ခကို သူ ဝမ်းမြောက်အောင် ဖြစ်စေချင်တော့သလောဟု ကိုယ့်ကို ဆုံးမ၍ (အမျက်) ဒေါသကို ငြိမ်းသတ်စေရာ၏။

(ည) ဒေါသကို စွန့်သင့်တယ်

ပညာရှိ သင်သည် မိဘ စသောဆွေမျိုးအပေါင်းကို စွန့်နိုင်ပါလျက် အဘယ်ကြောင့် အမျက်ဒေါသကို မစွန့်နိုင်ဘဲ ရှိရအံ့နည်းဟု မိမိကိုယ်ကို ဆုံးမ၍ အမျက်ဒေါသကို ငြိမ်းသတ်စေရာ၏။



## အခန်း (၄)

### (က) သီလဆင်ခြင် ဒေါသစင်

ပညာရှိ သင်သည် သီလစောင့်စည်းသော သူတော်ကောင်းကြီးဖြစ်ပါလျက် စောင့်စည်းအပ်သောသီလ၏ အရင်းမူလဖြစ်သော ဟီရိဩတ္တပ္ပ ခန္တီမေတ္တာ၊ ကရုဏာတို့ကို ဖျက်ဆီးတတ်သော အမျက်ဒေါသကို မပယ်မရှား မွေးထားဘိမူ သင်နှင့်တူသော မိုက်သူမရှိဟု မိမိကိုယ်ကို ဆုံးမ၍ အမျက်ဒေါသကို ငြိမ်းသတ်စေရာ၏။

### (ခ) ရန်သူအကြိုက် တို့မလိုက်

ပညာရှိ သင့်ကို ဒေါသဖြစ်အောင် ရန်သူဆောင်လျက် မနှစ်သက်အပ်သောအမှုကို အကယ်၍ ပြုစေဦးတော့ သင်သည် ဒေါသဖြစ်စေသဖြင့် ရန်သူ၏အလိုကို မဖြည့်စေလင့်ဟု ကိုယ့်ကိုယ်ကို ဆုံးမ၍ အမျက်ဒေါသကို ငြိမ်းစေရမည်။

**(ဂ) ကံတရားကို ဆင်ခြင်၍ ဒေါသငြိမ်းစေပုံ**

ယင်းသို့ဖျောက်ပါလျက် အမျက်မငြိမ်းခဲ့မူကား မိမိ၏လည်းကောင်း၊ ရန်သူ၏လည်းကောင်း ကံသာလျှင် ဥစ္စာရှိသောအဖြစ်ကို ဆင်ခြင်အပ်၏။ (ဆင်ခြင်၍ ဒေါသကို ငြိမ်းစေရာ၏။)

**(ဃ) စိတ်ဆိုးနေလို့ အကျိုးမရှိ**

အဘယ်သို့ ဆင်ခြင်အပ်သနည်းဟူမူ အကြင်ပညာရှိ သင်သည် ရန်သူအား အမျက်ထွက်၍ ဘယ်အကျိုးရှိအံ့နည်း။ သင် အမျက်ထွက်ခြင်းလျှင် အကြောင်းရှိသော မကောင်းမှုကံသည် သင်၏အကျိုးမဲ့ကိုသာ ဆောင်လတ္တံ့မဟုတ်လော၊ သင်သည် ကံသာလျှင် ဥစ္စာရှိ၏၊ ကံသာလျှင် အမွေရှိ၏၊ ကံသာလျှင် အကြောင်းရှိ၏၊ ကံသာလျှင် ဆွေမျိုးရှိ၏၊ ကံသာလျှင် ကိုးကွယ်လဲလျောင်းရာ ရှိ၏။ အကြင်ကံကို သင် ပြုအံ့၊ ထိုကံ၏အမွေခံသာ ဖြစ်လတ္တံ့၊ ထို့ကြောင့် သူ့အား အမျက်ထွက်၍ အဘယ်အမှု ပြီးစီးပေးအံ့နည်း။

**(င) ကောင်းကျိုးမပေးသော ဒေါသ**

သင်၏အမျက်ထွက်သော မကောင်းမှုကံသည် သမ္မာသမ္ဗောဓိဆု၊ ပစ္စေကဗောဓိဆု၊ ဗြဟ္မာသကြားအဖြစ်ကိုလည်းကောင်း ပဒေသရာဇ် သာဝကဗောဓိဆုကိုလည်းကောင်း၊ ပြီးစေနိုင် ကရာဇ် စကြဝတေး စသည်တို့တွင် တစ်ပါးပါးသော စည်းစိမ်ကိုလည်းကောင်း ပြီးစေနိုင်သည်မဟုတ်။ စင်စစ်သော်ကား သင်၏ဒေါသသည် ချမ်းသာမှုလျော့ပါး စားကြွင်းစားကျန် အဖြစ် အဆင်းမလှသောအဖြစ်ကိုလည်းကောင်း ငရဲတိရစ္ဆာန်တို့၌ ကြီးစွာသော ဆင်းရဲမှုကို လည်းကောင်း ဖြစ်ဘိရာသည်။

**(စ) မီးကျီးဒေါသ**

အမျက်ထွက်သော သင်သည် လက်နှစ်ဖက်ဖြင့် ရဲရဲညီးသော မီးကျီးခဲကိုကိုင်၍ သူတစ်ပါးအား ပစ်ခတ်သော ယောကျ်ားသည် မိမိကိုသာ ရှေးဦးစွာ ထိုမီးလောင်သကဲ့သို့ လည်းကောင်း။

**(ဆ) မစင်ဒေါသ**

မစင်ကို ကိုင်၍ပစ်သော ယောကျ်ားသည် မိမိ၌သာ အနံ့မကောင်း လူးသကဲ့သို့လည်းကောင်း၊ သင်၌သာ မကောင်းမှုကံသည် ကပ်နွဲ့လိမ်းမည်တကားဟု မိမိ၏ကံသာလျှင် ဥစ္စာရှိသောအဖြစ်ကို ဆင်ခြင်အပ်သတည်း။ ဤသို့ ဆင်ခြင်ပြီးမှ ရန်သူဖြစ်သောသူသည်လည်း ကံသာလျှင် ဥစ္စာရှိသောအဖြစ်ကို ဤနည်းအတူ ကြံဆင်ခြင်လျက် အမျက်မထွက်ခြင်း ဒေါသကို ငြိမ်းစေအပ်၏။

**(ဇ) လေညာသို့ အမှိုက်လွှင့်ခြင်း**

အကြင်သူသည် မည်သူ့ကိုမျှ မပြစ်မှားတတ်သောလူအား ပြစ်မှား၏၊ ပြစ်မှားသော မကောင်းမှုကံသည် ထိုပြစ်မှားသော လူမိုက်ထံသို့သာလျှင် မကောင်းကျိုးပေးသောအားဖြင့် ပြန်လာ၏။ (ဥပမာ) လေညာသို့ ပစ်လွှတ်လိုက်သော သိမ်မွေ့သော မြူမှုန့်သည် ပစ်လွှင့်သူထံ ပြန်လာသကဲ့သို့တည်း။



## အခန်း (၅)

**(က) သီလဝမင်းဝတ္ထု**

မဟာသီလဝမင်းသည် နန်းတွင်း၌ ပညာရှိ၊ ဗာရာဏသီပြည်ကြီးရှင် ဘုရားလောင်း မဟာသီလဝမင်းသည် နန်းတွင်း၌ မှုပြစ်ရှိသော အမတ်တစ်ယောက်ကို တိုင်းပြည်မှ နှင်ထုတ်သော် ကောသလမင်းထံ ခိုဝင်ခစား ၍ ထိုအမတ်စကားဖြင့် ကောသလမင်း ချီတက်လာသော် အမတ်တစ်ထောင်တို့က ရန်သူ ကောသလမင်းကို ဖျက်ဆီးလုပ်ကြံခုခံလိုကြောင်း လျှောက်သော်လည်း အခွင့်မရ လက်နက် ကိုမျှ မစွဲကိုင်ရသဖြင့် နန်းတော်သို့ဝင်၍ အမတ်တစ်ထောင်နှင့်တကွ မဟာသီလဝမင်းကို လက်ပြန်ကြိုး မြဲစွာဆွဲချည်၍ သုသာန်၌ လည်မျှလောက် တွင်းတူး၍မြှုပ်သော်လည်း ရန်သူ ကောသလမင်း၌ မေတ္တာမပျက် အမျက်မဝင် ဖြူစင်သော စိတ်နှလုံးရှိတော်မူသောနှင့်မျှ မတူနိုင်သည့် သည်းခံခြင်းဂုဏ်ကျေးဇူးရှိတော်မူသော ထိုဘုန်းခြောက်စုံ ဂုဏ်တော်အနန္တနှင့် ပြည့်စုံတော်မူသော မြတ်စွာဘုရားကို ဆရာဟူ၍ ညွှန်ကြားသော ထိုယောဂီပုဂ္ဂိုလ်အား ဒေါသနှင့်ယှဉ်သောစိတ်ကို ဖြစ်စေခြင်းငှာ အလွန်မသင့်မလျော် မလျောက်ပတ်ဟူ၍ မိမိကိုယ်ကို ဆုံးမကာ ဆရာဖြစ်တော်မူသော မြတ်စွာဘုရား၏ ရှေးအခါက သည်းခံတော်မူ ဖူးသော ဂုဏ်ကျေးဇူးတို့ကို အဖန်တလဲလဲ အောက်မေ့အပ်၏၊ အောက်မေ့လျက် အမျက်ဒေါသ ကို ငြိမ်းစေရမည်။

## အခန်း (၆)

### (က) ခွေးမျိုးစပ်၍ ဒေါသငြိမ်းသတ်ပုံ

ဤသို့ဆိုခဲ့ပြီးသောနည်းဖြင့် ဆရာဖြစ်တော်မူသော မြတ်စွာဘုရား၏ ရှေးကကျင့်သုံးတော်မူဖူးသော ကျေးဇူးဂုဏ်တော်တို့ကို ဆင်ခြင်ပါသော်လည်း နှေးညွှဲရှည်စွာ ကိလေသာတို့၏ ကျွန်အဖြစ်သို့ ရောက်လျက်ရှိသော ထိုပုဂ္ဂိုလ်အား ထိုအမျက်ဒေါသသည် အကယ်၍ မငြိမ်းအံ့၊ ထိုသို့ဖြစ်ခဲ့သော် ထိုပုဂ္ဂိုလ် အစမထင် သံသရာ၌ ကျင်လည်ဖူးသည်ကိုဟောသော အနမတဂ္ဂိယသုတ်တို့ကို ဆင်ခြင်အပ်ကုန်၏။ မှန်ပေ၏။ အနမတဂ္ဂိယသုတ်တို့၌-

ချစ်သားရဟန်းတို့ ဤမျှ ရှည်လျားသော သံသရာအစွန်ဝယ် အကြင်သူသည်ကား အမိအဘ နောင်ကြီးနောင်ငယ် နှမ အမ သားသမီး စသည် မတော်စပ်ခဲ့ဖူးသောသူဟူ၍ မရှိနိုင်ပေ။

### (ခ) မိဘတော်ခဲ့မယ်ဆိုရင်

ဤရန်သူပုဂ္ဂိုလ်သည် ရှေးလွန်လေပြီးသောကာလ၌ ငါ၏အမိဖြစ်၍ ဆယ်လတာပတ်လုံး ဝမ်းဖြင့်လွယ်၍ ကျင်ငယ်ကျင်ကြီး တံတွေး၊ နှပ် အစရှိသည်တို့ကို စန္ဒကူးကဲ့သို့ စက်ဆုပ်

ရှိခြင်း မရှိသည်ဖြစ်၍ ပယ်ရှားသုတ်သင်၍ ရင်ဖြင့် ဖုံးလွှမ်းလျက် ကိုယ်လက်အင်္ဂါတို့ဖြင့် နှိုးဆောင်ရှက်၍ မွေးဖွားပေးသတတ်။

အဘဖြစ်၍ ကုန်သွယ်ခြင်း စသည်တို့ဖြင့် ဥစ္စာကို ကောင်းစွာဆောင်၍ ငါ့ကို ကျွေးမွေး ဖွားပေးသတတ်။

## (ဂ) အစ်ကို အစ်မ တော်စပ်ခဲ့မယ်ဆိုရင်

အစ်ကိုဖြစ်၍လည်းကောင်း၊ အစ်မဖြစ်၍လည်းကောင်း၊ သားဖြစ်၍လည်းကောင်း၊ သမီး ဖြစ်၍လည်းကောင်း ဤမည် ဤမည်သောကျေးဇူးကို ပြုဖူးပေသတတ်။

## (ဃ) ကျေးဇူးရှင်တွေ

ဆွေမျိုးစပ်ကာ ကျေးဇူးဂုဏ်ကို အောက်မေ့၍ ဒေါသကို ငြိမ်းစေရမည်။ ထို့ကြောင့် မိခင် ဖခင် ဆွေမျိုးဉာတိဖြစ်၍ မွေးမြူလုပ်ကျွေး ကျေးဇူးပြုပေးဖူးသော သူတို့၌ စိတ်နှလုံး ဖြင့် ပြစ်မှားခြင်း၊ မသင့်လျော်မလျောက်ပတ်ချေ။ ဤသို့ စိတ်ကို ဖြစ်စေအပ်၏။

## (င) မေတ္တာအကျိုးကို ဆင်ခြင်၍ ဒေါသငြိမ်းစေပုံ

ယင်းသို့ဆင်ခြင်လျက် အမျက်ဒေါသမငြိမ်းသေးသည်ဖြစ်အံ့၊ မေတ္တာအကျိုး (တရား) ကိုဆင်ခြင်၍ အောက်မေ့အပ်၏။ ဘယ်သို့အောက်မေ့ဆင်ခြင်အပ်သနည်းဟူမူ အရှင်ပညာရှိ ဘုရားမြတ်စွာသည် မေတ္တာ၏အကျိုးကို ၁၁ ပါးဟု ဟောတော်မူသည်မဟုတ်လော။ ဤ မေတ္တာကို ကောင်းစွာ ပွားများသူသည်-

၁။ ချမ်းသာစွာ အိပ်ရခြင်း၊

၂။ ချမ်းသာစွာ နိုးရခြင်း၊

၃။ မကောင်းသော အိပ်မက်ကို မမြင်မက်ခြင်း၊

၄။ လူတို့၏ချစ်ခင်ခြင်း၊

၅။ နတ်တို့၏ချစ်ခင်ခြင်း၊

၆။ နတ်တို့စောင့်ရှောက်ခြင်း၊

၇။ မီး၊ အဆိပ်၊ ဓား၊ လက်နက် စသည်တို့ မထိပါးနိုင်ခြင်း၊

၈။ လျင်စွာ စိတ်တည်ကြည်ခြင်း၊

၉။ မျက်နှာအဆင်း ကြည်ညိုဖွယ်ရှိခြင်း၊ (ကြည်လင်ခြင်း)

၁၀။ မတွေမဝေဘဲ သေရခြင်း၊

၁၁။ သေသည်၏ အခြားမဲ့၌ ဗြဟ္မပြည်သို့ ရောက်ရခြင်းတည်းဟူသော အကျိုး ပါးကို ခံစားရမည်ဟု ဟောတော်မူလျက် သင်အမျက်မငြိမ်းရှာ၍ မေတ္တာမပွားသည်ဖြစ်၍ ဤအကျိုး ၁၁ ပါးကို (မခံစားရ မရသည်သာဖြစ်ရ၏ဟု ဆင်ခြင်အောက်မေ့လျက် အမျ ဒေါသကို ငြိမ်းစေအပ်၏။

ဤနေရာ၌ အင်္ဂုတ္တရအဋ္ဌကထာသံဃာဘဝင် တတိယသုတ်ကို တင်ပြပါမည်။ ချစ်သ ရဟန်းတို့ လက်ဖျစ်တတွက်ခန့် တိုတောင်းလှသော ခဏမျှပင်သော်လည်း မေတ္တာနှင့်ယှဉ်သေ စိတ်ကို ရဟန်းတော်သည် ပွားများအပ်သည်ရှိသော်၊ လေ့လာအပ်သည်ရှိသော်၊ နှလုံးသွင်းအ သည်ရှိသော် ဤရဟန်းကို မဆိတ်သော၊ မစွန့်ပယ်အပ်သောဈာန်ရှိ၍နေသော ရဟန်းဟူ လည်းကောင်း၊ မြတ်စွာဘုရား၏အဆုံးအမ ဩဝါဒ အနုသာသနီကို လိုက်နာကျင့်ကြံသေ ရဟန်းဟူ၍လည်းကောင်း၊ အချီးနှီးမဟုတ်ဘဲ တိုင်းသားပြည်သူ ဗိုလ်လူတို့ လှူအပ်သေ ဆွမ်းကို သာမိပရိဘောဂ၊ ဒါယဇ္ဇပရိဘောဂတို့ဖြင့် သုံးဆောင်သောပုဂ္ဂိုလ်ဟူ၍လည်းကောင် ဆိုအပ်ပေတော့သည်။ အမှတ်မထင် အကြင်သို့သဘောရှိသော ရဟန်းတော်အရှင်မြတ်တို့သည် ကား ထိုမည်သောမေတ္တာဘာဝနာတရားကို ကြိမ်ဖန်များစွာ လေ့လာအပ်ကုန်၏။ ထိုပုဂ္ဂိုလ်တို့ အတွက်မှာမူ အဘယ်မှာလျှင် ဆိုဖွယ်ရာရှိတော့အံ့နည်းဟူ၍လည်းကောင်း-

(အဋ္ဌရာသံဃာတဝဂ် တတိယသုတ် အင်္ဂုတ္တိုရ်)

## (င) ဓာတ်ကိုဆင်ခြင်၍ ငြိမ်းစေပုံ

ယင်းသို့ အောက်မေ့လျက် အမျက်မငြိမ်းသည်ဖြစ်အံ့၊ ထိုပုဂ္ဂိုလ်သည် ဓာတ်ကို ဝေဖန် ခြင်းကို ပြုအပ်၏။ အဘယ်သို့ ဝေဖန်အပ်သနည်းဟူမူ အရှင်ပညာရှိ၊ သင့်ရန်သူဖြစ်သောသူ အား အမျက်ထွက်၏။ ထိုသူထံ၌ ဆံအစရှိသော ၃၂ ပါးသော အချင်းအရာတို့သည် ရှိကုန် ၏။ ထို ၃၂ ပါးတို့တွင် ဆံပင်ကို အမျက်ထွက်သလော၊ ထိုသို့မဟုတ် အမွေး၊ ခြေသည်း၊ လက်သည်း စသည် ၃၂ ပါးတို့တွင် တစ်ပါးပါးကို အမျက်ထွက်သလော။

ထိုမှတစ်ပါး ဆံစသည်၌တည်ရှိသော ပထဝီဓာတ်ကို အမျက်ထွက်သလော၊ အာပေါ ဓာတ်ကို အမျက်ထွက်သလော၊ တေဇောဓာတ်ကို အမျက်ထွက်သလော၊ ဝါယောဓာတ်တို့တွင် တစ်ပါးပါးကို အမျက်ထွက်သလော။

ခန္ဓာငါးပါးတို့တွင် ရူပက္ခန္ဓာကို အမျက်ထွက်သလော၊ ဝေဒနက္ခန္ဓာကို အမျက်ထွက် သလော၊ သညာက္ခန္ဓာကို အမျက်ထွက်သလော၊ သင်္ခါရက္ခန္ဓာကို ဝိညာဏက္ခန္ဓာတို့တွင်

တစ်ပါးပါးကို အမျက်ထွက်သလော။

အာယတန ၁၂ ပါးတို့တွင် စက္ခုယတနကို အမျက်ထွက်သလော၊ သောတာယတန စသည်တို့တွင် တစ်ပါးပါးကို အမျက်ထွက်သလော၊ ဓာတ် ၁၈ ပါးတွင် စက္ခုဓာတ်ကို အမျက်ထွက်သလော၊ သောတဓာတ် စသောတစ်ပါးပါးကို အမျက်ထွက်သလောဟု ဓာတ်ကို ဝေဖန်ခြင်းကို ပြုအပ်၏။

ဤသို့ ဓာတုဘာဝ၊အားဖြင့် ခွဲဝေ၍ အောက်မေ့ဆင်ခြင်သော် ပွတ်ဆောက်ဖျား၌ မုန်ညင်းစေ့တည်ရာမရှိသကဲ့သို့လည်းကောင်း၊ ကောင်းကင်၌ ပန်းချီဆေးရေးအမှု၏ တည်ရာ မရသကဲ့သို့လည်းကောင်း ရန်သူဟူ၍ ကြံဆအပ်သောပုဂ္ဂိုလ်၌ အမျက်၏တည်ရာ အဘယ်မှာ ရှိအံ့နည်း၊ ထို့ကြောင့် အဖန်ဖန် အောက်မေ့ဆင်ခြင်၍ ဒေါသကို ငြိမ်းစေရမည်။

## (စ) ပေးကမ်းခြင်းဖြင့် ဒေါသငြိမ်းစေပုံ

ဆိုခဲ့ပြီးသောနည်းဖြင့် ရန်မငြိမ်းသေးသော် မိမိပစ္စည်းကို ရန်သူအား ပေးအပ်၏။ ရန်သူ၏ပစ္စည်းကို မိမိယူအပ်၏ (တချို့စာအုပ်တွေ မယူအပ်) ရန်သူသည် အာဇီဝပျက်၍ သုံးဆောင်ခြင်းငှာ မထိုက်သည်ဖြစ်အံ့၊ မိမိပစ္စည်းကိုသာ ပေးအပ်၏။ ဤသို့ပြုသော် စင်စစ် အားဖြင့် ထိုရန်သူပုဂ္ဂိုလ်၌ မငြိမ်းသေးသောရန်မျိုး အမျက်ငြိမ်း၏။ စိတ္တလတောင်ကျောင်း၌ ရန်သူမထေရ်ကြီးက သုံးကြိမ်တိုင်အောင် အနှင်ထုတ်ခံရသော ပိဏ္ဍပါတိကတိဿမထေရ်

သည် အရှင်ဘုရား ရှစ်သပြာ (ရှစ်ကျပ်တန်) ထိုက်သော ဤသပိတ်သည်-

အမိ ဥပသကာမကြီးလှူသောကြောင့် တရားနှင့်လျော်ညီစွာရသော သပိတ်တည်းဟု

ဆို၍ လှူသောသပိတ်ကိုရသော မထေရ်ကြီးအား အမျက်ငြိမ်းသကဲ့သို့တည်း။



## အခန်း (၇)

### (က) သီမသမ္ဘေဒ

ဆိုခဲ့ပြီးသောနည်းဖြင့် ဆုံးမ၍ ရန်ငြိမ်းပြီးသော ယောဂီအား ထိုရန်သူပုဂ္ဂိုလ်လည်း မေတ္တာစိတ်ဖြစ်၍ အဖန်တလဲလဲ မေတ္တာပွား၍ မိမိ၌လည်းကောင်း၊ ပိယပုဂ္ဂိုလ်၌လည်းကောင်း၊ မဇ္ဈတ္တပုဂ္ဂိုလ်၌လည်းကောင်း၊ ဝေရီပုဂ္ဂိုလ်၌လည်းကောင်း ညီမျှသောစိတ်ရှိသည်ဖြစ်၍ အပိုင်းအခြားကို ပယ်ဖျောက်သော သီမသမ္ဘေဒကို ပြအပ်၏။

### (ခ) သီမသမ္ဘေဒ ဖြစ်ပုံကား

ပိယပုဂ္ဂိုလ် မဇ္ဈတ္တပုဂ္ဂိုလ်၊ ဝေရီပုဂ္ဂိုလ် သုံးယောက် လေးယောက်မြောက်သော မိမိနှင့် အတူတကွ ထိုင်နေရာ ခိုးသူတို့က လည်ချောင်းသွေးကို ဖောက်၍ နတ်ပူဇော်လိုသောကြောင့် ရဟန်းတစ်ပါးပေးလော့ရာဆိုသော် ဤသူကို ယူစေသတည်းဟု စိတ်အကြံဖြစ်ခဲ့မူ သီမသမ္ဘေဒ မဖြစ်၊ မိမိကိုယ်ကိုယူစေသတည်း။ သုံးယောက်သောသူကို ချမ်းသာစေသတည်းဟု စိတ်အကြံဖြစ်ခဲ့မူလည်း သီမသမ္ဘေဒ မဖြစ်။ မိမိကိုယ်ကို ယူစေသတည်း။ သုံးယောက်သောသူကို ချမ်းသာစေသတည်းဟု စိတ်အကြံဖြစ်ခဲ့မူလည်း သီမသမ္ဘေဒ မဖြစ်။ လေးယောက်သော ပုဂ္ဂိုလ်တို့တွင် တစ်ယောက်ယောက်သော ပုဂ္ဂိုလ်ကိုပေးခြင်းငှာ အလိုမရှိ မေတ္တာစိတ်ဖြင့် အတူအမျှဖြစ်ခြင်းသည် သီမသမ္ဘေဒ ဖြစ်သတည်း။

(ဝေရီပုဂ္ဂိုလ်၌ အမျက်ဒေါသငြိမ်းရန် အမျိုးမျိုးရှုခြင်း ပြီး၏။)

အဓိပ္ပာယ်အကျဉ်းချုပ်-

သဗ္ဗဖရဏမေတ္တာ - ၄၈

ဒိသာဖရဏမေတ္တာ- ၄၈၀

ပေါင်း ၅၂၈ သွယ်မေတ္တာ

## (ဂ) ပုဏ္ဏသုတ်

ချစ်သားပုဏ္ဏ သင်ချစ်သားသည် ယခု ငါဘုရားအကျဉ်းချုပ် ဩဝါဒဖြင့် ဆုံးမအပ်ပြီးသည်ရှိသော် အဘယ်အရပ်၌ သင်ချစ်သားနေမည်နည်းဟု မေးမြန်းတော်မူလတ်ပါသည်။ ထိုအခါ ပုဏ္ဏမထေရ်မြတ်က-

ဘုန်းတော်ကြီးမြတ်တော်မူလှသော မြတ်စွာဘုရား၊ သုနာပရန္တ အမည်ရသော ဇနပုဒ်ရှိပါသည်။ တပည့်တော်၏ ဖွားရာဇာတိ သုနာပရန္တဇနပုဒ်၌ပင် တပည့်တော်နေပါအံ့ဟု ပြန်ကြားလျှောက်ထားခဲ့ပါသည်။

## (ဃ) ခန္တီဂုဏ်ကျင့်နည်း

ထိုအခါ သဗ္ဗညုမြတ်စွာဘုရားက ချစ်သား ပုဏ္ဏသုနာပရန္တဇနပုဒ်သားတို့သည် လွန်စွာအမျက်ဒေါသကြီးကြပေကုန်သည်။ လွန်စွာ ကြမ်းတမ်းလှကုန်သည်။ ချစ်သားပုဏ္ဏ သင်ချစ်သားကို သုနာပရန္တဇနပုဒ်သား လူကြမ်းများက ဆဲရေးတိုင်းတာခဲ့သော်လည်းကောင်း၊ လွှမ်းမိုးစကားပြောကြားခဲ့သော်လည်းကောင်း သင်ချစ်သားသည် မည်သို့သောစိတ်ကိုထားမည်နည်းဟု မေးမြန်းတော်မူပါသည်။ ထိုအခါ အရှင်ပုဏ္ဏမထေရ်မြတ်က-

ဘုန်းတော်ကြီးမြတ်တော်မူလှသော မြတ်စွာဘုရား၊ သုနာပရန္တဇနပုဒ်သား လူကြမ်းများတို့သည် ဘုရားတပည့်တော်ကို ဆဲရေးတိုင်းထွာ စကားပြောကြားခဲ့ကုန်သော်လည်းကောင်း၊ လွှမ်းမိုးခြောက်လှန့်စကား ပြောကြားခဲ့သော်လည်းကောင်း ဤသုနာပရန္တဇနပုဒ်သား လူအများတို့သည်ကား ငါ့အပေါ်ဝယ် လက်ဖြင့်မျှ ပုတ်ခတ်ခြင်းအမှုကို မပြုကြကုန်ပေကောင်းကြပါပေကုန်၏။ အလွန်ကောင်းကြပါပေကုန်၏ဟူ၍ ဘုရားတပည့်တော် စိတ်အကြံဖြစ်စေမည်ဟု ပြန်ကြားလျှောက်ထားခဲ့ပါသည်။

ချစ်သားပုဏ္ဏ သုနာပရန္တဇနပုဒ်သား လူအများတို့သည် သင်ချစ်သားအား လက်ဖြင့်ပုတ်ခတ်မှုကို ပေးကြကုန်သည်ရှိသော်- သို့လက်ဖြင့် ပုတ်ခတ်ရာ၌ သင်ချစ်သား၏စိတ်ကို မည်သို့ဖြစ်စေမည်နည်းဟု မေးမြန်းတော်မူပါသည်။

ဘုန်းတော်ကြီးမြတ်တော်မူလှသော မြတ်စွာဘုရား၊ အကယ်၍ လက်ဖြင့် ပုတ်ခတ်လတ်သည်ရှိသော် ခဲ၊ အုတ်ခဲတို့ဖြင့် ပုတ်ခတ်ခြင်းအမှုကို မပြုကြကုန်သေးဟူ၍ စိတ်ကို ဖြေဖျောက်ပါမည်ဟု လျှောက်ထားပါသည်။

ချစ်သားပုဏ္ဏ အကယ်၍ ခဲတို့ဖြင့် ပစ်ခတ်ခြင်းအမှုကိုပြုကြကုန်မူကား သင်ချစ်သားမည်သို့စိတ်ထားမည်နည်းဟု မေးမြန်းတော်မူပါသည်။

ဘုန်းတော်ကြီးမြတ်တော်မူလှသော မြတ်စွာဘုရား၊ ခဲတို့ဖြင့် ပစ်ခတ်ပုတ်ခတ်ကြပါကုန်မူကား တုတ်၊ လှံတံတို့ဖြင့် မရိုက်ကြကုန်သေးဟု စိတ်ကိုချုပ်ကာ သည်းခံပါမည်ဘုရားဟု ပြန်ကြားလျှောက်ထားခဲ့ပါသည်။

ချစ်သား အကယ်၍ တုတ်၊ လှံတံတို့ဖြင့် ရိုက်ခတ်ခဲ့သော် သင်ချစ်သား၏စိတ်ကို မည်သို့ဖြစ်စေမည်နည်းဟု မေးမြန်းတော်မူပြန်ပါသည်။

ဘုန်းတော်ကြီးမြတ်တော်မူလှသော မြတ်စွာဘုရား၊ တုတ်၊ လှံတံတို့ဖြင့် ရိုက်ပုတ်ခြင်းအမှုကို ပြုကြကုန်သည်ရှိသော် ဓား၊ လက်နက်တို့ဖြင့် ငါ့ကို မခုတ်ကြသေးဟူ၍ စိတ်ကို ဖြေဖျောက်သည်းခံပါမည်ဘုရားဟူ၍ ပြောကြားလျှောက်ထားပါသည်။

ချစ်သားပုဏ္ဏ ထိုသုနာပရန္တကဇနပုဒ်သား လူကြမ်းအများတို့သည် သင်ချစ်သားအား ဓားလက်နက်တို့ဖြင့် ခုတ်ဖြတ်ကုန်သည်ရှိသော် သင်ချစ်သား၏စိတ်ကို မည်သို့ဖြစ်စေမည်နည်းဟု မေးမြန်းတော်မူပါသည်။

ဘုန်းတော်ကြီးမြတ်တော်မူလှသော မြတ်စွာဘုရား၊ ဓားလက်နက်တို့ဖြင့် နာရုံ၊ ကြင်ရုံမျှ ခုတ်ထစ်ကြကုန်သည်ရှိသော် ဤသုနာပရန္တကဇနပုဒ်သား လူအများတို့သည် တော်ကြပါပေကုန်သေး၏။ ငါ့ကို ထက်လှစွာသော ဓားလက်နက်တို့ဖြင့် ဦးခေါင်းဖြတ်ပြီး ဇီဝိတိန္ဒြေ အကြွင်းပြတ်အောင် မသတ်ကြကုန်သေးဟူ၍ သည်းခံ၍ နှလုံးသုံးပါမည်ဘုရားဟု ပြန်ကြားလျှောက်ထားခဲ့ပါသည်။

ချစ်သားပုဏ္ဏ၊ အကယ်၍ သင်ချစ်သားကို သုနာပရန္တက ဇနပုဒ်သား လူအများတို့က ထက်လှစွာသော ဓားလက်နက်တို့ဖြင့် အသက်ကုန်ဆုံးသည့်တိုင်အောင် အသက် ဇီဝိတိန္ဒြေမှ ချကြကုန်၊ သတ်ကြကုန်သည်ရှိသော် ထိုသို့သတ်ရာ၌ သင်ချစ်သားသည် စိတ်ကို မည်သို့ ဖြစ်စေမည်နည်းဟု မေးမြန်းတော်မူပါသည်။

ထိုအခါ အရှင်ပုဏ္ဏမထေရ်မြတ်က ဤသာသနာတော်ဝယ် ဘုန်းတော်ကြီးမြတ်တော်မူလှသော ရှေးဘုရားတို့အတူလာခြင်းကောင်းတော်မူသော သဗ္ဗညုမြတ်စွာဘုရား၏သားသာဝကတို့အနက် ရူပကာယ၌လည်းကောင်း၊ အသက်၌လည်းကောင်း ရက်နီးကန်၊ နာကျင်

ကုန်၊ စက်ဆုတ်ကုန်သည်ဖြစ်၍ သတ္တဟာရက အမည်ရသော မိမိကိုယ်ကိုမိမိ ဓားလက်နက်တို့ဖြင့် ခုတ်ဖြတ်မှုကို ပြုကြရှာမှီးကြကုန်သော ရဟန်းတော်တို့သည် များစွာရှိကြပါပေကုန်သည်။ ငါ့မှာမူကား ထိုထိုသတ္တဟာရက အမည်ရသော ဓားလက်နက်တို့ဖြင့် မိမိကိုယ်ကို မိမိ ခုတ်ဖြတ်မှု၊ သတ်ဖြတ်မှုတည်းဟူသော သတ္တဟာရကအမှုကို မရှာမှီးဘဲ အလိုလိုက်ကောင်း၍ရလာပါသည်ဟုသာလျှင် တပည့်တော် သည်းခံနှလုံး ကျင့်သုံးပါမည် မြတ်စွာဘုရားဟု ပြန်ကြားလျှောက်ထားခဲ့ပါသည်ဘုရား။

## (င) သည်းခံဂုဏ်နှင့်ပြည့်စုံလျှင်

ထိုအခါ မြတ်စွာဘုရားက သာဓု…သာဓု…ပုဏ္ဏ၊ ချစ်သားပုဏ္ဏ ကောင်းပေစ၊ ကောင်းပေစွဟု သာဓုအနုမောဒနာ ခေါ်တော်မူပြီးလျှင် ချစ်သားပုဏ္ဏ၊ သင်ချစ်သားသည် ဤသို့ ဆိုအပ်ပြီးသော သည်းခံခြင်း (ဥပသမ)ဂုဏ်နှင့် ပြည့်စုံလတ်ရကား ထိုလူကြမ်းတို့၏နေရာ သုနာပရန္တဇနပုဒ်၌ အသင်ချစ်သားနေခြင်းငှာ စွမ်းနိုင်ပါလိမ့်မည်။ အသင်ချစ်သား၏ သွားရာအချိန်ကို အသင်ချစ်သားပင် သိပါလော့ဟု ခွင့်ပြုတော်မူလတ်သည်ရှိသော် အရှင်ပုဏ္ဏမထေရ်မြတ်သည် သဗ္ဗညုမြတ်စွာဘုရားအား လက်ယာရစ်လှည့်လည်ရှိခိုးပြီးခဲ့၍ ဘုရားထံမှ ဖဲခွာပြီးလျှင် ကျောင်းအိပ်ရာနေရာ သိုမှီး၍ သုနာပရန္တဇနပုဒ်အရပ်သို့ ကြွရောက်သီတင်းသုံးနေတော်မူခဲ့ပါသည်ဘုရား။

ထိုသို့ ကြွရောက်သည့် ဝါတွင်း၌ပင်လျှင် ထိုသုနာပရန္တဇနပုဒ်သား ၅၀၀ သော ဥပါသကာတို့ကို သရဏဂုံသီလ၌ တည်စေခဲ့ပါသည်ဘုရား။ ထိုဝါတွင်းမှာပင်လျှင် မိမိကိုယ်တိုင်လည်း ပုဗ္ဗေနိဝါသာနုဿတိဉာဏ် ဒိဗ္ဗစက္ခုဉာဏ်၊ အာသဝက္ခယဉာဏ်တည်းဟူသော ဝိဇ္ဇာသုံးပါးသို့ရောက်အောင် ကြိုးကုတ်တော်မူခဲ့ပါသည်ဘုရား။

(သဠာယတနာဝဂ္ဂသံယုတ် ပုဏ္ဏသုတ်)



## ၁။ အထက်ဘုံလား၊ အောက်ဘုံလား

၃၁ ဘုံတွင် အထက်ဘုံနှင့်အောက်ဘုံဟူ၍ အကြမ်းဖျဉ်းသိထားရမည် ဖြစ်သည်။ အဘယ်ကြောင့်ဆိုသော် နတ်ဘုံ၊ ဗြဟ္မာဘုံနှင့်ပတ်သက်သည့်ဘုံများအား အထက်ဘုံဟု ခေါ်ဆိုပြီး အပါယ်လေးဘုံနှင့်ပတ်သက်၍ ငရဲ၊ တိရစ္ဆာန်၊ ပြိတ္တာ၊ အသူရကာယ်ဟုခေါ်ပြီး ထိုဘုံသားတို့အား အပါယ်ဘုံသားဟု ခေါ်သည်။

ထိုအထက်ဘုံနှင့်အောက်ဘုံသို့ရောက်ရှိရန် လမ်းဆုံလမ်းခွသည် လူ့ဘုံဘ၀ ဖြစ်သည်။

မှန်သည်။ အထက်ဘုံနှင့်အောက်ဘုံသည် လူသားများရွေးချယ်ရမည့်ဘုံနှစ်ခု ဖြစ်သည်။

ကောင်းမှုကောင်းကျိုးပြုကျင့်ခြင်းက အထက်ဘုံသို့သွားရာလမ်းဖြစ်ပြီး အကုသိုလ်ဆိုးကျိုးများနှင့် သံသရာလည်နေသူများ၊ မကောင်းမှုကို မွေ့လျော်သူများ အတွက် အောက်ဘုံသို့သွားသည့်လမ်း ဖြစ်၏။

ထို့ကြောင့် လူတိုင်းသည် ကိုယ့်လမ်းကို ကိုယ်ရွေးရမည် ဖြစ်သည်။ လမ်းရွေး မှားလျှင် ဆင်းရဲဒုက္ခထုပြောသည့် အောက်ဘုံသို့ သွားရမည်ဖြစ်၏။

မကောင်းမှုနှင့်မွေ့လျော်ပြီး အကုသိုလ်များသူသည် ငရဲ၊ တိရစ္ဆာန်၊ ပြိတ္တာ၊ အသုရကာယ်ဆိုသည့် ဒုက္ခထုပြောသည့် အောက်ဘုံသို့ရောက်ရမည် ဖြစ်သည်။

ထို့ကြောင့် လူသားတို့သည် အောက်ဘုံနှင့်ကင်းဝေးပြီး အထက်ဘုံသို့ရောက်ရှိစေရန် ကြိုးစားရမည်။ အထက်ဘုံသို့ တက်လှမ်းနိုင်ရန်အတွက် မကောင်းမှုအကုသိုလ်အား ကြဉ်ရှောင်ပြီး မကောင်းမှုကုသိုလ်ရအောင် စွမ်းဆောင်ကြိုးပမ်းရမည် ဖြစ်သည်။

စင်စစ် လူ့ဘုံသည် နတ်ဘုံ၊ ဗြဟ္မာဘုံတို့ထက် မြင့်မြတ်သော အနာဂတ်ကို ဖန်တီးနိုင်သည့်ဘုံ ဖြစ်သည်။

မှန်သည်။ အမှန်စင်စစ်မူ လူ့ဘုံသည် ရောက်လိုရာကို ရောက်နိုင်သောဘုံ ဖြစ်သည်။ နတ်ပြည်၊ နတ်လောကမှ စုတေတော့မည်ဆိုလျှင် စုတေတော့မည့် နတ်သား၊ နတ်သမီးအား-

"အသင်နတ်သား (နတ်သမီး)...သင် စုတေတော့မည်ဆိုလျှင် လူ့ဘုံ

လူ့ဘဝသို့ရောက်ရှိရန် ဆုတောင်းပါ"

ဟု နှိုးဆော်ကြ၏။

အဘယ့်ကြောင့်ဆိုသော် လူ့ဘုံလူ့ဘဝဆိုသည် ဘာမဆိုရနိုင်သောကြောင့် ဖြစ်သည်။ ဘုရားအဖြစ်သို့ရောက်လိုလျှင်ပင် လူ့ဘုံလူ့ဘဝမှ ကျင့်ကြံအားထုတ်နိုင်မည် မဟုတ်လော။

စင်စစ် လူ့ဘုံလူ့ဘဝသည် မိမိ၏ကျင့်ကြံအားထုတ်မှုအရ အထက်ဘုံသို့လည်း ရောက်နိုင်သလို အောက်ဘုံသို့လည်းရောက်နိုင်သောကြောင့်တည်း။

## ၂။ အသင်လူသား သတိထားပါ…

လူ့ဘုံလူ့ဘဝသည် ၃၁ ဘုံတွင် ပဒေသာပင်ဘုံ၊ ဣဋ္ဌာသယကိုတိုင်းရသည့်ဘုံ ဖြစ်သည်ကို လူတိုင်း သိသင့်သည်။ ပြီးတော့ လူ့ဘုံသည် ကြိုးတန်းပေါ်လမ်းလျှောက်ရသလို အချိန်အဆ လိုသည်။

ကျင့်ကြံနေထိုင်ပြောဆိုတတ်ဖို့ လိုသည်။ အသိနှင့်သတိ ပြည့်စုံဖို့လိုသည်။

အဘယ်ကြောင့်ဆိုသော် လူ့ဘုံလူ့ဘဝဟူသည် ဣဋ္ဌာသယကို တိုင်းရသည့်ဘဝ ဖြစ်သကဲ့သို့ လောကီစည်းစိမ်ချမ်းသာနှင့် တပ်မက်စရာများမြောင်သောဘုံဘဝ ဖြစ်သည်။

ရွှေရောင်နှင့်တူသော မီးတောင်များရာတည်ရှိရာအရပ် ဖြစ်၏။ အဆိပ်ရည်တို့ များပြားသည့်နေရာ၊ တပ်မက်ဖွယ်ရာများနှင့် သွေးဆောင်ဖြားယောင်တတ်သည့်နေရာ။

လူ့ဘုံလူ့ဘဝသည် တပ်မက်ကြည်နူးဖွယ်ရာဘုံဘဝဖြစ်သကဲ့သို့ လောဘ၊ ဒေါသ၊ မောဟ၊ မာန်မာနနှင့် ဣဿာမိစ္ဆရိယ ပေါများ၏။ အပျော်အပါး လောင်းကစားမှုနှင့် အပြည့်ရှိသည့်နေရာ။

လူ့ဘုံလူ့ဘဝတွင် ငြိမ်းအေးချမ်းသာသည့်တရားဓမ္မကို စိတ်တိုင်းကျ ကျင့်ကြံပွားများနိုင်သကဲ့သို့ အပါယ်လေးဘုံအား မမျှော်လင့်ဘဲ ဇောက်ထိုးမိုးမျှော် ကျဆင်းသွားနိုင်သည့်အခြေအနေမျိုးလည်း ရှိသည်။

သည့်အခါ အချို့က အထက်ဘုံရောက်ရန် မည်သို့စွမ်းဆောင်ရမည်နည်း။ ဆင်းရဲဒုက္ခပြွန်းတီးသည့် အောက်ဘုံသို့မကျရောက်အောင် မည်သို့ စွမ်းဆောင်ရမည်နည်းဟု မေးကောင်းမေးမည်။

သည့်အခါ အထက်ဘုံသို့ရောက်ရှိနိုင်ရန် ကောင်းမှုမြတ်နိုးပါ။ ကောင်းအောင်ကြိုးစားပါ။ မကောင်းမှုကို ကြဉ်ရှောင်ပါဟု ဆိုသင့်သည်။ အဘယ်ကြောင့်ဆိုသော် ကောင်းမှုသည် ကောင်းကျိုးကိုပြုသကဲ့သို့ မကောင်းမှုသည် မကောင်းကျိုးအား ပြုနေကြသောကြောင့် ဖြစ်သည်။

ကောင်းမှုသည် အဘယ်နည်း…



ဘုရားရှင်မှ ကောသလမင်းကြီးအား ဒု·သ·န·သော အဓိပ္ပာယ်အား ရှင်းလင်းပြနေပုံ

မကောင်းမှုသည် အဘယ်နည်း...။

စင်စစ် ကောင်းမှုဆိုသည်မှာ မကောင်းမှုအား ကြဉ်ရှောင်ခြင်း ဖြစ်သည်။ ငါးပါးပဥ္စသီလအား စောင့်ထိန်းခြင်းပင်။

၁။ သူ့အသက်သတ်ခြင်းမှ ရှောင်ကြဉ်ခြင်း၊

၂။ လိမ်ညာသိမ်ဖျင်းသောစကားပြောဆိုခြင်းမှ ရှောင်ကြဉ်ခြင်း၊

၃။ ပိုင်ရှင်မသိဘဲ ခိုးယူခြင်းအား ရှောင်ကြဉ်ခြင်း၊

၄။ အရက်သေစာသောက်စားမူးယစ်ခြင်းမှ ရှောင်ကြဉ်ခြင်း၊

၅။ သူတစ်ပါးသားသမီး သားမယားအား ပြစ်မှားကျူးလွန်ခြင်းမှ ရှောင်ကြဉ်ခြင်း

စသည်တို့အား ကျူးလွန်ပြစ်မှားခြင်းမှ ကောင်းမှုအကွက် ရှောင်ကြဉ်ရမည် ဖြစ်သလို ခင်ပွန်းကြီးဆယ်ပါးအား ပြစ်မှားကျူးလွန်ခြင်းမှလည်း ရှောင်ကြဉ်ရမည် ဖြစ်သည်။

မှန်သည်။ ထိုအချက်က လူတိုင်း သတိထားရမည့်အချက်ပင်။

ထို့အတူ လူတစ်ယောက်သည် ငါးပါးသီလအား လုံခြုံစွာ စောင့်ထိန်းခြင်း၊ ခင်ပွန်းကြီး ၁၀ ပါးအား ရိုသေလေးစားပြစ်မှားခြင်း စသည့်နည်းတူ အလှူဒါနအစုစုအား တတ်အားသရွေ့ပြုနေမည်ဆိုလျှင် ထိုသူသည် ကောင်းမှုပြုသူ အကုသိုလ်ကင်း၍ ကုသိုလ်ရသူ ဖြစ်မည်။

ထိုသူသည် အပါယ်လေးဘုံနှင့်ကင်းဝေးမည် ဖြစ်၏။

ဤသို့မျှမဟုတ်ဘဲ လူတစ်ယောက်သည် သီလစောင့်ထိန်းခြင်းလည်းမရှိ၊ ခင်ပွန်းကြီး ၁၀ ပါးအား ပြစ်မှားကျူးလွန်သူဖြစ်ငြားအံ့။

ထိုသူသည် ကုသိုလ်နှင့်ကင်းဝေးသူ၊ အကုသိုလ်တူပြောသူဖြစ်ပြီး အပါယ်လေးဘုံသို့ မလွဲမသွေ ရောက်လေမည်ဖြစ်သတည်း။

သို့တွက်ကြောင့် လူတစ်ဦးသည် ရခဲလှသော လူ့ဘဝအား ရရှိခဲ့သော်လည်း ထိုသူသည် လူ့တန်ဖိုးအားမသိဘဲ မှားယွင်းစွာ တွေးခေါ်လုပ်ကိုင်မည်ဆိုလျှင် သူသည် လူဖြစ်ရသော်လည်း လူဖြစ်ရကျိုးနပ်သူ ဖြစ်မည်မဟုတ်။

သူ၏အနာဂတ်သည် မှောင်မည်းနေလိမ့်မည်။ သံသရာလည်တတ်သဖြင့် သူသည် အပါယ်လေးဘုံသို့ မလွဲမသွေ ရောက်ရှိရမည့် အပါယ်လူဟုသာ ခေါ်ရမည်ဖြစ်သည်။ ထိုကဲ့သို့ပင် ယင်းလူအား လူစင်စစ်မဖြစ်သူဟု ဆိုရမည်ဖြစ်သည်။

## ၃။ လူစစ်စစ်ဖြစ်အောင် ကြိုးစားပါ

ရခဲလှတဲ့လူ့ဘဝကို ရောက်ခဲ့ကြပေမယ့် လူရဲ့တန်ဖိုးအား အချို့သည် မသိကြ။ လူ့တန်ဖိုးအား မသိသဖြင့် လူစစ်စစ်ဖြစ်ရန် ကြိုးစားခြင်းမပြုကြ။ ထို့ကြောင့်လည်း လူအချို့သည် လူ့ဘဝထဲသို့ ရောက်ခဲ့ပြီး လူဖြစ်ခဲ့သော်လည်း လူအစစ် မဖြစ်ခဲ့ကြပေ။

သူတို့သည် လူဖြစ်၍သာ လူဟု မည်ကာမတ္တမည်ကြ၏။ ထို့ကြောင့် ဝိမာနဝတ္ထု အဋ္ဌကထာမှာ အောက်ပါအတိုင်း လူ (၄)မျိုး ခွဲခြားပြသထားသည်ကို တွေ့ရသည်။

လူ (၄)မျိုးက-

၁။ လူ့ငရဲသား

၂။ လူ့ပြိတ္တာ

၃။ လူ့တိရစ္ဆာန်

၄။ လူအစစ်

### ၁။ လူ့ငရဲသား

အချို့သောလူအများသည် လူ့ဘဝအား ရလာခဲ့ပြီ။ သူတို့သည် လူ့ဘဝရသည့်အချိန်တွင် သူ့အသက်သတ်မှု၊ သူ့ဥစ္စာခိုးမှု စသည့်မကောင်းမှုတို့နှင့် ဘဝကုန်ဆုံးသွားခဲ့ကြသည်။

ထိုသူတို့သည် ဒီဘဝမှာပင် မင်းပြစ်မင်းဒဏ်သင့်ခဲ့ရသည်။ ခြေပြတ်လက်ပြတ် စသည့်ညှဉ်းဆဲနှိပ်စက်မှုမျိုးစုံနှင့် ဆင်းရဲဒုက္ခမျိုးစုံအား ခံစားခဲ့ရသည်။

ထိုအခါတိုင်း လေသာပြတင်းကိုဖွင့်ကာ ကောင်းကင်ပြင်အား ငေးကြည့်နေတတ်၏။

တစ်ည…

အဇာတသတ်မင်းသည် အိပ်မရသဖြင့် ညိုးငယ်သည့်မျက်နှာထားနှင့် လေသာပြတင်းသို့ ထွက်ခဲ့၏။

ညသည် လပြည့်ည ဖြစ်၏။

လရောင်သည် ရွှန်းလက်တောက်ပနေပြီး လရောင်၏နံဘေးတွင် ကြယ်ကုဋေကုဋာတို့သည် တလက်လက် တောက်ပနေ၏။

လေပြေသည်လည်း ဝေ့တိုက်နေ၏။ ညှင်းလေပြည်နှင့်အတူ ညမွှေးပန်းရနံ့သည် သင်းပျံ့နေ၏။

သို့စေကာမူ အဇာတသတ်မင်းသည် အလှအပကို မသိ။ သူ့အသွင်က သံပတ်ပေးထားသည့်စက်ရုပ်နှင့်တူနေသည်။ သူသည် လေသာပြတင်း၌ရပ်ပြီး ကောင်းကင်ကို မော့ကြည့်လိုက်၏။

"အို…"

အဇာတသတ်မင်း အထိတ်တလန့် ခံစားလိုက်ရသည်။

အခြားမှုမဟုတ်။ ပြိုးပျက်သည့်အရောင်တစ်ခု ကောင်းကင်၌ ဖြတ်သွားသည်ကို တွေ့လိုက်ရသောကြောင့် ဖြစ်သည်။

လျှပ်တပြက်မြင်လိုက်ရသော်လည်း သဏ္ဌာန်ရှင်သည် အဝတ်မပါသူ၊ အရိုးအရေသည်သာ ရှိနေသူ။

အဇာတသတ်မင်းက ဖျတ်ကနဲကြည့်ရင်း-

"အို…အရှင်၊ အရှင်က ဘယ်သူနည်း။ သင့်ခန္ဓာကိုယ်၌လည်း အဝတ်မပါ။ သင်က ပိန်လည်းပိန်လှ၏။ သင်က ဒုဂ္ဂရဟာန်းလော၊ အချိန်အခါမဟုတ် အကာလညအခါတွင် သင် ဘယ်သို့သွားမည်နည်း။ တပည့်တော်၌ရှိသော စည်းစိမ်ဥစ္စာဖြင့် သင့်ဆန္ဒအား

ဖြည့်ဆည်းပေးနိုင်၏။ အလိုရှိရာပြောပါ"

အဇာတသတ်စကားကြားလျှင် ပြိတ္တာက-

"အရှင်မင်းကြီး၊ ကျွန်ုပ်က ဒုဂ္ဂရဟာန်း မဟုတ်ပါ။ တစ်ချိန်က ဗာရာဏသီပြည်တွင် ကြွယ်ဝချမ်းသာသည့် သူဌေးတစ်ဦး ဖြစ်ပါသည်။ ကျွန်ုပ်သည် လူ့ဘဝရှိစဉ်က ဒါန၊ သီလကို မသိပါ။ ကာမဂုဏ်ငါးပါးအား လေ့လာလိုက်စားနေခဲ့လို့ ယခု ပြိတ္တာဘဝသို့ ရောက်နေသူပါ"

ဟု ပြော၏။ အဇာတသတ်မင်းက-

"ဟုတ်လား၊ ဒါဆို အခု သင် မည်သို့သွားမည်နည်း"

"အရှင်မင်းကြီး၊ ကျွန်ုပ် ဂန္ဓဇာပိန္ဒမြို့သို့ သွားမည်ဖြစ်ပါသည်။ ဤမြို့၌ ကျွန်ုပ် သမီး ရှိပါသည်။ သူ ပုဏ္ဏားတို့အတွက် အလှူ ပေးမည်ဖြစ်သဖြင့် အလှူ၌ စားသောက်ရန်သွားပါမည်"

"ကောင်းပြီ မိတ်ဆွေ၊ သင့်သမီး အလှူဒါနအဖို့ဘာဂကို ခံစားပြီး သင် ပြန်ခဲ့ပါ။ ကျွန်ုပ်လည်း ပူဇော်ပသမှုပြုပါမည်။ ပြုလုပ်ဖွယ်တို့ ကိုသာ မှတ်ပြီးပြန်ခဲ့ပါ"

"ကောင်းပါပြီ အရှင်မင်းကြီး"

* * *

## ပေးတတ်မှရပါသည်

ပြိတ္တာသည် 'ကောင်းပါပြီ အရှင်မင်းကြီး'ဟု ဝန်ခံစကားဆိုပြီးနောက် အဇာတသက်မင်းအပါးမှ ခွာခဲ့သည်။

ထို့နောက် ဂန္ဓကဗိန္ဒမြို့သို့ ဦးတည်ခဲ့၏။

ပြိတ္တာ၏ဘဝဟောင်းမှသမီးသည် အမှန်တကယ်ပင် ပုဏ္ဏားတို့အား အလှူကြီး ပေးနေ၏။

အကျွေးအမွေးနှင့်အလှူသည် စည်ကားလွန်းလှ၏။ အယုတ်အလတ်အမြတ်မရွေး လှူဒါန်းသည့်အလှူကြီးပင်။

သို့သော် စားသောက်နေသည့် ပုဏ္ဏားတို့သည် ဒုဿီလများသာ ဖြစ်၏။

သူတို့သည် စားသောက်ရုံသာ စားသောက်ကြပြီး အလှူအဖို့ဘာဂအတွက် အမျှ ပေးဝေခြင်း မပြုကြပါ။

သို့ကြောင့် ပြိတ္တာသည် ခရီးဝေးမှ လာခဲ့ရသော်လည်း အစာလည်းမစားရ၊ ကုသိုလ်အဖို့ဘာဂလည်း မရရှိဘဲ ပြန်ခဲ့ရသည်။

ပြိတ္တာလည်း ပင်ပန်းနွမ်းနယ်နေ၏။

စိတ်ပျက်အားငယ်နေ၏။

သို့ပါသော်လည်း ပြိတ္တာသည် အဇာတသတ်ထံသို့ ကတိအတိုင်းဝင်ခဲ့၏။

အဇာတသတ်မင်းနှင့်တွေ့သော် အဇာတသတ်မင်းက လှိုက်လှဲစွာဖြင့် -

"အသင် ပြန်ခဲ့ပြီလား၊ သင့်သမီးကျွေးသည့် အစာအာဟာရတို့အား သင် ခံစားခဲ့ရသလော"

ဟု မေး၏။

ပြိတ္တာက ညှိုးငယ်စွာဖြင့် -

"အရှင်မင်းကြီး၊ ကျွန်ုပ်ဘဝက ပေးကာပေး၏မရဟူသည့်ဘဝမျိုး ဖြစ်နေပါသည်။ သမီး၏အလှူတွင် ကျွေးမွေးသည့်ပစ္စည်းစုံသော်လည်း ပုဏ္ဏားတို့သာစားရပြီး ကျွန်ုပ် မစားခဲ့ရပါ"

"ဒါဆို သင် အလှူ၏အဖို့ဘာဂကော ရခဲ့လား"

"မရခဲ့ပါ၊ ဘာမျှမရခဲ့ပါ"

အဇာတသတ်မင်းသည် ပြိတ္တာအားကြည့်ပြီး စိတ်မကောင်းဖြစ်သွားရသည်။

ထို့ကြောင့် အဇာတသတ်မင်းက-

"အဆွေ...ဤသို့ဆိုလျှင် သင်လိုရာအား ပြောပါ။ သင်လိုရာအား ကျွန်ုပ် ဆောင်ရွက်ပေးပါမည်"

ဟုဆိုလျှင် ပြိတ္တာ ရွှင်လန်းသွား၏။

သွက်လက်စွာဖြင့် -

"အရှင်မင်းကြီး...ဤသို့ဆိုလျှင် အရှင်မင်းကြီးသည် ဘုရားအမှူး ရှိသည့် သံဃာတော်များအား ပင့်ဖိတ်၍ ဆွမ်းဘောဇဉ်ချိုချဉ်အရသာ အဖျော်ယမကာတို့အား လှူဒါန်းကျွေးမွေးပြီး သင်္ကန်းတို့ကို လှူဒါန်း ပေးပါ။ အမျှပေးဝေပါ"

"ဒါဆို သင့်အတွက် ပြည့်စုံမည်လား"

"ပြည့်စုံပါမည် အရှင်မင်းမြတ်၊ ကျွန်ုပ်လည်း အလှူအဖို့ဘာဂ အမျှရ လျှင် အစာရေဆာပြည့်စုံပြီး ချမ်းသာပါလိမ့်မည်"

"ကောင်းပါပြီ၊ ဒါဆို နံနက်မိုးသောက် အလင်းရောက်လျှင် ကျွန်ုပ် ဆောင်ရွက်ပေးပါမည်"

* * *

အဇာတသတ်မင်းသည် ပြိတ္တာအား ကူညီရန် ဝန်ခံပြီးနောက် နံနက်မိုးသောက် အလင်းရောက်ချိန်ကို စောင့်ခဲ့၏။

နံနက်မိုးသောက်အလင်းရောက်လျှင် စီစဉ်ပြီး ဘုရားနှင့်တကွ သံဃာတော်တို့ အား ဆွမ်းသင်္ကန်းကပ်လှူကာ ဘုရားရှင်အား လျှောက်ထားလျက် ပြိတ္တာအားရည်စူးကာ အလှူအဖို့ဘာဂအတွက် အမျှပေးဝေ၏။

ယင်းသို့ ရေစက်သွန်းချအမျှဝေလိုက်လျှင် ပြိတ္တာသည် ပေးသည့်အဖို့ဘာဂတို့အား ရရှိပြီးနောက် သာဓုခေါ်ဆိုနိုင်ခဲ့၏။

သာဓုခေါ်နိုင်သည့်ခဏ၌ ပြိတ္တာဘဝမှ ကျွတ်လွတ်ပြီး နတ်စည်းစိမ်အား ချက်ချင်း ခံစားရ၏။

ပြိတ္တာဘဝမှ ဤသို့ နတ်စည်းစိမ်ခံစားရခြင်းသည် အဇာတသတ်မင်း၏ကျေးဇူး ကြောင့်ဟု သိ၏။

ထို့ကြောင့် အဇာတသတ်မင်းရှေ့သို့ ကိုယ်ထင်ပြပြီး-

"အရှင်မင်းမြတ်၊ သင် ပြုခဲ့သည့်ကုသိုလ်အဖို့ဘာဂကြောင့် ကျွန်ုပ်သည် နတ်စည်းစိမ်နှင့် နတ်ဘောဇဉ်ကို ခံစားရပြီး ထိုမှျမက ကျွန်ုပ်၏ရူပကာသည်လည်း ပြည့်ဖြိုးတင့်တယ်ခြင်းနှင့် ပြည့်စုံခဲ့ပြီ"

ဟုဆိုပြီး အရှင့်ကျေးဇူးကလည်း ကြီးလှပေသည်ဟု စကားဆိုပြီး နတ်ပြည်ပြန်သွား၏။

အဇာတသတ်မင်းက ကျေနပ်စွာပြုံးလျက်...

(ရုက္ခသေဋ္ဌိပေတဝတ္ထု)



# မိဘ၊ အစ်ကိုပြိတ္တာတို့ကို ကယ်တင်သော မထေရ်

ဗာရာဏသီပြည်၌ ကီတဝမင်း၏သားသည် ဥယျာဉ်၌ ထွက်ကစားစဉ် လမ်း၌ ပစ္စေကဗုဒ္ဓါတစ်ပါးကို တွေ့ရသည်။ မင်းသားဟူသော မာန်မာနဖြင့် ရှင်ပစ္စေကဗုဒ္ဓါကို ကြိမ်းမောင်းစော်ကားပြီး သပိတ်တော်ကို မြေ၌ ပေါက်ခွဲပစ်သည်။ ထိုအကုသိုလ်ကြောင့် ချက်ချင်းမြေမျိုပြီး အဝီစိကျခံရသည်။

အဝီစိတွင် နှစ်ပေါင်းရှစ်သောင်းလေးထောင် ခံရပြီးနောက် ငတ်မွတ်ခေါင်းပါးသော ပြိတ္တာဘဝသို့ ရောက်ခဲ့ရပြန်သည်။

ဂေါတမဘုရားပွင့်သောအချိန်တွင် တံငါရွာတစ်ရွာ၌ လူဖြစ်လေသည်။ ထိုတံငါသည်ဘဝ၌ အတိတ်ဘဝကို ပြန်အောက်မေ့သော ဇာတိဿရဉာဏ်ရ၍ ဘဝဟောင်းကို သိသဖြင့် ကြောက်လန့်ကာ တံငါအလုပ်ကို မလုပ်ချေ။ လုပ်ရသော်လည်း မိသောငါးတို့ကို ပြန်လွှတ်ပစ်လေ့ရှိသည်။

သို့အတွက် မိဘတို့က မနှစ်သက်ကြသဖြင့် အိမ်မှ နှင်ထုတ်လွှတ်လိုက်လေသည်။ ထိုအချိန်တွင် ရှင်အာနန္ဒာသည် ကုဏ္ဍိမြို့အနီး သာဏာမည်သော တောတောင်၌ သီတင်းသုံးနေထိုင်ချိန် ဖြစ်သည်။

တံငါသည်သားသည် အိမ်မှထွက်လာရာတွင် ရှင်အာနန္ဒာမထေရ်ထံသို့ ရောက်လာသည်။ ရှင်အာနန္ဒာမထေရ်သည် ရောက်လာသောလူငယ်ကို ဆွမ်းကျန်ကျွေးမွေးပြီး အကျိုးအကြောင်း မေးသည်။ အကြောင်းစုံသိသောအခါ ရဟန်းပြုလိုက်လေသည်။

ထိုတံငါသည်သား ရဟန်းငယ်သည် အတိတ်ဘဝကပြုခဲ့သော အကုသိုလ်များမှုကြောင့် ဆွမ်းခံမရ ဖြစ်နေသည်။ ဘုရားရှင်သည် ထိုရဟန်းငယ်ကို ချီးမြှင့်လိုသည်ဖြစ်၍ သံဃာတော်များ၏ သောက်ရေသုံးရေကို ထည့်စေသည်။

ရဟန်းငယ်သည် ဘုရားရှင်ညွှန်ကြားသည့်အတိုင်း သံဃာတော်တို့၏ သောက်ရေသုံးရေကို ခပ်ပြီးထည့်ပေးရာ ဒါယိကာတို့ကမြင်၍ ကြည်ညိုပြီး ဆွမ်းဝတ်များ တည်ပေးကြသည်။ ရဟန်းငယ်သည် ရဟန်းတရားကို ဆက်လက်ကြိုးစားအားထုတ်ရာ မကြာခင် ရဟန္တာ ဖြစ်သွားလေသည်။

မထေရ်မြတ်သည် သနားကရုဏာရှိသဖြင့် သုသာန်မှတစ်စ၊ လမ်းဆုံအမှိုက်ပုံမှ စွန့်ပစ်အပ်သော အဝတ်ပုဆိုးပိုင်း ကောင်းနိုးရာရာကို ရွေးချယ်ကောက်ယူပြီး သင်္ကန်းပြုလုပ်သည်။

ထို့နောက် အရပ်လေးမျက်နှာရှိ သံဃာတော်တို့ကို ရည်စူးပြီးလျှင် မိဘနောင်တော်ဆွေမျိုးပြိတ္တာတို့ကို ရည်စူးကာ လှူဒါန်းအမျှပေးဝေသည်။ ပြိတ္တာတို့သည် သာဓုခေါ်နိုင်သည့်ခဏမှာပင် နတ်ဝတ်တန်ဆာအဖြာဖြာ ဝတ်ဆင်ရလေသည်။

အဝတ်အစားရပြီးသောအခါ နောင်တော်ပြိတ္တာက နေထိုင်စရာတောင်းပန်သဖြင့် မထေရ်မြတ်သည် သစ်ခက်တဲကျောင်း ဆောက်လုပ်ပြီး လှူဒါန်းအမျှပေးဝေရာ ဘုံဗိမာန်ချက်ချင်းရလေသည်။

ပြိတ္တာအစ်ကိုသည် သောက်စရာရေအကူအညီ တောင်းပြန်ရာမထေရ်က ရေကို

သန့်စင်စွာ စစ်ပြီး အရပ်လေးမျက်နှာ သံဃာကိုရည်မှန်းပြီး လှူဒါန်းအမျှဝေရာ ပြိတ္တာတို့သည် သာဓုခေါ်နိုင်သည့်ခဏမှာပင် ကြည်လင်သောရေကို သောက်သုံးရလေသည်။

စီးစရာယာဉ်အတွက် တောင်းခံပြန်သဖြင့် မထေရ်က ဖိနပ်ကို လှူဒါန်းပြီး အမျှပေးဝေရာ စိတ်အလိုရှိတိုင်း ပြီးသောယာဉ်တို့ကို ရရှိကြလေသည်။ ပြိတ္တာတို့သည် မိမိတို့အလိုဆန္ဒ ပြည့်ဝကြသောအခါ မထေရ်ကို လာရောက်ရှိခိုးကြလေသည်။

ဤဝတ္ထုကိုထောက်သောအားဖြင့် ကွယ်လွန်သူအတွက် လှူဒါန်းအမျှဝေကြရာတွင် ပစ္စည်းစုံပေးလှူဒါန်းရန် လိုအပ်ကြောင်း သိသင့်ကြသည်။

မကြာခင် ထိုမထေရ်၏ မိဘနှင့်အစ်ကိုတော်သူတို့သည် ကွယ်လွန်ကြရာ ပြုလုပ်သောမကောင်းမှုအကျိုးကြောင့် ငတ်မွတ်ဆာလောင်သော ပြိတ္တာဘုံသို့ ရောက်ကြလေသည်။

မထေရ်၏မိဘပြိတ္တာတို့သည် မိမိတို့၏သားရဟန်းဖြစ်သည်ကို သိရှိကြပြီး မိမိတို့ဘဝချမ်းသာရေးကို အကူအညီတောင်းလိုကြသော်လည်း လူ့ဘဝက အိမ်မှ နှင်ထုတ်ခဲ့ဖူးထားခဲ့သဖြင့် အကူအညီမတောင်းရဲကြပေ။

သို့အတွက် လူ့ဘဝက ညီငယ်အပေါ် သံယောဇဉ်ကြီးခဲ့သော အစ်ကိုပြိတ္တာကို မထေရ်ထံ စေလွှတ်ကြသည်။ အစ်ကိုကြီးပြိတ္တာသည် မထေရ်ရွာသို့ ဆွမ်းခံဝင်စဉ် လက်ယာပုဆစ်ဒူးကို မြေ၌တည်စေလျက် လက်အုပ်ချီကာ မထေရ်ကို ကိုယ်ထင်ပြလေသည်။

မထေရ်သည် ပြိတ္တာကိုယ်ထင်ပြသည်ကို အမှတ်မထင် ဆိတ်ဆိတ်နေပြီးမှ ရှေ့သို့ ဆက်ကြွသွားလေသည်။ အစ်ကိုပြိတ္တာသည် ဆက်လိုက်ပြီး ဤသို့ လျှောက်ထားသည်။

"အရှင်ဘုရား...တပည့်တော်သည် အခြားမဟုတ်ပါ။ လူ့ဘဝက အရှင်ဘုရား၏နောင်တော် ဖြစ်ပါသည်။ အရှင်ဘုရား၏မိဘနှစ်ပါးနှင့်တပည့်တော်တို့သည် ပြုခဲ့မိသောကုသိုလ်ကံကြောင့် ငတ်မွတ်ခေါင်းပါးပြီး ဆင်းရဲသောပြိတ္တာဘဝသို့ ရောက်နေကြရပါသည်။

မိဘနှစ်ပါးသည် အရှင်ဘုရားထံ မလာရဲ၍ တပည့်တော်သာ လာရပါသည်။ အရှင်ဘုရားသည် တပည့်တော်အား သနားသဖြင့် ကုသိုလ်အဖို့ဘာဂ အမျှပေးဝေပြီး ကယ်ဆယ်စောင့်ရှောက်စေလိုပါ သည်ဘုရား"

မထေရ်သည် ဆိတ်ဆိတ်နေ ဝန်ခံကတိပေးပြီးလျှင် တစ်ကျိပ်နှစ်ပါးသော သံဃာတော်တို့ ဆွမ်းခံအပြန်ကို စောင့်လေသည်။ သံဃာတော်များ စုံလင်သောအခါ ဤသို့ လျှောက်ထားသည်။

"တပည့်တော်သည် ဆွေမျိုးဖြစ်သော ပြိတ္တာတို့ကို သနားစောင့်ရှောက် သောအားဖြင့် သံဃာအား ရည်မှန်းပြီး ဆွမ်းလှူပါသည်။ သို့ အတွက် အရှင်ဘုရားတို့ ရအပ်သောဆွမ်းကို တပည့်တော်အား ပေးလှူကြစေလိုပါသည်ဘုရား"

ရဟန်းတော် တစ်ကျိပ်နှစ်ပါးသည် မထေရ်ပန်ကြားချက်ကို ဝမ်းမြောက်ဝမ်းသာ လက်ခံကာ ရသမျှသောဆွမ်းကို ပေးလှူကြသည်။ မထေရ်မြတ်သည် ထိုဆွမ်းကို သံဃာအား ဖိတ်ကြား၍ လှူဒါန်းပြီးလျှင် မိဘ၊ အစ်ကိုတို့အား ရည်မှန်းကာ အမျှပေး ဝေသည်။

ထိုခဏမှာပင် မိဘ၊ အစ်ကိုပြိတ္တာတို့မှာ သာဓုခေါ်နိုင်ပြီး တစ်ခဏချင်းမှာပင် အနံ့အရသာနှင့်ပြည့်စုံသော အာဟာရတို့ကို စားသောက်ရလေသည်။

မထေရ်မြတ်၏ဒါနစွမ်းအားကြောင့် ခွန်အားနှင့်ပြည့်စုံပြီဖြစ်သော အစ်ကိုပြိတ္တာ သည် မထေရ်ကို ထင်ရှားစွာပြပြီး လျှောက်ထားသည်။

"အရှင်ဘုရား...စားသောက်ဖွယ်ရာ ပြည့်စုံပါပြီ၊ အဝတ်မပါ ကိုယ်ချည်းသာနေရသော တပည့်တော်တို့ကို ဝတ်စားဆင်ယင်နိုင်ရန် စီမံပါဦးဘုရား"

# ကိုယ်စောင့်နတ်

လူတို့တွင် ကိုယ်စောင့်နတ်ရှိကြောင်းကို ဗုဒ္ဓပိဋကတ်စာပေ၌ ပြဆိုချက်ရှိပေသည်။ သုတ်ပါထေယျအဋ္ဌကထာ၊ ဥပရိပဏ္ဏာသအဋ္ဌကထာ၊ ပဋိသမ္ဘိဒါမဂ္ဂအဋ္ဌကထာ၊ စူဠဝဂ္ဂါဒိအဋ္ဌကထာ စသည်တို့တွင် ကိုယ်စောင့်နတ်နှင့်စပ်လျဉ်းသော ဖော်ပြချက်တို့ ပါရှိပေသည်။

'သဗ္ဗပထမံ ဟိဿ တံ ပါပံ အတ္တနာ ဇာနာတိ၊ တတော အာရက္ခဒေဝတာ' ဟု ဝိနည်းအဋ္ဌကထာ၌ ပြဆိုထားသည်။ ယင်းပါဠိ၏အဓိပ္ပာယ်မှာ မိမိ၏မကောင်းမှုကို မိမိသည် ရှေးဦးစွာ သိ၏။ ထို့နောက် မိမိ၏ကိုယ်စောင့်နတ်သည် ဒုတိယသိ၏ဟူ၍ ဖြစ်သည်။

ထို့ကြောင့် မည်သူမဆို မိမိမကောင်းမှုပြုသည်ကို မိမိသာလျှင် အသိဆုံးဖြစ်၏။ မိမိ၏မကောင်းမှုကို ဒုတိယသိသူမှာ မိမိ၏ကိုယ်စောင့်နတ် ဖြစ်၏။

သို့ဖြစ်ရာ မိမိ၏မကောင်းမှုပြုခြင်းနှင့်စပ်၍ မိမိကိုယ်ကို ပြန်ပြီးလိမ်၍မရ။ ထို့အတူ ကိုယ်စောင့်နတ်ကိုလည်း လိမ်၍မရပေ။

လူကိုယ်တိုင်၌က တရားမစောင့်လျှင် ကိုယ်စောင့်နတ်လည်း တရားမစောင့်တော့ပေ။ ထို့ကြောင့် ကိုယ်စောင့်နတ်၏စောင့်ရှောက်မှုကို ခံယူလိုလျှင် ကိုယ်ကိုယ်တိုင်၌က တရားရှိဖို့၊ တရားစောင့်ဖို့လိုသည်ဟု သိမှတ်ဆင်ခြင်ရန် ဖြစ်၏။

(သုတ်မဟာဝါအဋ္ဌကထာ၊ မဟာပဒါနသုတ်အဖွင့်)

လူအချင်းချင်း အငြင်းအခုန် (ခိုက်ရန်) ဖြစ်ပွားကြရာ၌ ထိုလူတို့ကို စောင့်ရှောက်သော ကိုယ်စောင့်နတ်တို့လည်း တစ်ဦးနှင့်တစ်ဦး အငြင်းအခုန် (ခိုက်ရန်) ဖြစ်ပွားကြကြောင်း ကျမ်းစာပေအထောက်အထားအရ သိရှိရသည်။

(ဓမ္မပဒအဋ္ဌကထာ)

ကိုယ်စောင့်နတ်ဆိုသည်များမှာ လူတို့၏ကိုယ်၌ အမြဲကပ်၍ စောင့်နေသလောဟု မေးဖွယ်ရာရှိ၏။ ထိုသို့ မဟုတ်ပေ။ လူ၏ကိုယ်၌ အမြဲကပ်လျက်၊ အမြဲလိုက်ပါလျက် စောင့်ရှောက်နေခြင်းမျိုး မဟုတ်။ သူ့နည်းသူ့ဟန် အနေအထားမျိုးဖြင့် ဖြစ်သင့်သည် အားလျော်စွာ ကြည့်ရှုစောင့်ရှောက်ကြခြင်း ဖြစ်၏။

ထိုကိုယ်စောင့်နတ်ဆိုသူများမှာလည်း စတုမဟာရာဇ် နတ်မင်းကြီးလေးပါးတို့၏ လက်အောက်ခံ ဘုမ္မစိုးနတ်များထဲမှ နတ်တစ်မျိုးပင် ဖြစ်၏။

ဘုရားအလောင်းတော် သုဝဏ္ဏသာမ၏ ဘဝဖြစ်စဉ်တွင် ရှေးဘဝဟောင်းတစ်ခုက မယ်တော်(မိခင်) တော်စပ်ခဲ့ဖူးသော နတ်ဘီလူးမကြီးက သားဖြစ်သူ သုဝဏ္ဏသာမအား အမြဲတစေ လိုက်လံစောင့်ရှောက်လျက်ရှိကြောင်း ကျမ်းစာပေ၌ ပြဆိုထား၏။

လူတစ်ယောက်အတွက် စောင့်ရှောက်သော ကိုယ်စောင့်နတ်ဆိုသည်မှာလည်း ယင်းသဘောမျိုးပင် ဖြစ်နိုင်စရာရှိပါ၏။ ယင်းသို့လည်း စောင့်ရှောက်နိုင်ကြမည် ဖြစ်ပါ၏။ ရှေးရှေးဘဝများက အကြောင်းရေစက်၊ အဖြစ်အပျက်များကို အခြေခံလျက် လူတစ်ဦးအတွက် နတ်တစ်ဦးဦး၏စောင့်ရှောက်မှုခံရသည်များလည်း ရှိနိုင်ကြောင်း အထက်ပါသုဝဏ္ဏသာမ သားအမိတို့၏ဖြစ်စဉ်အရ သိနိုင်ပေသည်။

ထို့ကြောင့် လူတို့အနေဖြင့် ကိုယ်စောင့်နတ်ကပ်အောင်၊ ကိုယ်စောင့်နတ်စောင့်ရှောက်အောင် ကောင်းသောအလုပ်၊ ကောင်းမှုအလုပ်များပြုလုပ်ခြင်း၊ ကိုယ်စောင့်နတ်အပါအဝင် နတ်များအား မေတ္တာပို့သခြင်း စသည်များပြုလုပ်သင့်လှပေသည်။ မိမိ၏ကောင်းရာကောင်းကြောင်း အားထုတ်မှုအပေါ် မူတည်ပြီး ကိုယ်စောင့်နတ်ကလည်း ကောင်းသောကူညီမှု၊ မ,စမှုများ ပြုလုပ်ပေးနိုင်မည် ဖြစ်၏။

ကိုယ်စောင့်နတ်နှင့်စပ်လျဉ်း၍ ဇာတ်တော်များ၌လည်း ပြဆိုထားချက်များရှိပေသည်။ ဤ၌ အနည်းငယ် ကောက်နုတ်တင်ပြလိုပေသည်။

မဟာနိပါတ်၊ ဝိဓုရဇာတ်အရ လူကို နတ်သမီးစောင့်ရှောက်ပုံ သိနိုင်၏။ ဓနဉ္စယကောရဗျမင်းနှင့် ပုဏ္ဏကနတ်စစ်သူကြီးတို့ ကြွေအန်ကစားကြသည်။ လူနှင့်နတ် ကစားကြခြင်း ဖြစ်၏။ ထိုသို့ ကစားကြရာ၌ ဓနဉ္စယကောရဗျမင်းကချည်း အနိုင်ရလေ့ရှိ၏။

ထိုသို့ ဓနဉ္စယကောရဗျမင်းကချည်း နိုင်နေသောအခါ ပုဏ္ဏကနတ်စစ်သူကြီးက စဉ်းစား၏။ သူချည်း ဘာကြောင့်နိုင်ရသနည်း။ သူ၏နည်းစနစ်ကိုလည်း လေ့လာစဉ်းစားကြည့်လိုက်၏။ ထိုအခါ အဖြေပေါ်လာ၏။ ဓနဉ္စယကောရဗျအား စောင့်ရှောက်နေသော ကိုယ်စောင့်နတ်သမီးက ကူညီနေသောကြောင့်ပင် ဖြစ်၏။

ယင်းသို့ အကြောင်းမှန်ကိုသိသဖြင့် ပုဏ္ဏကနတ်စစ်သူကြီးသည် ဓနဉ္စယကောရဗျ၏ကိုယ်စောင့်နတ်သမီးအား မျက်စောင်းထိုးကြည့်လိုက်ရာ ဓနဉ္စယကောရဗျ၏ ကိုယ်စောင့်နတ်သမီး အတင်းအဓမ္မ ထွက်ပြေးသွားရ၏။

ထိုဓနဉ္စယကောရဗျအား စောင့်ရှောက်လျက်ရှိသော ကိုယ်စောင့်နတ်သမီးသည် လွန်ခဲ့သည့်သုံးဘဝက ယင်းဓနဉ္စယကောရဗျ၏မိခင်(အမေ) တော်စပ်ခဲ့ဖူးသူ ဖြစ်၏။

အထက်တွင် ပြဆိုချက်များအရ ကိုယ်စောင့်နတ်တို့သဘောကို သိနိုင်၏။ ယင်းကိုယ်စောင့်နတ်များသည် မိမိ စောင့်ရှောက်သူလူသားအား ကူညီ မ,စမှုများလည်း ပေးလေ့ရှိကြောင်း သိနိုင်၏။

စတုက္ကနိပါတ်၊ စူဠကာလိင်္ဂဇာတ်တွင်လည်း ကိုယ်စောင့်နတ်ဆိုင်ရာ ပြဆိုချက်ကို တွေ့ရ၏။

ကာလိင်္ဂမင်းနှင့် အသကမင်းတို့ စစ်ပြိုင်စစ်ခင်း စစ်တိုက်ခြင်းပြုကြ၏။ လူတို့စစ်ခင်းကြသလို ၄င်းမင်းနှစ်ပါးတို့၏ ကိုယ်စောင့်နတ်နှစ်ပါးကလည်း စစ်တိုက်စစ်ခင်းခြင်း ပြုလုပ်ကြ၏။

ကာလိင်္ဂမင်း၏ကိုယ်စောင့်နတ်က တစ်ကိုယ်လုံးဖြူနေသည့် (အဖြူရောင်) နွားလားဥသဘဖယောင်ဆောင်ထား၏။ အသကမင်း၏ကိုယ်စောင့်နတ်ကလည်း တစ်ကိုယ်လုံးမည်းသော (အမည်းရောင်) နွားလားဥသဘဖယောင် ဆောင်ထား၏။

ယင်းသို့ နွားလားဥသဘဖယောင်ဆောင်ကာ ဝှေ့ကြတိုက်ခိုက်ကြ၏။ ထိုသို့ နွားလားဥသဘနှစ်ကောင် ဝှေ့နေတိုက်ခိုက်နေကြသည်ကို ကာလိင်္ဂမင်းနှင့် အသကမင်းတို့သာ တွေ့မြင်ကြရ၏။ အခြားလူများ မမြင်ကြရပေ။

ထိုအခြင်းအရာကို အသကမင်း၏အမတ် နန္ဒသေန သိသွား၏။ ထိုအခါ နန္ဒသေန အစီအမံတစ်ရပ် ပြုလုပ်၏။ အစီအမံမှာ ကာလိင်္ဂမင်း၏ကိုယ်စောင့်နတ် အဖြူရောင် နွားလားဥသဘကို လှံများ၊ လက်နက်များဖြင့် ဝိုင်းဝန်းထိုးသတ်ကြရန်ပင် ဖြစ်၏။

နန္ဒသေန၏အစီအမံအတိုင်း ပြုလုပ်ကြရာ ကာလိင်္ဂမင်း၏ ကိုယ်စောင့်နတမှ အယောင်ဆောင်ထားသော နွားလားဥသဘကြီး သေဆုံး(ကျဆုံး) သွားရတော့၏။ ဤသည်ပင်လျှင် ကာလိင်္ဂမင်း၏ကိုယ်စောင့်နတ် သေဆုံးသွားရပုံ ဖြစ်၏။

သူ့ကိုယ်စောင့်နတ် သေဆုံးသည်နှင့်တစ်ပြိုင်နက် ကာလိင်္ဂမင်းလည်း ထိတ်လန့်တုန်လှုပ်မှုများဖြစ်ကာ အလွဲလွဲအမှားမှား၊ အယောင်ယောင်အမှားမှားဖြင့် ကယောင်ချောက်ချားဖြစ်လျက် စစ်ရှုံးရတော့၏။

ဤသဘောတရားများကိုကြည့်လျှင် ကိုယ်စောင့်နတ်တို့သည် မိမိတို့ စောင့်ရှောက်သူအပေါ်၌ ဂရုတစိုက်၊ လေးလေးနက်နက် ဆောင်ရွက်ပေးတတ်လေ့ရှိကြကြောင်း သိမှတ်စရာ ဖြစ်၏။

ထို့ကြောင့် မိမိတို့၏ကိုယ်စောင့်နတ်များ စိတ်ချမ်းသာ၍ ကိုယ်ကျန်းမာရှိစေရန် လူတို့အနေဖြင့် မမေ့မလျော့ မေတ္တာပို့သင့်ကြ၏။ မိမိတို့ပြုသော ကောင်းမှုကုသိုလ်အဖို့ကိုလည်း ယင်းကိုယ်စောင့်နတ်တို့အား မပျက်မကွက် အမျှပေးဝေသင့်လှတော့၏၊

အထက်ဖော်ပြပါအချက်အလက်များကို ထောက်ရှုလျက် လူတို့အနေဖြင့် မိမိထံ၌ နတ်မြတ်နတ်ကောင်းများ စောင့်ရှောက်အောင် ကောင်းမှုယှဉ်ကာ နေထိုင်ရမည်ဖြစ်၏။ မိမိနှင့်သက်ဆိုင်ရာ၊ ဆက်နွယ်ရာ ကိုယ်စောင့်နတ်တစ်ဦးဦး မိမိထံရောက်ရှိလာပြီး မိမိအား စောင့်ရှောက်လာပြီဆိုပါက ထိုကိုယ်စောင့်နတ်အား မိမိကလည်း မေတ္တာတရား၊ ကောင်းသောအကျင့်တရားများဖြင့် ဖွဲ့နှောင်တုံ့ပြန်သင့်၏။ ပြန်လှန်လေးစားသင့်၏။ ထိုအခါ ကိုယ်စောင့်နတ်ကလည်း မိမိအား အမြဲစောင့်ရှောက်ကာ ကူညီမည်၊ ကောင်းကျိုးပေးမည် ဖြစ်ပါ၏။

မိမိ၌ ကိုယ်စောင့်နတ် ရှိသည်/မရှိသည်ဆိုသောအချက်ကို ရှည်ရှည်ဝေးဝေး စဉ်းစားစရာ မလိုပါ။ ကိုယ်လုပ်သော ကောင်းသောအကြောင်းတရားများရှိနေလျှင် ကိုယ်စောင့်နတ်တစ်ဦးဦးလည်းရှိနေသည်ဟု ယူဆလိုက်ပါ။ ရှိနေသည်ဟု သဘောထားကာ ထိုကိုယ်စောင့်နတ်အား မေတ္တာပို့ခြင်း ပြုလုပ်ပေးပါ။ မိမိပြုသောကုသိုလ်အဖို့ကို ထိုကိုယ်စောင့်နတ်အား ရည်စူးလျက် အမျှအတန်း ပေးဝေပါ။ ကောင်းသောအကျိုးများ ရရှိလာမည် ဖြစ်ပါ၏။



## စတုမဟာရာဇ်နတ်မင်းကြီးလေးပါး လူ့ပြည်ဆင်း၍ စာရင်းကောက်ယူပုံ

တေရဋ္ဌ၊ ဝိရူဠှက၊ ဝိရူပက္ခ၊ ကုဝေရ (ဝေဿဝဏ်)ဆိုသော စတုမဟာရာဇ် နတ်မင်းကြီးလေးပါးတို့သည် ဗုဒ္ဓဘာသာဝင်များ ဖြစ်ကြ၏။ ဗုဒ္ဓဘာသာဝင်ဖြစ်သည့် အားလျော်စွာ ဗုဒ္ဓဘာသာ၊ ဗုဒ္ဓသာသနာဆိုင်ရာများ၌ သူ့အတိုင်းအတာအရ ပါဝင် ဆောင်ရွက်တတ်ကြ၏။ အာဋာနာဋိယပရိတ်တော်သည် ကုဝေရ (ဝေဿဝဏ်)နတ်မင်း ကြီးဦးဆောင်ကာ အခြားနတ်မင်းကြီးများပါ ပါဝင်ကြိုးပမ်းစီမံဆောင်ရွက်မှုများကြောင့် ဖြစ်ထွန်းပေါ်ပေါက်ခဲ့ရခြင်း ဖြစ်သည်။

နတ်မင်းကြီးလေးပါး ဦးဆောင်သောအဖွဲ့သည် လူ့ပြည်သို့လည်း ကုသိုလ်မှတ်တမ်း များ လာရောက်ကောက်ယူလျက်ရှိကြောင်း ကျမ်းစာပေ၌ ပြဆိုချက်ရှိပေသည်။ ယင်း အကြောင်းကို ဤ၌ တင်ပြလို၏။

စတုမဟာရာဇ်နတ်မင်းကြီးလေးပါးသည် သိကြားမင်း၏ နတ်စစ်သူကြီးများ ဖြစ်သည်နှင့်အညီ သိကြားမင်း၏ကိစ္စများကိုလည်း ကူညီဆောင်ရွက်ပေးကြ၏။

နတ်မင်းကြီးများသည် တာဝတိံသာနတ်ပြည်၌ တစ်လလျှင် ရှစ်ရက် တရားနာဖို့ လှည့်လည်ကြွေးကြော်ကြ၏။

တာဝတိံသာနတ်ပြည် သုဓမ္မာ ဓမ္မာရုံကြီး၌ တရားသဘင်အစည်းအဝေး ကျင်းပလေ့ရှိသည်။ ထိုတရားသဘင်အစည်းအဝေး၌ တစ်ခါတစ်ရံ သနင်္ကုမာရ (သ-နင်ကုမာရ) ဗြဟ္မာကြီးလာရောက်ပြီး တရားဟောတတ်သလို တစ်ခါတစ်ရံတွင်မူ သိကြားမင်းကြီး ကိုယ်တိုင် လာရောက်တရားဟောကြား၏။ တစ်ခါတစ်ရံတွင်ကား ဓမ္မကထိက ရဟန်းတော်တစ်ပါးပါး ကြွရောက်တရားဟောကြားတော်မူ၍ တစ်ခါတစ်ရံတွင်မူ အညတရ= မထင်မရှား နတ်သားတစ်ပါးပါးကလည်း လာရောက်ဟောကြားလေ့ ရှိ၏။

ဤနေရာတွင် စတုမဟာရာဇ် နတ်မင်းကြီးများအား တရားနှိုးဆော်သူ၊ တိုက်တွန်းသူ၊ နိဗ္ဗာန်ဆော်အဖြစ် တွေ့မြင်ကြရမည် ဖြစ်၏။

နတ်မင်းကြီးလေးပါးတို့သည် လူ့ပြည်ဆင်းကာ ကောင်းမှုပြုသူ စာရင်းကောက်ယူခြင်းကိစ္စကိုလည်း ဆောင်ရွက်ကြ၏။ ယင်းသို့ လူ့ပြည်ဆင်း၍ ကောင်းမှုစာရင်းကောက်ယူကြရာ၌ နတ်မင်းကြီးတို့၏လက်အောက်ခံ နတ်များက ဆင်း၍ကောက်ကြသည်များရှိသလို နတ်မင်းကြီးများကိုယ်တိုင် ဆင်း၍ ကောက်ကြသည်များလည်း ရှိပေသည်။

မြန်မာလတို့၏လဆန်း (၈)ရက်၊ လဆုတ် (၈)ရက်နေ့များ၌ နတ်မင်းကြီးလေးပါးတို့၏လက်အောက်ခံ နတ်အမတ်ကြီးများဆင်း၍ ကောက်ကြ၏။ လဆန်း ၁၄ ရက်၊ လဆုတ် ၁၄ ရက်နေ့များ၌ နတ်မင်းကြီးလေးပါးတို့၏သားတော်များ ဆင်း၍ စာရင်းကောက်ကြ၏။ လပြည့်၊ လကွယ်နေ့များတွင်မူ နတ်မင်းကြီးလေးပါးကိုယ်တိုင်ပင် လူ့ပြည်ဆင်း၍ စာရင်းကောက်ကြ၏။

ထိုသို့ လူ့ပြည်ဆင်းကာ ကောင်းမှုပြုသူစာရင်းကောက်ကြရာတွင် ရွှေပြား(ရွှေပေ) နှင့် ထိုရွှေပြား(ရွှေပေ)ပေါ်၌ရေးရန် ဟင်္သပဒါးကို ယူဆောင်သွားကြသည် ဆို၏။

ဟင်္သပဒါးဆိုသည်မှာ ဟင်္သာ၏ခြေအရောင်အဆင်းကဲ့သို့ နီသောအမှုန့် ဖြစ်၏။ ၎င်းအမှုန့်ဖြင့် ရွှေပေပြားပေါ်၌ ရေးခြင်းဖြစ်၏။

လူ့ပြည်တွင် ဤပုဂ္ဂိုလ်သည် ရတနာသုံးပါးကို ဆည်းကပ်ခြင်းပြု၏။ ငါးပါးသီလကို ဆောက်တည်စောင့်ထိန်း၏။ ဥပုသ်နေ့ရောက်သောအခါ ဥပုသ်သီလစောင့်ထိန်း၏။ ဥပုသ်စောင့်၏။ မိဘကိုလည်း လုပ်ကျွေး၏။ စသည်ဖြင့် ထိုပုဂ္ဂိုလ်၏ (လူတစ်ဦးဦး၏) ပြုလုပ်ဆောင်ရွက်သော ကုသိုလ်ကောင်းမှုစာရင်းများကို ရွှေပေရွှေပြားပေါ်တွင် ဟင်္သပဒါးဖြင့် ရေးသားမှတ်တမ်းထိုး မှတ်တမ်းတင်သွား၏။

နတ်ပြည်ရောက်သောအခါ ၎င်းကောင်းမှုမှတ်တမ်း ရွှေပေရွှေပြားကြီးကို ပဥ္စသိခနတ်သား၏လက်သို့ ပေးအပ်ကြရ၏။ ထို့နောက် ပဥ္စသိခနက်သားမှတစ်ဆင့် မာတလိနတ်သားထံ ပေးအပ်ရ၏။ မာတလိနတ်သားကလည်း သိကြားမင်းကြီးထံသို့ တစ်ဆင့်ပေးအပ်ရပြန်သည်။ ကုသိုလ်ပြုသူနည်း၍ ရေးမှတ်စရာနည်းလျှင် ရွှေပြားရွှေပေပမာဏကလည်း ခပ်ငယ်ငယ်၊ ခပ်သေးသေးပင် တွေ့ရ၏။ ကုသိုလ်ကောင်းမှုပြုသူစာရင်းများပြားလျှင် ရွှေပေရွှေပြားကလည်း ကြီးမားခံ့ထည်၏။

ရွှေပေရွှေပြား သေးသေးငယ်ငယ်တွေ့ရလျှင် နတ်တို့သည် စိတ်မရွှင်လန်းကြ၊ စိတ်မချမ်းသာကြ။ သံဝေဂရကြ၏။

"လူ့ပြည်မှာတော့ လူတွေ ကုသိုလ်တရားကို မေ့လျော့နေကြပြီး အပါယ်လေးဘုံမှာ ပွားစည်းစည်ပင်တော့မှာ၊ စည်ကားတော့မှာပဲ။ တို့နတ်ပြည်မှာတော့ အချည်းနှီးဖြစ်တော့မှာပဲ" စသည်ဖြင့် တွေးဆပြီး နတ်တို့ စိတ်မချမ်းမသာ ဖြစ်ကြရ၏။

ရွှေပေရွှေပြား ခံ့ထည်ကြီးမားစွာ တွေ့ရလျှင်ကား နတ်တို့ စိတ်ရွှင်လန်းကြ၏။ စိတ်ချမ်းသာကျေနပ်မှု ဖြစ်ကြ၏။ "အပါယ်ဘုံမှာ သတ္တဝါတွေနည်းပြီး တို့နတ်ပြည်ကြီး သည့်ထက်စည်ကားတော့မှာပဲ။ စည်ပင်တော့မှာပဲ"စသည်ဖြင့် တွေးဆကာဝမ်းမြောက်ဝမ်းသာ ဖြစ်ကြ၏။

ထိုရွှေပေရွှေပြားမှာပါသည့် ကုသိုလ်မှတ်တမ်းစာရင်းများကို နတ်သဘင်အစည်းအဝေး၌ သိကြားမင်းကြီးကိုယ်တိုင် ဖတ်ကြားပြသည်။ သိကြားမင်းကြီး၏ ပကတိအသံ

ကလည်း အလွန်ကျယ်သည်ဟု ဆိုရမည်ဖြစ်၏။ လူတို့၏အသံနှင့်ကား မနှိုင်းယှဉ်အပ်ပေ။

သိကြားမင်း၏ပကတိအသံသည် ၁၂ ယူဇနာအထိ ပျံ့နှံ့သွားသည်ဆို၏။ (တစ်ယူဇနာ = ၈ မိုင်)။ အကယ်၍ အသံကို ပကတိထက်မြှင့်လိုက်လျှင်ကား ယူဇနာ တစ်သောင်းကျယ်ဝန်းသည့် နတ်ပြည်အားလုံးပင် ကြားစေနိုင်ကြောင်း ကျမ်းစာပေ၌ ပြဆိုထား၏။ (သုတ္တန္တမဟာဝဂ္ဂအဋ္ဌကထာ၊ ၂၄၃၊ မဟာဝဂ္ဂဋီ၊ ၂၁၉။)

ဖော်ပြပါကျမ်းလာစကားများကို ထောက်၍ စတုမဟာရာဇ်နတ်မင်းကြီးများ အပါအဝင် အခြားတန်ခိုးရှင်နတ်များသည် လူ့ပြည်သို့လာရောက်ကာ ကုသိုလ်ကောင်းမှု စာရင်းကောက်လေ့ရှိကြောင်း သတိပြုဆင်ခြင်ရန် ဖြစ်၏။

## စတုမဟာရာဇ်အနွယ်ဝင်များနှင့်စပ်လျဉ်း၍ ခြုံငုံရောမွှမ်းပြဆိုခြင်း

သစ်ပင်စောင့်နတ်ခေါ် ရုက္ခစိုးနတ်၊ ကောင်းကင်စောင့်နတ်ခေါ် အာကာသစိုးနတ်၊ တောစောင့်နတ်၊ တောင်စောင့်နတ်၊ အိမ်စောင့်နတ်၊ ကိုယ်စောင့်နတ်၊ ဘုမ္မစိုးနတ်၊ မြေဖုတ်ဘီလူး စသည်တို့မှာ စတုမဟာရာဇ်နတ်မင်းကြီးလေးယောက်တို့၏လက်အောက်ခံ များ ဖြစ်ကြ၏။

အိမ်စောင့်နတ်၊ ရွာစောင့်နတ် စသည်ဖြင့် မြေ၌မှီ၍နေကြသော နတ်အားလုံးကို ဘုမ္မစိုးနတ်ဟု ခေါ်ဆိုကြရ၏။ မြေနှင့်စပ်သမျှ၊ မြေကိုမှီသမျှ နတ်အားလုံးကို ဘုမ္မစိုးနတ် ဟုခေါ်နိုင်ကြောင်း သိမှတ်ဆုံးဖြတ်ကြည့်နိုင်ပေ၏။ ဤနေရာ၊ ဤကဏ္ဍ၌ ယင်းစတု မဟာရာဇ် လက်အောက်ခံ နတ်ဘီလူးများအကြောင်းကို ကျမ်းစာပေအသီးသီးမှ ကောက်နုတ်ရေးသားဖော်ပြမည် ဖြစ်ပါသည်။

## ဘုမ္မစိုးနတ်တို့အတွက် ထူးခြားချက်

မြေ၌မှီ၍နေသော နတ်များအားလုံးကို ဘုမ္မစိုးနတ်ဟု ခေါ်၏။ သစ်ပင်စောင့်နတ် ခေါ် ရုက္ခစိုးနတ်၊ အိမ်စောင့်နတ်၊ တောစောင့်နတ်၊ တောင်စောင့်နတ် စသည့်နတ်များ သည် ဘုမ္မစိုးနတ်များ၌ ပါဝင်ကြ၏။

မြေ၌မှီ၍နေသော ထိုဘုမ္မစိုးနတ်များ၏ ရဟန္တာဖြစ်ချိန်အခြေအနေနှင့် လူတို့ ရဟန္တာဖြစ်ချိန်အခြေအနေများ ကွာခြားကြ၏။

လူသားများသည် သောတာပန်၊ သကဒါဂါမ်ဖြစ်သောအခါ ထိုသောတာပန်၊ သကဒါဂါမ်အဖြစ်နှင့်ပင် အသက်ထက်ဆုံး နေသွားနိုင်ကြ၏။ ရဟန္တာဖြစ်သောအခါ၌ကား လူသားဘဝဖြင့်နေ၍ မရတော့ပေ။ ရဟန္တာဖြစ်သည်နှင့်တစ်ပြိုင်နက် ရဟန်းပြုကြရ၏။ ရဟန်းမပြုလျှင် ပရိနိဗ္ဗာန်စံရ (နောက်ဆုံး သေခြင်းအနေဖြင့်သေရ) သည်။ ဘုမ္မစိုးနတ်များကား ထိုသို့မဟုတ်ပေ။ ရဟန္တာဖြစ်လျှင်လည်း နေမြဲတိုင်း ဘုမ္မစိုးနတ်ဘဝနှင့်ပင် ဆက်လက်နေသွားနိုင်ကြ၏။ အသက်ထက်ဆုံးနေသွားနိုင်ကြ၏။

(သမ္မောဟဝိနောဒနီအဋ္ဌကထာ)

## မိစ္ဆာဒိဋ္ဌိနတ်ဘီလူးများ လူ့လောက၌ရှိ

စတုမဟာရာဇ်လက်အောက်ခံ မိစ္ဆာဒိဋ္ဌိ = အယူမှားရှိသူ၊ ဗုဒ္ဓဘာသာဝင်မဟုတ်သူ နတ်ဘီလူးဆိုးများ လူ့လောက၌ ရှိနေကြ၏။ ထိုသူများကို သတိထားရမည်ဖြစ်၏။ ထိုအရာ၌ ဗုဒ္ဓ၏ဂုဏ်တော်၊ ပရိတ်တော် အရံအတား၊ မိမိတို့၏ ခိုင်မြဲတည်ကြည်သော သီလ၊ ပွားများမှုမေတ္တာတရား၊ ကျင့်ကြံအားထုတ်မှု ဝိပဿနာတရားတို့ကို အားကိုးရမည်ဖြစ်၏။ ထိုထိုကျင့်စဉ်တရားတို့ကြောင့် နတ်မိစ္ဆာ၊ နတ်ဘီလူးဆိုးတို့၏ရန်ကို ကာကွယ်ဆောင်မြင်နိုင်ခဲ့သော ထုံးသာဓကများ ဘုရားဟောပိဋကတ်တော်တို့၌ အများအပြား ပြဆိုထားချက် ရှိနေ၏။

ဓမ္မပဒ၌ ထင်းခွေသားအဖနှစ်ယောက်အကြောင်း ဝတ္ထုတစ်ပုဒ်ကို သာဓကထား ကြည့်ရန် ဖြစ်၏။

မိစ္ဆာဒိဋ္ဌိဘီလူး = အယူမှားရှိသူ၊ ဗုဒ္ဓဘာသာတရားကို မယုံကြည်သူ ဘီလူးနှင့် သမ္မာဒိဋ္ဌိဘီလူး = အယူမှန်ရှိသူ၊ ဗုဒ္ဓဘာသာတရားကို ယုံကြည်သူဘီလူးတို့သည် လှည့်လည်အစာရှာရင်း ရာဇဂြိုဟ်မြို့အနီး ရောက်ရှိလာကြ၏။

ထိုစဉ် ရာဇဂြိုဟ်မြို့ပြင်တစ်နေရာ လှည်းတစ်စီးအောက်၌ တစ်ယောက်တည်း

အိပ်ပျော်နေသော ကလေးငယ်တစ်ဦးကို ဘီလူးများ တွေ့မြင်သွားကြ၏။ ထိုအခါ မိစ္ဆာဒိဋ္ဌိဘီလူးသည် ထိုကလေးငယ်အား စားမည်ဟူသောသဘောဖြင့် ထိုကလေးငယ်၏ ခြေထောက်ကို ကိုင်ဆွဲလိုက်၏။

ထိုသို့ အဆွဲခံရသောကလေးသည် သူ နှုတ်ကျိုးအောင် ရရှိနေသည့် ဗုဒ္ဓဘုရားရှင်အား ရှိခိုးပါ၏ဟု အဓိပ္ပာယ်ရသည့် 'နမော ဗုဒ္ဓဿ' ဟူသော စကားရပ်ကို ယောင်ယမ်းလျက် ရွတ်ဆိုလိုက်သည်။ ထိုစကားရပ်ကို ကြားလိုက်ရသော ဘီလူးများသည် အလွန်အကျူး အထူးပင် ကြောက်လန့်သွားကြတော့၏။

ထို 'နမော ဗုဒ္ဓဿ' တန်ခိုးကြောင့်ပင် ထိုဘီလူးများသည် ယင်းကလေးအား မစားဝံ့တော့ဘဲ တစ်ညလုံး အမျိုးမျိုးပင် အစောင့်အရှောက်ပေးခဲ့ကြရ၏။ ထို့ကြောင့် ပရိတ်၊ ဂါထာ၊ ဗုဒ္ဓဂုဏ်တော် စသည်တို့သည် နတ်မိစ္ဆာ၊ နတ်ဘီလူးတို့ကို ကာကွယ်ကြောင်း တရားဆေးတော်ကောင်းများ ဖြစ်ကြ၏။

(ဓမ္မပဒ၊ ပကိဏ္ဏကဝဂ်၊ ထင်းလှည်းသမားဝတ္ထု)

## လူနှင့်ဘီလူး ထူးခြားချက်

ဘီလူးများသည် ကံကြောင့်ဖြစ်သော တန်ခိုး = ကမ္မဇိဒ္ဓိတန်ခိုးရှိကြပေသည်။ သူတို့ခန္ဓာကိုယ်ကို ဖန်ဆင်းတတ်၏။ လူ့လောက၊ လူ့နယ်ပယ်ထဲ ဝင်ရောက်ရာတွင်လည်း လူယောင်ဖန်ဆင်း၍ ဝင်ရောက်တတ်၏။

ဘီလူးများ လူယောင်ဖန်ဆင်းတတ်သော်လည်း အားလုံးတူအောင်ကား မဖန်ဆင်းနိုင်ကြပေ။ အောက်ပါအချက်များမှာ လူယောင်ဖန်ဆင်းထားသော ဘီလူး၏သွင်ပြင်လက္ခဏာများပင် ဖြစ်ကြ၏။

(၁)မျက်စိနီခြင်း၊ (၂)မျက်တောင်မခတ်ခြင်း၊ (၃)မျက်စိမမှိတ်ခြင်း၊ (၄)အရိပ်မထွက်ခြင်း (၅)ကြောက်ရွံ့မှုမရှိခြင်း (၆)သနားညှာတာမှု မရှိခြင်း၊

(စရိယာပိဋကတ်၊ ၄-၁၆၈)

## ဝိနိပါတိက အသူရာနတ်များ

ဝိနိပါတိက အသုရပါဠိမှ ဝိနိပါတိက အသူရာဟု ဖြစ်လာသည်။ အသုရတွင် 'သု'ကို 'သူ'၊ 'ရ'ကို 'ရာ'ဟု အသံထွက်ရွတ်ဖတ်ခေါ်ဆိုကြသည်။ ဝိနိပါတိက အသုရာ (အသူရာ)သည် ပါဠိစကားရပ်နှစ်ရပ်ကို တွဲစပ်ထားခြင်း ဖြစ်၏။ ဝိနိပါတိက တစ်ရပ်၊ အသုရ (အသူရာ)တစ်ရပ် ဖြစ်၏။

'ဝိနိပါတိက'ဆိုသည့်မှာ ဆင်းရဲဒုက္ခအမျိုးမျိုး ခံစားရခြင်းဟု အဓိပ္ပာယ်ရ၏။ အ-သုရ = (အသူရာ) ဆိုသည်မှာ နတ်ကဲ့သို့ဖြစ်လျက် နတ်ကဲ့သို့ စည်းစိမ်တန်ခိုးအရာ၌ ထွန်းပခြင်းမရှိ၍ အ-သုရ (အ-သူရာ)ဟု ခေါ်ခြင်းဖြစ်၏။

ထိုဝိနိပါတိကတို့သည် ဘုမ္မိဿိတ = မြေကိုမှီ၍နေသော ဘုမ္မစိုးနတ်ကြီးများကို တစ်ဆင့်မှီခို၍နေရသော နတ်အငယ်စား၊ နတ်အညံ့စားကလေးများပင် ဖြစ်ကြ၏။ ထိုဝိနိပါတိကတို့ကိုပင် ပြိတ္တာတစ်မျိုးအဖြစ်လည်း သတ်မှတ်ခေါ်ဆိုကြ၏။

ထိုဝိနိပါတိက အသူရာ နတ်ပြိတ္တာများသည် နေစရာကိုယ်ပိုင်ဗိမာန် စသည်မရှိကြဘဲ တော၊ တောင် စသည်၌ နေထိုင်လေ့ရှိကြ၏။ မြို့စွန်၊ တောရွာဒေသအနီးတွင် ထမင်းကျန်၊ ဟင်းကျန်များကို ရှာဖွေစားသောက်လေ့ ရှိကြ၏။

ယင်းဝိနိပါတိက အသူရာ နတ်ပြိတ္တာများသည် လူကလေးငယ်များအား ရောဂါရအောင်၊ ဖျားနာအောင် ပြုလုပ်တတ်ကြ၏။ လူကြီးလူငယ်မရွေး မည်သူ့ကိုမဆို ပူးဝင်ကပ်ရောက်လျက် အစားအစာ တောင်းယူစားသောက်တတ်၏။ လူများကို ခြောက်လှန့်တတ်၏။ ထိုသို့ ခြောက်လှန့်တတ်သောကြောင့်ပင် ထိုဝိနိပါတိကအသူရာ နတ်ပြိတ္တာတို့ကို လူတို့က တစ္ဆေဟုခေါ်ကြခြင်း ဖြစ်၏။

တဇ္ဇေတိဟူသောပါဠိမှ တစ္ဆေဟု ရွေ့လျောလာခြင်း ဖြစ်သည်။ တဇ္ဇေတိ = ခြောက်လှန့်တတ်၏ဟု အနက်အဓိပ္ပာယ်ရပေသည်။ ထိုတဇ္ဇေတိ = ခြောက်လှန့်တတ်၏ ဟူသောစကားကို အစွဲပြုကာ တစ္ဆေ၊ တစ္ဆေခြောက်သည်ဟူသောစကားများ ပေါ်ပေါက်လာခြင်း ဖြစ်သည်။

ထိုပြိတ္တာ = တစ္ဆေများလည်း စတုမဟာရာဇ်နတ်တို့အနွယ်ဝင် ဘုမ္မစိုးနတ်များ၏

လက်အောက်ခံများပင် ဖြစ်ကြ၏။ ဤဝေမာနိက နတ်ပြိတ္တာကလေးများမှာ သက်တမ်းအမြဲမရှိနိုင်ပေ။ ရှည်သူများ အလွန်ရှည်၍ တိုသူများ အလွန်တိုပေသည်။

**ယမနတ်မင်းနှင့်ယမမင်း**

ယမနတ်မင်းနှင့်ယမမင်းတို့မှာ အတူတူမဟုတ်ကြပေ။ တစ်ဦးစီဖြစ်ကြ၏။ ယမနတ်မင်းဆိုသူမှာ ကုမ္ဘဏ်ဘီလူးတို့ကို အုပ်ချုပ်သော အကြီးအကဲ၊ နတ်မင်း၊ နတ်ဘီလူး ဖြစ်၏။

ယင်းယမနတ်မင်း၌ လက်နက်ထူးတစ်မျိုး ရှိ၏။ လက်နက်ဆန်းတစ်မျိုးဟုလည်း ဆိုနိုင်၏။ ထိုလက်နက်ထူး လက်နက်ဆန်းမှာ (မျက်စိ) မျက်စောင်းလက်နက် ဖြစ်၏။ ထိုယမနတ်မင်းသည် ဒေါသအမျက်ထွက်၍ (စိတ်ဆိုး၍) ကြည့်လိုက်လျှင် တစ်နည်းအားဖြင့် ဒေါသဖြင့်ကြည့်လိုက်လျှင် အကြည့်ခံရသူ ကုမ္ဘဏ်ဘီလူးများသည် အိုကင်းပူ၌ထည့်ကာ အလှော်ခံရသော နှမ်းတို့ကဲ့သို့ ဖျောက်ဖျောက်ဖျစ်ဖျစ်မြည်လျက် သေဆုံးပျောက်ပျက်သွားရသည် ဆို၏။

ဤယမနတ်မင်းသည် အစွမ်းထက်လက်နက်ဆန်းကြီး (၄)မျိုးကို တစ်မျိုးစီပိုင်ဆိုင်ထားကြသော ပုဂ္ဂိုလ် (၄)ဦးတွင် တစ်ဦးအပါအဝင် ဖြစ်၏။ ယင်းပုဂ္ဂိုလ်(၄)ဦးနှင့် သူတို့ပိုင်ဆိုင်ကြသော လက်နက်ထူးလက်နက်ဆန်းများအကြောင်းကို ရှေ့မှာ ပြခဲ့ပြီးဖြစ်၏။

ယမနတ်မင်းနှင့်ယမမင်းတို့ မတူပုံကိုလည်း သိထားသင့်၏။ ယမနတ်မင်းဆိုသူကို အထက်တွင်ပြခဲ့ပြီး ဖြစ်၏။ ယမမင်းဆိုသူမှာ ငရဲသားများအရေး စီမံရသောသူဖြစ်၏။



## ကပ်ကမ္ဘာအကြောင်း

ကပ်ကမ္ဘာအကြောင်း ဆက်လက်တင်ပြလိုပါသေး၏။ ဗြဟ္မာတို့၏သက်တမ်းမှာ ကပ်ကမ္ဘာနှင့်ချိ၍ အသက်ရှည်ကြသောကြောင့် ဗဟုသုတအနေဖြင့် တင်ပြခြင်းဖြစ်သည်။

ကပ်ဟူသောစကားနှင့် ကမ္ဘာဟူသောစကားမှာ အဓိပ္ပာယ်ချင်း အတူတူပင်ဖြစ်၏။ ဗုဒ္ဓပိဋကတ်စာပေတွင် ကပ်ကမ္ဘာ(၄)မျိုး ပြဆိုထားပါသည်။ ယင်းကပ်ကမ္ဘာ(၄)မျိုးမှာ အောက်ပါအတိုင်း ဖြစ်သည်။

**ကပ်ကမ္ဘာ(၄)မျိုး**

၁။ အာယုကပ် - သတ္တဝါတို့၏သက်တမ်း

၂။ အန္တရကပ် - အသင်္ချေယျတမ်းမှ (၁၀)နှစ်တမ်း၊ (၁၀)နှစ်တမ်းမှ အသင်္ချေယျတမ်းတိုင်အောင် ဆုတ်ကပ်-တက်ကပ် တစ်စုံသည် အန္တရကပ်၊

၃။ အသင်္ချေယျကပ်- အန္တရကပ် (၆၄)ကပ်ကာလကို မဟာကပ်တစ်ကပ် (တစ်ကမ္ဘာ)ဟု ခေါ်သည်။

**အသင်္ချေယျကပ် (၄)ကပ်**

၁။ သံဝဋ္ဋကပ် (သံဝတ်တကပ်)- ကမ္ဘာပျက်နေခိုက်အခါကို ခေါ်သည်။

၂။ သံဝဋ္ဋဋ္ဌာယီကပ်
(သံဝတ်တတ်ဌာယီကပ်)-ကမ္ဘာပျက်ပြီးနောက် တည်နေခိုက်အခါကို ခေါ်သည်။

၃။ ဝိဝဋ္ဋဋ္ဌာယီကပ်
(ဝိဝတ်တတ်ထာယီကပ်) - ကမ္ဘာဖြစ်ပြီးနောက် တည်နေခိုက်အခါကာလကို ခေါ်သည်။

ဤကပ်ကမ္ဘာအကြောင်းများကို ဆရာတော်အရှင်ဇနကာဘိဝံသ၏ သင်္ဂြိုဟ်ဘာသာဋီကာ စသောကျမ်းအသီးသီး၌ ဖတ်ရှုလေ့လာနိုင်ပါ၏။ ဤနေရာတွင် မဟာကပ်တစ်ကပ် (တစ်ကမ္ဘာ)၏ရှည်ကြာပုံအတိုင်းအတာ၊ အတိုင်းအရှည်ကို ခန့်မှန်းနိုင်ရန် အောက်ဖော်ပြပါကောက်နုတ်ချက်ကို လေ့လာနိုင်ပါ၏။

**မဟာကပ်တစ်ကပ် (တစ်ကမ္ဘာ)၏အတိုင်းအရှည်**

အလျားအနံ တစ်ယူဇနာကျယ်သော အဆောက်အအုံထဲတွင် မုန်ညင်းဖြူစေ့ကလေးများ ထည့်သွင်းကာ အနှစ်(၁၀၀)၊ (၁၀၀)ကြာမှ တစ်စေ့သာထုတ်ယူရာ မုန်ညင်းစေ့များကုန်သွားသည့်တိုင် မဟာကပ်ကား မကုန်နိုင်သေးသည်အထိ ရှည်ကြာပေသည်။

(ဒေါ်ဝိဇ္ဇေသီ၏သရုပ်ပြသင်္ဂြိုဟ်၊ ဝီထိမုတ်ပိုင်း။)

## သမထ ဝိပဿနာနှင့်စပ်သိမှတ်ကျင့်ကြံစရာ

သမထဆိုသောစကားမှာ ပါဠိစကားဖြစ်၍ သမာဓိရအောင် စီးဖြန်းရသော ကမ္မဋ္ဌာန်းတရားဟု အဓိပ္ပာယ်ရ၏။ သမာဓိဆိုသည်မှာလည်း ပါဠိပင်ဖြစ်၏။ ယင်းသမာဓိ ပါဠိ၏အဓိပ္ပာယ်မှာ တည်ကြည်ခြင်း ဖြစ်၏။

ထို့ကြောင့် သမထဆိုသည်မှာ စိတ်ကို တည်ကြည်အောင်၊ သမာဓိရအောင် အားထုတ်ရသော ရှုမှတ်မှုတစ်မျိုးပင် ဖြစ်၏။

သမထရှု၍ သမာဓိတည်စေရ၏။ သမထအကျင့်ကျင့်၍ သမာဓိအားကောင်းသဖြင့် ကောင်းကျိုးအထူးခံစားသွားရပုံ ဘုရားဟောသာဓကတစ်ရပ်ကို တင်ပြလိုသည်။

## သမထအကျင့်ဖြင့် သမာဓိအားကောင်းခဲ့သူ

မြတ်စွာဘုရား သက်တော်ထင်ရှားရှိစဉ်အခါက သမဏအမည်ရှိသော ရဟန်းတော်တစ်ပါး ရှိ၏။ ထိုရဟန်းတော်သည် တရားအားထုတ်လျက်ရှိရာ သမာဓိတရားများစွာဖြစ်ပွားလျက် ရှိ၏။ ထိုသို့ သမာဓိတရား (တရားအာရုံတစ်ခုတည်း စူးစိုက်တည်နေမှုတရား) အားကောင်းနေစဉ် ထိုရဟန်း ပျံလွန်တော်မူသွား၏။

ပျံလွန်တော်မူသွားသောအခါ တစ်မဂ်တစ်ဖိုလ်ကိုကား မရရှိပေ။ သို့သော် ဖော်ပြပါသမာဓိတရားသည် ထိုရဟန်းအတွက် အကျိုးမယုတ်ခဲ့ပေ။

ထိုရဟန်းတော် ပျံလွန်ပြီးသည်နှင့်တစ်ပြိုင်နက် တာဝတိံသာနတ်ပြည် ရောက်သွားသည်။ သမဏနတ်သားဟူ၍ အမည်တွင်သည်။ ထိုရဟန်းတစ်ဖြစ်လဲ သမဏနတ်သား နတ်ပြည်ရောက်လာသောအခါ သူ့ဘေးပတ်ပတ်လည်တွင် နတ်သမီးများ ဝိုင်းရံလာကြ၏။ ရတနာများ စီခြယ်ထားသည့် ဗိမာန်ကြီးကလည်း အဆင်သင့်ပင် ဖြစ်နေခဲ့၏။

လူ့ပြည်ကရောက်လာခဲ့သော ရဟန်းတော်မှာ နတ်သားဖြစ်လာသည့်တိုင် လူ့ပြည်ရဟန်းဘဝကအတိုင်း မျက်လွှာကြီးအောက်ချ၊ ဣန္ဒြေကြီးစွာထားလျက် တည်တည်ငြိမ်ငြိမ်ကြီး၊ ငြိမ်သက်သက်ကြီး ဖြစ်နေ၏။ သူ့အခြေအနေကိုကြည့်၍ နတ်သမီးများက အလိုမကျ ဖြစ်နေကြတော့၏။

ထိုအချိန်တွင် နတ်သမီးတစ်ယောက်က လိမ္မာပါးနပ်မှုအသိဉာဏ်ကို အသုံးချကာ မှန်ကြီးတစ်ချပ်ကိုယူလျက် ထိုသမဏနတ်သားရှေ့တွင် ထောင်ပြလိုက်၏။ ထိုအခါ သမဏနတ်သားသည် မှန်တွင်ပေါ်လာသော သူ၏ပုံရိပ်ကို ကြည့်မြင်လျက် ရဟန်းအသွင်မဟုတ်တော့ဘဲ နတ်အသွင်ဖြစ်နေသည်ကို တွေ့လိုက်ရတော့၏။

ရဟန်းဘဝက သူ အားထုတ်နေသော သမာဓိတည်ကြည်မှုတရားကြောင့် သူ့ကိုယ်သူ နတ်သားဘဝရောက်လာသည်ကိုပင် ရုတ်တရက် မသိနိုင်ခဲ့ပေ။ သမာဓိ၏ စွမ်းအားတစ်မျိုးဟုပင် ဆိုရမည်ဖြစ်၏။

ထိုနတ်သားသည် နတ်သမီးများရော၊ သူရော၊ သူ့ဗိမာန်ကြီးပါ တန်ခိုးဖြင့် မြတ်စွာဘုရားထံမှောက် အရောက်ပြလျက် မြတ်စွာဘုရားအား အကြောင်းစုံလျှောက်

ထား၏။

မြတ်စွာဘုရားကလည်း ထိုအချိန်တွင် ပရိသတ်များအား တရားဟောနေဆဲအချိန် ဖြစ်၏။ ထိုအချိန်မှာပင် မြတ်စွာဘုရားသည် ထိုသမဏနတ်သား၏အဖြစ်ကို ပရိသတ်အား ဟောကြားသိစေတော်မူ၏။ ယင်းသို့ မြတ်စွာဘုရား တရားဟောကြားစဉ်မှာပင် သမဏနတ်သား သောတာပန်တည်သွား၊ ဖြစ်သွားတော့၏။

ဤဖြစ်စဉ်မှာ သမထခေါ် စိတ်တည်ကြည်မှု သမာဓိ၏အကျိုးပြုမှုပင် ဖြစ်တော့၏။ ထို့ကြောင့် သမထသည် လောကီချမ်းသာ တရားများရစေ၊ ဖြစ်စေနိုင်ရုံသာမက လောကလွတ်မြောက်ရေး၊ နိဗ္ဗာန်အငြိမ်းဓာတ်ရရေးအတွက်ပါ အကျိုးရှိစေသောတရား ဖြစ်ပါသည်။

ဗြဟ္မာ့ဘုံများ၊ ချမ်းဘုံများ ရောက်နိုင်ရန်လည်း ဤသမထကိုပင် အခြေခံထားကာ ကျင့်ပွားကြရ၏။ သုဒ္ဓါဝါသဘုံကဲ့သို့သော အနာဂါမ်၊ ရဟန္တာများသာရှိသော ဘုံမျိုးများကိုကား ဝိပဿနာအကျင့်ထူးကို ကျင့်မှရနိုင်၊ ရောက်နိုင်မည်ဖြစ်၏။ သမထသက်သက်ဖြင့် မရောက်နိုင်။

ယခု အထက်ဖော်ပြပါ ရဟန်းတော်၏ဖြစ်စဉ်ကို ကြည့်၍ သမထကို အခြေခံကာ လောကထွက်မြောက်ရေးအထိ အကျိုးသက်ရောက်မှုရှိနိုင်ကြောင်း ဆင်ခြင်နိုင်ပါ၏။

သမထကမ္မဋ္ဌာန်းသည် လောကီချမ်းသာ တရားများ ရရေးသက်သက်ကျင့်လျှင်လည်း ရနိုင်သလို ထိုသမထအကျင့်မှ တစ်ဆင့်ကူးကာ ဝိပဿနာအဆင့်သို့လည်း ကူးပြောင်းနိုင်၏။ အဘိဓဇအဂ္ဂမဟာသဒ္ဓမ္မဇောတိက တောင်တန်းသာသနာပြုဆရာတော်ကြီး ဦးဥတ္တမသာရက သမထကို နှစ်ဖက်ရကမ္မဋ္ဌာန်းဖြစ်ကြောင်း မိန့်ဆိုရေးသားတော်မူခဲ့၏။

သမထအဖြစ် ကျင့်လိုကကျင့်နိုင်ပြီး ထိုမှတစ်ဆင့်တက်ကာ ဝိပဿနာအဖြစ်သို့လည်း ပြောင်းလဲကျင့်သုံးနိုင်ကြောင်း မိန့်ဆိုရေးသားခဲ့၏။

စိတ်ဓာတ်တည်ကြည်မှုကိုသာ ဦးစားပေးအားထုတ်နေလျှင် သမထအဆင့်သာ ရှိနေမည်ဖြစ်ပြီး ဖြစ်ပျက်မှုအပိုင်းကိုပါ ရှုမှတ်ပွားများအားထုတ်ခဲ့ပါမူ ဝိပဿနာအဆင့် ရောက်လာမည်ဖြစ်၏။ ထို့ကြောင့် သမထကို နှစ်ဖက်ရကမ္မဋ္ဌာန်းဟု တောင်တန်းဆရာတော်ကြီးက မိန့်ဆိုရေးသားခဲ့ခြင်း ဖြစ်၏။

## ဝိပဿနာ

ဤတွင် ဆက်လက်၍ ဝိပဿနာ၏သဘောအနှစ်ချုပ်ကို တင်ပြလိုပါသေး၏။

ဝိပဿနာကား သမထကဲ့သို့ စိတ်သမာဓိကောင်းရုံ၊ တည်ကြည်ရုံမျှသာမက အဖြစ်အပျက်ကိုပါ ရှုပွားရ၏။ မိမိခန္ဓာကိုယ် ရုပ်နာမ်နှစ်ပါး၏အဖြစ်အပျက်ကို ရှုရ၏။ လောက၌ ရှိရှိသမျှသော ရုပ်-နာမ်တရားအစားစားကို အနိစ္စ = အမြဲမရှိခြင်း၊ ဒုက္ခ- ဆင်းရဲခြင်း၊ အနတ္တ - မပိုင်ဆိုင် အစိုးမရခြင်းဟူသော လက္ခဏာရေးသုံးပါးနှင့်ယှဉ်ကာ ဆင်ခြင်ရှုမှတ်ပွားများရ၏။ ဤသို့ ရှုပွားရခြင်းသည် ဝိပဿနာဖြစ်၏။

ဝိပဿနာဟူသော အဓိပ္ပာယ်ကို အနှစ်ချုပ်ကြည့်လျှင် ရုပ်၊ နာမ်တရားတို့၌ အနိစ္စ၊ ဒုက္ခ၊ အနတ္တဟု ရှုမှတ်ပွားများအားထုတ်ခြင်းပင် ဖြစ်ကြောင်းသိမှတ်ရန် ဖြစ်၏။

**(တောင်တန်းသာသနာပြုဆရာတော်ကြီး ဦးဥတ္တမသာရ၏ သမထနှင့်ဝိပဿနာဆောင်းပါးနှင့် သာသနာရေးဝန်ကြီးဌာန၊ သာသနာတော် ထွန်းကားပြန့်ပွားရေးဦးစီးဌာန၏ ဗုဒ္ဓဘာသာကောင်းတစ်ယောက်စာအုပ်တို့ကို မှီငြမ်းကိုးကားပါသည်။)**

## ဉာဏ်လမ်း

ကုသိုလ်ကို အခြေခံကာ ဉာဏ်လမ်းကြောင်းကို လျှောက်နိုင်၏။ ဉာဏ်လမ်းကြောင်း ပေါ်ရောက်ပြီး တည့်တည့်မတ်မတ် ရှေ့ဆက်လျှောက်သွားနိုင်လျှင် (၃၁)ဘုံက လွတ်မည် ဖြစ်၏။

ဆရာကောင်း၊ သမားကောင်းထံ ချဉ်းကပ်ကာ ဝိပဿနာတရား အားထုတ်ခြင်း သည် ဉာဏ်လမ်းကို လျှောက်လှမ်းခြင်းဖြစ်၏။ ရှေးဦးစွာ စူဠသောတာပန် (အငယ်စား သောတာပန်) ဖြစ်နေရန် လိုအပ်၏။ စူဠသောတာပန်ဖြစ်ရန် ငါးပါးသီလမြဲရမည် ဖြစ်၏။ အကျင့်သီလကောင်းရှိရန် လို၏။

ထို့နောက် မဟာသောတာပန်အဆင့်ကို တက်ရမည်ဖြစ်၏။ မဟာသောတာပန် ဖြစ်ရန်အတွက် ရတနာသုံးပါး၌ မတုန်မလှုပ် ကြည်ညိုရမည်ဖြစ်၏။ အသက်အသေခံပြီး

သီလမြဲရမည် ဖြစ်၏။ မဂ္ဂင်ရှစ်ပါး အကျင့်တရား စသည်များ ကျင့်သုံးအားထုတ်ရမည် ဖြစ်၏။ ဝိပဿနာအကျင့်ကောင်းများ ကျင့်ကြံအားထုတ်ရမည် ဖြစ်၏။

မဟာသောတာပန်အဖြစ်မှ ရှေ့ဆက်ကာ သကဒါဂါမိအဆင့်ရောက်ရန် ဉာဏ်၊ ဝီရိယဦးစီးလျက် သတိပဋ္ဌာန်းတရား၊ ဝိသုဒ္ဓိ(၇)ပါးအကျင့်တရား စသည်များ ဆက်လက်ကျင့်သုံးအားထုတ်လျှင် သကဒါဂါမိအဖြစ် ရောက်ရမည်ဖြစ်၏။

ထို့နောက် ဉာဏ်၊ ဝီရိယ ဦးစီးကာ ဗောဇ္ဈင် (၇)ပါး အကျင့်တရားစသည်များ ကျင့်သုံးလျက် အနာဂါမ်အဖြစ် ရောက်ရှိနိုင်ပါသည်။ နောက်ဆုံးတွင်မူ ဝိပဿနာ အကျင့်တရားအဆင့်ဆင့် ပွားများအားထုတ်၍ ကိလေသာကုန်ခန်းသဖြင့် ရဟန္တာဖြစ်ကာ နိဗ္ဗာန်ဝင်စံရမည် ဖြစ်ပါ၏။

ဤမြန်မာနိုင်ငံ၌ ကျင့်စဉ်အတွက် နည်းမှန်ဖို့ ရှေ့ဆောင်လမ်းပြ ပရိယတ္တိသာသနာ ထွန်းကားလျက်ရှိနေသည့်အပြင် ထိုပရိယတ္တိသာသနာလာ ကျင့်စဉ်ကျင့်နည်းများအတိုင်း လမ်းညွှန်ပြသပေးနိုင်သည့် ကမ္မဋ္ဌာန်းဆရာများကလည်း အများအပြားပင်ရှိနေရာ ဗုဒ္ဓဘာသာဝင်တို့အတွက် အခွင့်အခါကောင်းကြီးပင် ဖြစ်ပါတော့၏။

ဉာဏ်လမ်းကြောင်းကိုလိုက်ကာ ဝိပဿနာအကျင့်တရားဖြင့် (၃၁)ဘုံမှလွတ်ပြီး နိဗ္ဗာန်အငြိမ်းဓာတ်ကြီးကို ခံစားနိုင်ကြမည် ဖြစ်ပါ၏။ ခံစားနိုင်ကြပါစေဟု ဆန္ဒပြု ဆုတောင်းအပ်ပါ၏။



## ကံလမ်း ဈာန်လမ်း ဉာဏ်လမ်း
## ဘယ်လမ်းကို လိုက်ကြမလဲ

လူ့ဘုံသည် ကံ၊ ဉာဏ်၊ ဝီရိယကို အခြေခံသောဘုံ ဖြစ်၏။ လူ့ပြည်၏အထက်တွင် အနီးကပ်ဆုံးအဖြစ် နတ်ပြည် (၆)ထပ်ကိုမြင်နိုင်ပြီး အောက်တွင် အပါယ်လေးဘုံကို မြင်ရမည်ဖြစ်၏။ အပါယ်(၄)ဘုံအနက် တိရစ္ဆာန်တို့၏ဘဝကိုကား ဤလူ့ပြည်လူ့လောက၌ပင် များမြင်ထင်ရှားတွေ့နေကြရ၏။ ယင်းတိရစ္ဆာန်ဆိုသည်များမှာ လူတို့နှင့် အနီးကပ်ဆုံး အပါယ်လောကသားများ ဖြစ်ကြ၏။

လူတို့အနေနှင့် အထက်ကို တက်မလား၊ အောက်ကိုဆင်းမလား။ သွားလိုရာသွားနိုင်၏။ မိမိတို့သွားရောက်ဖို့ လမ်းကြောင်းနှစ်သွယ် ရှိနေသည်။ ကုသိုလ် (ကောင်းမှု) လမ်းကြောင်းနှင့် အကုသိုလ် (မကောင်းမှု) လမ်းကြောင်းတို့ပင် ဖြစ်ကြ၏။ လူ့ဘဝ

အတွက် ကုသိုလ်နှင့်အကုသိုလ်သည် အထက်-အောက်သွားရာ လမ်းခွဲပင်ဖြစ်၏။ ကုသိုလ်သည် အထက်လမ်းသွားရန်ဖြစ်၍ အကုသိုလ်သည် အောက်လမ်းသွားရန်အတွက် ဖြစ်၏။ (လူ့အကြောင်း ရှေ့မှာပြခဲ့ပြီ။)

ကုသိုလ်ကံလမ်းကြောင်းကို လိုက်ကြမည်ဆိုလျှင်တော့ ဆိုင်ရာသုဂတိဘုံ (ကောင်းသောဘုံ) တွေ ရောက်ကြမည်ဖြစ်၏။ ကုသိုလ်လမ်းကြောင်းတွင်လည်း ကံလမ်း၊ ဈာန်လမ်း၊ ဉာဏ်လမ်းများ ရှိနေ၏။ ဘယ်လမ်း ဘယ်လိုလိုက်လျှင် ဘယ်ကိုရောက်မည် ဆိုသည်ကို သဘောပေါက်ရန်ပင် ဖြစ်၏။

မှတ်ချက်။ ။ ပညာအလင်းပြ (၃၁)ဘုံဇယားကားချပ်တွင် ကံလမ်း၊ ဈာန်လမ်း၊ ဉာဏ်လမ်း လမ်းကြောင်းများ၊ ကုသိုလ်-အကုသိုလ်လမ်းကြောင်းများ စသည်တို့ကို ဇယားကွက်များ၊ မြား (မျှား) အညွှန်းများနှင့် ပြဆိုထားပါသည်။ ဖက်ရှုလေ့လာနိုင်ပါ၏။

နေ့စဉ်ပြုနေကျ ကုသိုလ်ဒါနမှု၊ သီလဆောက်တည်မှု စသည်တို့ကြောင့် နတ်ပြည် (၆)ထပ်သို့ ရောက်စေနိုင်၏။ ကံလမ်းဆိုသော သဘောတရားပင် ဖြစ်၏။ ကုသိုလ်-အကုသိုလ် ရောနှောသော မိဿကကံကြောင့် နေ့စံ-ညခံရသည့် ဝေမာနိကပြိတ္တာမျိုး ဖြစ်တတ်၏။ စင်ကြယ်သန့်ရှင်းသော ကုသိုလ်ဖြစ်ရန်လို၏။ ကံလမ်းအရာ၌ သတိထားသင့်၏။ (နေ့စံ-ညခံရသည့် ပြိတ္တာမဝတ္ထုနောက်တွင် ဖော်ပြခဲ့ပြီး ဖြစ်ပါသည်။)

## ဈာန်လမ်း

ကုသိုလ်ကို အခြေခံ၍သွားရောက်ရန် ဈာန်လမ်းကြောင်းလည်း ရှိနေ၏။ ဈာန်လမ်းအတိုင်းသွားမည်ဆိုလျှင် ဗြဟ္မာ့ဘုံ (၂၀)သို့ ရောက်နိုင်၏။ ဗြဟ္မာ့ဘုံ (၂၀) ရောက်ရန်အတွက် စိတ်ပိုင်းဆိုင်ရာ အကျင့်ကောင်းများကျင့်ရမည် ဖြစ်၏။ မေတ္တာပွားများခြင်း စသောဘာဝနာအလုပ်တို့ကို အားထုတ်ရမည်ဖြစ်၏။ ဗြဟ္မာ့ဘုံများအားလုံးမှာ ဈာန်ဘုံများသာဖြစ်၍ ဈာန်ရမှ ရောက်နိုင်ကြမည် ဖြစ်၏။

စိတ်တည်ကြည်အောင် အားထုတ်မှုသမထ၊ ဝိပဿနာ၏ အခြေခံပထဝီကသိုဏ်း

စသည့်အာရုံကို ရှုပွားမှုစျာန်အကျင့်ကြောင့် ဗြဟ္မာ့ဘုံ ရောက်စေနိုင်၏။ ဤသည်မှာ ဖြစ်နိုင်ပုံသဘောကို ခြုံငုံတင်ပြချက် ဖြစ်၏။

ဤနေရာတွင် ဗဟုသုတအဖြစ် သိမှတ်ရန် ရှိသေး၏။ ဗြဟ္မာ့ဘုံများမှာ စျာန်ဘုံများဖြစ်သည့်တိုင် အချို့ဗြဟ္မာ့ဘုံများသည် သိပ်အကောင်းကြီးမဟုတ်ကြောင်း သိမှတ်နိုင်၏။ အသညသတ် ဗြဟ္မာ့ဘုံမျိုးကို သတိထားဆင်ခြင်ကြည့်သင့်၏။

အသညသတ် ဗြဟ္မာမျိုးကားကောင်းသည်ဟု မဆိုနိုင်။ အသညသတ်ဘုံသည် ရုပ်တုံးရုပ်ခဲကြီးသာရှိပြီး အသိနာမ်တရား မရှိ။ ရုပ်ပြစ်ရှစ်ပါး၌ အသညသတ်ဘုံ ပါဝင်၏။ အသိအမှတ်သညာ၌ စက်ဆုပ်မုန်းတီးမှုကို ဦးစားပေးအားထုတ်ခြင်း လွန်ကဲလျှင် ယင်းအသညသတ်ဘုံ ရောက်ရတတ်၏။ စျာန်လမ်းအရာ၌ သတိထားစရာဖြစ်၏။ တရားအားထုတ်ရာ၌ ဆရာသမားကောင်းကို ဆည်းကပ်ရန် လိုမည်ဖြစ်၏။



# စျာန်ရဖို့ လမ်းညွှန်မှုအကျဉ်း

စျာန်ရဖို့အတွက် ဆိုင်ရာကမ္မဋ္ဌာန်းတရားများ ကျင့်ကြံအားထုတ်ရန် ဖြစ်၏။ ပထမစျာန်၊ ဒုတိယစျာန်၊ တတိယစျာန်၊ စတုတ္ထစျာန်၊ ပဥ္စမစျာန်ဟူသော အဆင့်ဆင့်သော စျာန်တရားများနှင့်အတူ ဗြဟ္မာ့ဘုံတွင် စံမြန်းရန် အခြေခံကျင့်စဉ်သဘောတရားများ နားလည်ဖို့ အောက်ပါအနှစ်ချုပ်အကြောင်းအရာများကို စဉ်းစားဆင်ခြင်လျက် ဆရာကောင်း၊ သမားကောင်းထံ ချဉ်းကပ်ကာ အားထုတ်ရန် တိုက်တွန်းလိုက်ပါ၏။

## ကမ္မဋ္ဌာန်းနှင့်စျာန်ကို တွဲပြခြင်း

'အပ္ပနာဘာဝနာတိုင်အောင် ရှုက်ဆောင်နိုင်သော ကမ္မဋ္ဌာန်း (၂၀)တို့တွင် ကသိုဏ်း(၁၀)ပါးနှင့် အာနာပါနကမ္မဋ္ဌာန်း တစ်ပါးပါးကို အားထုတ်လျှင် ပဥ္စမစျာန်တိုင်အောင် ရူပစျာန်ကို အဆင့်ဆင့်ရနိုင်၏။ အသုဘ (၁၀)ပါးနှင့် ကာယဂတာသတိ

ကမ္မဋ္ဌာန်းတို့သည် ပထမဈာန်ကိုသာ ရစေနိုင်၍ မေတ္တာ၊ ကရုဏာ၊ မုဒိတာတို့က ပထမ၊ ဒုတိယ၊ တတိယ၊ စတုတ္ထဈာန်တိုင်အောင် ရစေနိုင်၏။ ဉပေက္ခာဗြဟ္မဝိဟာရကမူ ပဉ္စမဈာန်ကိုသာ ရစေနိုင်သည်။'

(ဆရာတော်အရှင်ဇနကာဘိဝံသ၏ သင်္ဂြိုဟ်ဘာသာဋီကာ၊ စာမျက်နှာ ၆၅၇ မှ ကောက်နုတ်ချက်)

**မေတ္တာ**

"ဤမေတ္တာ စသောသုံးပါးသည် ဒေါမနဿကြောင့်ဖြစ်သော ဗျာပါဒ၊ ဝိဟိံသ၊ အနဘိရတိတို့မှ လွတ်မြောက်ကြောင်းတရားများ ဖြစ်၏။ ထင်ရှားစေအံ့-မေတ္တာသည် သတ္တဝါတို့ကို ချစ်မြတ်နိုးလျက် အကျိုးလိုလားသောတရားတည်း။ ဗျာပါဒကား သတ္တဝါတို့၌ မုန်းတီးရွံရှာ ပျက်စီးရာပျက်စီးကြောင်း မကောင်းကြံသောတရားတည်း။ တရားကိုယ်မှာ ဒေါသပင် ဖြစ်၏။ ဒေါသမှန်လျှင် ဒေါမနဿနှင့် မကွေမကွာ ယှက်ဖက်ဖြစ်၍ ဒေါမနဿကြောင့်ဖြစ်သည်ဟု ဆိုရသည်။ သို့ဖြစ်၍ ဒေါမနဿကြောင့်ဖြစ်သော ဒေါသ၊ ဗျာပါဒမှ လွတ်မြောက်သောမေတ္တာသည် ဧကန် သောမနဿနှင့်သာ ယှဉ်ထိုက်ပေသည်။ ထို့ကြောင့် မေတ္တာကမ္မဋ္ဌာန်းဖြင့် သောမနဿ (သုခ) ယှဉ်ရာ အောက်ရူပဈာန် (၄)ပါးကိုသာ ရခွင့်ရှိပေသည်။"

**ကရုဏာ၊ မုဒိတာ**

"ကရုဏာသည် ဒုက္ခိတသတ္တဝါကို လွန်စွာ သနားတတ်၏။ ဝိဟိံသကား မသနားသည့်အပြင် ညှဉ်းဆဲပင် ညှဉ်းဆဲချင်သေး၏။ တရားကိုယ်မှာ ဒေါမနဿကြောင့်ဖြစ်သော ဒေါသပင်တည်း။ ထို့ကြောင့် ထိုဝိဟိံသ၏ဆန့်ကျင်ဘက်ဖြစ်၍ ဝိဟိံသမှ လွတ်ထွက်ရသော ကရုဏာလည်း သောမနဿနှင့်ယှဉ်ရာ အောက်ရူပဈာန်ကိုသာ ရစေနိုင်သည်။ မုဒိတာသည် သတ္တဝါတို့ သမ္ပတ္တိဖြစ်နေသည်ကို ဝမ်းမြောက်၏။ အနဘိရတိ



မထေရ်မြတ်လက်ထဲမှ သားမြစ်အားမြေပုတ်ဘီလူး လုယူထွက်ပြေးပုံ

ကား သူတစ်ပါး၏စည်းစိမ်ချမ်းသာတို့ကို မကြည့်ရှုနိုင်၊ မမွေ့လျော်နိုင်သော ဒေါသပင် တည်း။ ထို့ကြောင့် အနဘိရတိ၏ဆန့်ကျင်ဘက်ဖြစ်သော မုဒိတာသည် ဒေါမနဿ၏ ဆန့်ကျင်ဘက်ဖြစ်သော သောမနဿနှင့်သာ ယှဉ်သင့်ရကား အောက်ရူပဈာန်လေးပါးကို သာ ဖြစ်စေနိုင်သည်။''

**(ဆရာတော်အရှင်ဇနကာဘိဝံသ၏ သင်္ဂြိုဟ်ဘာသာဋီကာ၊**

**စာမျက်နှာ ၆၅၈ မှ ကောက်နုတ်ချက်)**

## ဥပေက္ခာ

''သတ္တဝါတို့အပေါ်၌ လျစ်လျူရှုနိုင်သော ဥပေက္ခာဗြဟ္မဝိဟာရသည် အပ္ပနာသို့ ရောက်သောအခါ ဥပေက္ခာဝေဒနာနှင့်သာ ယှဉ်သင့်၏။ ထို့ကြောင့် ထိုဥပေက္ခာဗြဟ္မ ဝိဟာရဖြင့် ပဉ္စမဈာန်ကိုသာ ရနိုင်သည်။ မေတ္တာ၊ ကရုဏာ၊ မုဒိတာတစ်ပါးပါးဖြင့် အောက်ဈာန်လေးပါးကို ရပြီးသော ယောဂီသာလျှင် ဤဥပေက္ခာဗြဟ္မဝိဟာရကို အားထုတ်သင့်၏။ ဘာကြောင့်နည်း။ သတ္တဝါ ပညတ်ချင်း အာရုံတူသောကြောင့်တည်း။ ကသိုဏ်းစသော ကမ္မဋ္ဌာန်းဖြင့် အောက်ဈာန်လေးပါးကို ရခဲ့သူမှာ အာရုံချင်းမတူသည့် အတွက် ဤဥပေက္ခာကို အားထုတ်သော်လည်း ပဉ္စမဈာန်ကို မရနိုင်။''

**(ဆရာတော် အရှင်ဇနကာဘိဝံသ၏ သင်္ဂြိုဟ်ဘာသာဋီကာ၊**

**စာမျက်နှာ ၆၅၈၊ ၆၅၉ မှ ကောက်နုတ်ချက်။)**

ဤကောက်နုတ်ချက်တွင် ဈာန်အဆင့်ဆင့်ရနိုင်ဖို့ ကျင့်ကြံရမည့် ကမ္မဋ္ဌာန်းတရား ညွှန်းဆိုချက်အကျဉ်းကို တွေ့နိုင်ပါ၏။ ဤနေရာ၌ ရိပ်စားမိရုံမျှသာ ဖော်ပြခြင်း ဖြစ်၏။ သေသေချာချာ ရှင်းလင်းပြသနိုင်သော ကမ္မဋ္ဌာန်းဌာန၊ ကမ္မဋ္ဌာန်းဆရာများထံ ချဉ်းကပ် ကာ ကြိုးကြိုးစားစား ထိထိရောက်ရောက် အားထုတ်ရန် တိုက်တွန်းလိုပါ၏။

## (၃၁)ဘုံမှ အလွတ်ဖြစ်သော နိဗ္ဗာန်

ဆင်းရဲဒုက္ခ ချုပ်ငြိမ်းရာသည် နိဗ္ဗာန်မည်၏။ နိဗ္ဗာန်သည် (၃၁)ဘုံမှ လွတ်၏။ နိဗ္ဗာန်သည် ဘုံမဟုတ်။ အငြိမ်းဓာတ်တရားတစ်မျိုး ဖြစ်၏။

**နိဗ္ဗာန်ရရှိမှု (၂)မျိုး**

၁။ သဉပါဒိသေသနိဗ္ဗာန် - ခန္ဓာအကြွင်းရှိသော နိဗ္ဗာန်ရရှိမှု၊ သက်ရှိထင်ရှား ရှိစဉ်မှာပင် နိဗ္ဗာန်ရရှိခံစားရမှု။

၂။ အနုပါဒိသေသနိဗ္ဗာန် - ခန္ဓာအကြွင်းမရှိ နိဗ္ဗာန်ရရှိမှု။

နိဗ္ဗာန်တရားဆိုသည်ကား အလွန်တရာ နက်နဲသိမ်မွေ့သောတရား ဖြစ်၏။ ပုထုဇဉ်ဘ၀ဖြင့် နိဗ္ဗာန်၏အရသာကို ဂဃနဏ သိနိုင်ရန်မလွယ်။ သို့ရာတွင် သဘောတရား ရိပ်စားမိနိုင်ရန် ဗုဒ္ဓပိဋကတ်စာပေတို့ကို ကိုးကားရေးသားထားသည့်ကျမ်းအချို့မှ နိဗ္ဗာန်ဆိုင်ရာအကြောင်းများကို ကောက်နုတ်ဖော်ပြလိုက်ပါသည်။

**နိဗ္ဗာန်ကိုပြခြင်း**

"မဂ်ဉာဏ်ဖြင့် မျက်မှောက်ပြုအပ်သော = မဂ်ဖိုလ်တို့၏အာရုံဖြစ်သော = ပဋိသန္ဓေဘဝနှင့် အနာဂတ်ဘဝကို စပ်ပေးတတ်သော ဝါနခေါ်သော တဏှာမှ လွတ်မြောက်ပြီးသော (တဏှာ၏အာရုံပြုမခံရသော) = လောကုတ္တရာဖြစ်သော ဓာတ်တစ်မျိုးကို နိဗ္ဗာန်ဟု ခေါ်သည်။"

**မှတ်ချက်။** ။ နိဗ္ဗာန်ကို အရိယာပုဂ္ဂိုလ်များသည် တိုက်ရိုက်မျက်မှောက်ပြုနိုင်၍ ကလျာဏပုထုဇဉ်တို့သည် မှန်းဆ၍သာ အာရုံပြုနိုင်ကြသည်။

**(ဒေါ်ဝိဇ္ဇေသီ၏သရုပ်ပြသင်္ဂြိုဟ်၊ ရှပ်ပိုင်း၊**
**စာမျက်နှာ-၂၈၉ မှ ကောက်နုတ်ချက်)**

**နိဗ္ဗာန်**

ဒုက္ခခပ်သိမ်းချုပ်ငြိမ်းရာ (ပါ-နိဗ္ဗာန) (မြန်မာ့အဘိဓာန်)

* * *

**နိဗ္ဗာန်**

နိဗ္ဗာန = ငြိမ်းခြင်း၊ တပ်မက်ခြင်း တဏှာမှ ကင်းငြိမ်းခြင်း။

တပ်မက်ခြင်း တဏှာမှ ထွက်မြောက်ရာ (ဝါနတော နိက္ခန္တန္တိ နိဗ္ဗာနံ = တဏှာမှ ထွက်မြောက်ခြင်းသည် နိဗ္ဗာန်တည်း။ (ဦးဟုတ်စိန်၊ ပါဠိမြန်မာအဘိဓာန်)

* * *

**နိဗ္ဗာန်**

မကောင်းသော လားရာ-ဒုဂ္ဂတိ၊ ကောင်းသောလားရာ နတ်ပြည်စသော သုဂတိ အစွမ်းအားဖြင့်လည်းကောင်း၊ အယုတ်-အမြတ်၏အစွမ်းအားဖြင့်လည်းကောင်း ငယ်သော ဘဝ၊ ကြီးသောဘဝအဖြစ်ကို တပြောင်းပြန်ပြန် အောက်-အထက်ပြန်သည်၏အစွမ်းအား

ဖြင့် ချုပ်တတ်၊ စပ်တတ်သည်၏အဖြစ်ကြောင့် ဝါနဟုဆိုအပ်သော တဏှာမှ အကြွင်းအသန်တခုတ်တရားသည် လွန်မြောက်၏။ ထို့ကြောင့် ထိုအသန်တပဟူသော (မပြုပြင်အပ်သော) ခတ်တရားသည် နိဗ္ဗာန်မည်၏။ (အဘိဓမ္မတ္ထသင်္ဂဟဋီကာ။)

## နိဗ္ဗာန်

နိဗ္ဗာန် = ဝဋ်ဆင်းရဲမှ ထွက်မြောက်ရာ။ ဒုက္ခခပ်သိမ်း ချုပ်ငြိမ်းရာ။

(ပါ၊ နိဗ္ဗာန၊ နိ-ဝါန၊ နိ-ထွက်မြောက်ခြင်း၊ ဝါန-တဏှာ။)

(ဒဂုန်ဦးထွန်းမြင့်၏ပါဠိသက်ဝေါဟာရအဘိဓာန်။)

* * *

## နိဗ္ဗာန်မှာ ဘာမှမရှိဟု မပြောကောင်းပုံ

ပရိနိဗ္ဗုတ ပုဂ္ဂလော ဥစ္ဆိန္နောတိ န ဟောဝံ ဝတ္တဗ္ဗေ။

(ကထာဝတ္ထုပါဠိ)

ပရိနိဗ္ဗုတ ပုဂ္ဂလော - ပရိနိဗ္ဗာန် စံဝင်ပြီးသော ဘုရား၊ ရဟန္တာပုဂ္ဂိုလ်သည်။

ဥစ္ဆိန္နောတိ - ဘာသဘောမျှ မရှိ၊ မကျန်တော့ဟူ၍။

ဧဝံ - ဤသို့။

န ဟိ ဝတ္တဗ္ဗေ - မပြောအပ်-မဆိုအပ်။

ဝတ္တဗ္ဗေ - ပြောအပ်-ဆိုအပ်သည်။

န ဟိ - မသင့်ပါ။

ပရိနိဗ္ဗာန် စံဝင်ကြကုန်သော ဘုရား၊ ရဟန္တာတွေအတွက် ဘာတစ်ခုမျှမကျန်တော့၊ မရှိတော့ဟု မပြောကောင်း၊ မဆိုကောင်းပါဘူးတဲ့။

ပြောမယ်ဆိုရင် ဒီလိုယူဆမယ်ဆိုရင် ဥစ္ဆေဒဒိဋ္ဌိ ဖြစ်သွားမယ်နော်။ ဒါကြောင့် ဒီလိုမယူကြပါရန် ဒီပါဠိက တားမြစ်လိုက်တာ ဖြစ်တယ်။

(မှန်ပ့ါဘုရား)

အထက်ပါ ဟောပြောခဲ့တဲ့ ပါဠိသာဓကတွေ ထောက်ဆပြီး နိဗ္ဗာန်မှာ ဘာသဘော မှ မရှိပါဘူးဆိုရင် ဉစ္ဆေဒဒိဋ္ဌိ ဖြစ်မယ်။ ဘာဒိဋ္ဌိဖြစ်မှာလဲ ဒကာ…ဒကာမတို့။

(ဉစ္ဆေဒဒိဋ္ဌိ ဖြစ်ပါတယ်ဘုရား)

အေး…မှန်ပါတယ်။ နောက်တစ်ခုက နိဗ္ဗာန်မှာ ပုဂ္ဂိုလ်သတ္တဝါ ခန္ဓာတစ်ပါးပါး ရှိသေးတယ်လို့ ယူဆလိုက်ပြန်ရင်လည်း သဿတဒိဋ္ဌိ ဖြစ်မယ်။ ဘာဒိဋ္ဌိဖြစ်မှာလဲ ဒကာ၊ ဒကာမတို့-

(သဿတဒိဋ္ဌိ ဖြစ်မှာပါဘုရား)

အေး…ဒါလည်း မှန်ပါတယ်။ သဿတဒိဋ္ဌိ၊ ဉစ္ဆေဒဒိဋ္ဌိ ဒီနှစ်ခုတို့ရဲ့အစွန်းကို မငြိကပ်ရအောင် ယူဆရမယ်ဆိုရင်-

ကာယဿ ဘေဒါ ဓမ္မဋ္ဌော၊

သင်္ချံ နောပေတိ ဝေဒဂူ။ (ဝိသုဒ္ဓိမဂ် ဋီကာ)

ဝေဒဂူ - ရဟန္တာပုဂ္ဂိုလ်သည်။

ကာယဿ - ခန္ဓာကိုယ်ကြီး၏။

ဘေဒါ - ပျက်စီးသည်ရှိသော်။

ဓမ္မဋ္ဌော - အငြိမ်းဓာတ်သဘောထဲ၌ ကောင်းစွာတည်သည် ဖြစ်၍။

သင်္ချံ - လူခေါ် နတ်ခေါ် ဗြဟ္မာခေါ် ဘုရားရဟန္တာ ခေါ်ဝေါ်ခြင်းသို့။

န ဉပေတိ

(နောပေတိ-န ဉပေတိ) - မရောက်တော့ပေ။

ဒီဋီကာပါဠိကို ထောက်ဆလိုက်ပြန်တော့လည်း ကိလေသာကုန်ခန်း ရဟန္တာပုဂ္ဂိုလ်များ ပရိနိဗ္ဗာန် စံဝင်တဲ့အခါ အငြိမ်းဓာတ်သဘောသာ ကျန်ရှိပါတယ်။ လူ၊ နတ်၊ ဗြဟ္မာ၊ ဘုရား၊ ရဟန္တာတွေ မရှိတော့တဲ့အတွက် လူခေါ်-နတ်ခေါ်-ဗြဟ္မာခေါ်-ဘုရားခေါ်-ရဟန္တာခေါ်ဝေါ်ခြင်း၊ သုံးစွဲခြင်းငှာ မဖြစ်နိုင်တော့ကြောင်းကို ပေါ်လွင်စေပါတယ်။

ဒကာ-ဒကာမတို့ ဉာဏ်ထဲမှာကော ရှင်းကြပါရဲ့လား။

(ရှင်းပါတယ်ဘုရား)

နိဗ္ဗာန်သည် ရှိပါသလားလို့မေးရင် ဘယ်လိုဖြေကြမလဲ။

(ရှိပါတယ်လို့ ဖြေမှာပါဘုရား)

နိဗ္ဗာန်သည် ဘယ်သဘောရှိသလဲလို့ မေးရင် ဘယ်လိုဖြေကြမလဲ။

(ရုပ်ခတ် နာမ်ခတ်တွေ ချုပ်ငြိမ်းတဲ့သဘောရှိပါတယ်လို့ ဖြေရမှာပါဘုရား)

နိဗ္ဗာန်မှာ ဘာတွေရှိပြီး ဘာတွေမရှိသလဲလို့မေးရင် ဘယ်လိုဖြေကြမလဲ။

(နိဗ္ဗာန်မှာ အငြိမ်းခတ်သက်သက်သာရှိပြီး ရုပ်သဘော၊ နာမ်သဘောတွေ မရှိပါဘူးလို့ ဖြေဆိုရမှာပါဘုရား)

(သာသနဓဇ ဓမ္မာစရိယ-အရှင်ဉာဏောဘာသ
ဟောကြားတော်မူသော နိဗ္ဗာန်ရှာနည်း နိဿရည်းစာအုပ်၊
စာမျက်နှာ ၁၅၆၊ ၁၅၇၊ ၁၅၈ တို့မှ
ကောက်နုတ်ဖော်ပြပါသည်။



## ကျမ်းကိုးစာရင်း

၁။ အဘိဓမ္မာပိဋကကာ ဝိဘင်္ဂပါဠိတော်
၂။ အင်္ဂုတ္တရပါဠိတော် အဋ္ဌကထာ
၃။ အနာဂတဝင်ကျမ်း
၄။ ဇာတက အဋ္ဌကထာ
၅။ တိုယာပိဋက အဋ္ဌကထာ
၆။ ဇာတက အဋ္ဌကထာ (ငါးရာ့ငါးဆယ်ဇာတ်တော်)
၇။ ဓမ္မပဒပါဠိတော်၊ အဋ္ဌကထာ
၈။ နေမိဇာတ်တော်
၉။ မိလိန္ဒပဉှာ
၁၀။ ဝိသုဒ္ဓိမဂ် (မြန်မာပြန်)
၁၁။ သံယုတ်ပါဠိတော် အဋ္ဌကထာ
၁၂။ သံဝေဂဝတ္ထု ဒီပနီကျမ်း
၁၃။ ပဏ္ဍိတဝေဒနီယကျမ်း
၁၄။ မော်လမြိုင် တောင်ပေါက်ဆရာတော်
ဗုဒ္ဓသာသနိက ပထဝီကျမ်းကြီး
၁၅။ အရှင်ဇနကာဘိဝံသ
လင်္ကြိုလ်ဘာသာဋီကာ၊
ပရိတ်ကြီးပါဠ်၊ နိဿယ
ပရိတ်တရားတော်များ

၁၆။ ထီးချိုင့်တည်တောဆရာတော်

၁။ ဘဝချမ်းသာမှု

၂။ ယနေ့ ဗုဒ္ဓဝါဒဆိုင်ရာ အမေးအဖြေများ

၁၇။ အရှင်ဩဘာသဘိဝံသ (သုတေသန သရုပ်ပြအဘိဓာန်)

၁၈။ ဒဂုန်ဦးထွန်းမြင့် (ပါဠိသက်ဝေါဟာရ အဘိဓာန်)

၁၉။ ဓမ္မာစရိယဦးအေးနိုင် (ဘီအေ)

ဗုဒ္ဓအဘိဓမ္မာ မဟာနိဒါန်း

၂၀။ အရှင်ဉာဏောဘာသ

နိဗ္ဗာန်ရှာနည်း နိဿရည်း

၂၁။ ဒေါ်မိမြေ့သီ (သရုပ်ပြသင်္ဂြိုလ်)

၂၂။ တက္ကသိုလ်သျှင်သီရိ

၁။ ငရဲဟူသည်

၂။ ပြိတ္တာလောကဖြစ်ရပ်ဆန်းများ

၂၃။ သာသနာရေးဝန်ကြီးဌာန၊ သာသနာထွန်းကားပြန့်ပွားရေး၊

ဗုဒ္ဓဘာသာကောင်းတစ်ယောက်

၂၄။ ၃၁ ဘုံအကြောင်း သိကောင်းစရာ (ပညာအလင်းပြ)

